

# ဗုဒ္ဓခေတ်

# တစ်မိုးအောက် တစ်ယောက်ပုဂ္ဂိုလ်ကျော်များ

[ တတိယတွဲ ]

## အရှင်နေမိန္ဒာဘိဝံသ

(စုစည်းပူဇော်သည်)

ဖြန့်ချိရေး

တာနုဒီစာအုပ်တိုက်

၀၉ ၅၀၇ ၁၁၉၆၊ ၀၉ ၅၀၇ ၁၁၉၇

**ထုတ်ဝေသူ**



ဒေါ်ရည်မွန်မျိုး (စာနဒီစာအုပ်တိုက်)

မြဲ - ၀၀၂၄၄

အမှတ် - ၉၇၃၊ ပျဉ်းမမြိုင်လမ်း၊

၃၄ - ရပ်ကွက်၊ မြောက်ဒဂုံမြို့နယ်၊ ရန်ကုန်။

**ပုံနှိပ်သူ**



ဒေါ်ကြည်ပြာသွယ် (ဝင်းတိုးအောင်အော့ဖ်ဆက်)

မြဲ - ၀၀၄၂၀

အမှတ် - ၁၈၁၊ ၅၀ လမ်း၊

ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်။

**မျက်နှာဖုံးဒီဇိုင်း**



ဗဂျီလင်းဝဏ္ဏ

**အတွင်းအပြင်အဆင်**



Ahlineain media

Ph - 09449004209

09798437563

**ပထမအကြိမ်၊ အောက်တိုဘာလ၊ ၂၀၂၀ ခုနှစ်**

အုပ်ရေ - ၃၀၀၀

တန်ဖိုး - ၃၅၀၀

# မာတိကာ

*



# နိဒါန်းစကား

ဇေတဒဂ်အမှတ်စဉ် ၃၇ ကနေ ၄၇ အထိ ရဟန္တာမထေရ်မြတ် ၁၁ ပါးတို့ရဲ့ အကြောင်းအရာ အတ္ထုပ္ပတ်ကို “ဗုဒ္ဓခေတ် တစ်မိုးအောက် တစ်ယောက်ပုဂ္ဂိုလ်ကျော်များ (တတိယတွဲ)”အဖြစ် စာဖတ်သူတို့ရဲ့ လက်ဝယ်ကို အရောက်ပို့လိုက်ပြန်ပါပြီ။

မြတ်စွာဘုရား သာသနာတော်မှာ ဧတဒဂ်ဘွဲ့ရ ပုဂ္ဂိုလ်ပေါင်း ၇၄ ပါး ရှိပြီး၊ ဧတဒဂ်ဘွဲ့ပေါင်းကတော့ ၈၀ ရှိပါတယ်။ အဲဒီထဲမှာ ဧတဒဂ်ရ မထေရ်မြတ် အရေအတွက်က ၄၁ ပါး ရှိတာပါ။ ဧတဒဂ် တစ်ဘွဲ့စီရ မထေရ်တွေက ၃၈ ပါးရှိပြီး၊ ဧတဒဂ်နှစ်ဘွဲ့ရ မထေရ်က ၂ ပါးနဲ့ ဧတဒဂ် ငါးဘွဲ့ရ မထေရ်က ၁ ပါး ဖြစ်ပါတယ်။ မထေရ် မြတ်တွေ ရတဲ့ ဧတဒဂ်ဘွဲ့အနေနဲ့တော့ ၄၇ ဘွဲ့ရှိပါတယ်။ အခု တတိယတွဲအထိဆိုရင် ဧတဒဂ်ရ မထေရ်မြတ် အားလုံးစုံသွားပါပြီ။

ဆက်လက်ပြီး ဧတဒဂ်ရ ထေရီမ ၁၃ ပါးအကြောင်းကို စတုတ္ထတွဲ၊ ဧတဒဂ်ရ အမျိုးသား ဥပါသကာ ၁၀ ဦးနဲ့ အမျိုးသမီး ဥပါသိကာမ ၁၀ ဦး အကြောင်းကို ပဉ္စမတွဲအနေနဲ့ ရေးသား သွားပါ မယ်။ ကျေးဇူးတော်ရှင် ဓမ္မဘေရီဆရာတော်, မန္တလေး မစိုးရိမ် တိုက်သစ် မဟာနာယက ဓမ္မာဓိပတိ ဆရာတော်, အရှင်ရဝေနွယ် (အင်းမ)တို့ကလည်း ပြီးဆုံးအောင် ရေးဖို့ တိုက်တွန်းနေတာကြောင့် ဒီ ၁၃၈၂ ခုနှစ်အတွင်း အားလုံး ပြီးအောင် ရေးဖို့ ရည်မှန်းထား ပါတယ်။ စိတ်ရှည်လက်ရှည်နဲ့ စောင့်မျှော်ပေးကြတဲ့ စာဖတ်ပရိသတ် များကိုလည်း ကျေးဇူးအထူးတင်ပါတယ်။

ဒီ တတိယတွဲ စာအုပ် ရိုက်နှိပ်ထုတ်ဝေရန်အတွက် မ,တည် လှူဒါန်းပေးကြတဲ့ ရဟန်း ဒါယကာ, ဒါယိကာမများနဲ့ အလှူရှင် အားလုံးတို့လည်း မထေရ်မြတ်တွေ သိမြင်တဲ့ ဗောဓိဉာဏ်ထူး ဉာဏ် မြတ် ဉာဏ်ဓာတ် ဉာဏ်အလင်းတွေ ရရှိပြီး သန္တိသုခ နိဗ္ဗာနဓာတ်ကို လျှင်မြန်စွာ ရရှိနိုင်ကြပါစေ။

အနန္တဂိုဏ်းဝင် ကျေးဇူးရှင် ဆရာမထေရ်များကိုလည်း ဒီစာရေးသားတဲ့ ကုသိုလ်များဖြင့် ထာဝစဉ် ဦးခိုက်ပူဇော်ပါ၏ဘုရား။ ဣဒံ နော ပုညံ ဗောဓိယာ ပစ္စယော ဟောတု။

**အရှင်နေမိန္ဒာဘိဝံသ**
**(၃၀-၇-၂၀၂၀)**



### အခြံအရံများတဲ့အရာ အသာဆုံး

### မဟာပရိသာဧတဒဂ်ရ

## အရှင်ဥရုဝေလကဿပ မထေရ်

လောကမှာ အောင်မြင်မှုကို လူတိုင်း လိုချင်ကြပါတယ်။ ဒါပေမဲ့ မိမိ လိုချင်တဲ့ အောင်မြင်မှုကို လူတိုင်း အလွယ်တကူ ရကြတာတော့ မဟုတ်ပါဘူး။ အခက်အခဲမျိုးစုံ အတားအဆီးမျိုးစုံကို ကျော်ဖြတ်ပြီးမှ ရတတ်ကြတာ များပါတယ်။ သာဓကတွေ ဖြည့်ရမည့်

ပါရမီတွေ အပြည့်အစုံ ဖြည့်ပြီးတဲ့ မထေရ်မြတ်တွေတောင်မှ အခက်အခဲ၊ အတားအဆီးမျိုးစုံ ကြုံရတတ်ပါတယ်။

မြတ်စွာဘုရားရှင်ဟာ ဥရုဝေလကဿပမထေရ်လောင်း ရသေ့ကို စိတ်ထားတွေ နူးညံ့လာစေဖို့ အတွက် ကရုဏာတရား ကြီးမားစွာနဲ့ စိတ်ရှည်လက်ရှည် တန်ခိုးအမျိုးမျိုးပြပြီး ဆုံးမပေမယ့် သူဟာ တော်တော်နဲ့ မာန်မကျခဲ့ပါဘူး။ အကြောင်းကတော့ သူ့မှာ ရှိနေတဲ့ လာဘ်လာဘ အခြံအရံ အကျော်အစောတွေ မြတ်စွာဘုရားထံ ရောက်သွားမှာ၊ ရသွားမှာကို မလိုလားတဲ့ ဣဿာနဲ့ သူဟာ တပည့် ပေါင်းများစွာရဲ့ အကြီးအကဲ ဖြစ်တယ်၊ လူပေါင်းများစွာက သူ့ကို ကြည်ညိုဆည်းကပ်ကြတယ်လို့ အထင်ကြီးနေတဲ့ မာန၊ ဒီအကုသိုလ် တရား နှစ်မျိုးက ပိတ်ပင်တားဆီးနေတဲ့အတွက်ကြောင့်ပဲ ဖြစ်ပါတယ်။ သူဟာ မြတ်စွာဘုရားရဲ့ တန်ခိုးအာနုဘော်ကြီးမားတာကို လက်တွေ့ မြင်နေ တွေ့နေရပေမယ့် ဣဿာနဲ့ မာန ခံနေတာမို့ မြတ်စွာဘုရားကို လွယ်လင့်တကူ ဦးမညွှတ်ခဲ့ပါဘူး။ သူသာ ရဟန္တာ ဖြစ်တယ်၊ မြတ်စွာဘုရားဟာ သူ့လို ရဟန္တာ မဟုတ်ဘူးလို့ အခြောက်တိုက် အထင်ရောက်ပြီး ဘဝင်မြင့်နေတဲ့သူပါ။

မြတ်စွာဘုရားက သူ့ကို "သင်ဟာ ရဟန္တာလည်း မဟုတ် သေးဘူး၊ အရဟတ္တမဂ်လည်း မရသေးဘူး၊ ယုတ်စွအဆုံး ရဟန္တာ ဖြစ်နိုင်တဲ့၊ အရဟတ္တမဂ် ရနိုင်တဲ့ အကျင့်တောင် သင့်မှာ မရှိသေး ဘူး" လို့ မိန့်လိုက်ခါမှ မာန်ကျသွားပြီး မြတ်စွာဘုရားထံမှာ ရဟန်း ဝတ်လိုက်ပါတော့တယ်။ ဆက်ပြီး မြတ်စွာဘုရား ဟောကြားတဲ့ တရားကို နာ၊ တရားတွေ ကျင့်လိုက်မှ ရဟန္တာဖြစ်ပြီး အောင်မြင်မှု ပန်းတိုင်ကို ရောက်သွားပါတော့တယ်။

ဥရုဝေလကဿပမထေရ်မြတ်ရဲ့ အကြောင်းကို ကြည်ညို ရတဲ့ အခါ မြတ်စွာဘုရားရှင်ရဲ့ မဟာကရုဏာတော် ကြီးမားပုံ၊ ခန္တီ

တရား အားကြီးပုံ၊ ဘုန်းတန်ခိုး အာနုဘော် ကြီးမားပုံတွေကို စုံလင်စွာ သိရှိပြီး ကြည်ညိုသဒ္ဓါစိတ်တွေ ယိုဖိတ်လာမှာ အမှန်ပါ။ ဘဝမှာ အောင်မြင်မှုတွေ ရချင်တယ်ဆိုရင် မနာလိုတဲ့ ဣဿာ၊ အခြောက်တိုက် ဘဝင်မြင့်နေတဲ့ မာနတွေကို ဖယ်ရှားနိုင်မှ ဖြစ်မယ် ဆိုတဲ့ အဖိုးတန် ဘဝအသိတွေလည်း ရနိုင်မှာ ဖြစ်ပါတယ်။

## (က) အရှင်မြတ်ရတဲ့ ဧတဒဂ်နဲ့ နာမည် အဓိပ္ပာယ်

အရှင်မြတ်ဟာ ပရိသတ် အခြံအရံ များစွာရှိတဲ့သူတွေထဲမှာ အသာဆုံး ဖြစ်တာမို့ မဟာပရိသဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။ အရှင်သာရိပုတ္တရာ စတဲ့ အခြား မထေရ်တွေမှာ တစ်ခါတလေ အခြံအရံ ပရိသတ် အများကြီး ရှိတယ်၊ တစ်ခါတလေမှာတော့ နည်းနည်းလေးပဲ ရှိတယ်။ ဒီ အရှင်ဥရုဝေလကဿပမထေရ်မှာတော့ ညီတော် နှစ်ပါး အပါအဝင် အမြဲတမ်း ရဟန်းတစ်ထောင် ခြံရံလျက် ရှိပါတယ်။ အဲဒီ ရဟန်းတစ်ထောင်ထဲမှာ တစ်ပါး တစ်ပါးစီက တပည့် ရဟန်း တစ်ပါး တစ်ပါးစီ ရှင်ရဟန်းဝတ်ပေးတယ် ဆိုရင်ပဲ အခြံအရံ ပရိသတ် နှစ်ထောင် ရှိသွားပါတယ်။ တပည့်ရဟန်း နှစ်ပါး နှစ်ပါးစီလောက် ရှင်ရဟန်းပြုပေးကြမယ်ဆိုရင် အခြံအရံ ပရိသတ် သုံးထောင် အထိ ရှိသွားမှာပါ။ ဒါကြောင့် အရှင်ဥရုဝေလကဿပမထေရ်ဟာ တပည့်ပရိသတ် အခြံအရံ များစွာ ရှိသူတွေထဲမှာ အသာဆုံးပုဂ္ဂိုလ်ဆိုတဲ့ ဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

ကဿပ ဆိုတာ အရှင်မြတ်ရဲ့ မျိုးနွယ်အရ ခေါ်တဲ့ အမည်နာမဖြစ်ပြီး ဥရုဝေလတောမှာ ရဟန်းဝတ်တာမို့ 'ဥရုဝေလကဿပ'လို့ အမည်တွင်လာတာ ဖြစ်ပါတယ်။

## (ခ) အတိတ်က ပါရမီဖြည့်ပုံနဲ့ ဆုတောင်း

အရှင်မြတ် အလောင်းတော်လည်း ပဒုမုတ္တရ မြတ်စွာဘုရားရှင် လက်ထက် ဟံသာဝတီ မင်းနေပြည်က သူဌေးသူကြွယ်မျိုးမှာ ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့ အခါ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာယူနေစဉ်မှာပဲ မြတ်စွာဘုရားရှင်က ရဟန်းတစ်ပါးကို ပရိသတ်အခြံအရံအများဆုံး ဧတဒဂ်ရာထူး ပေးတာကို ဖူးတွေ့လိုက်ရတယ်။ ဒီအခါ အဲဒီ ရဟန်းကို အားကျပြီး သူလည်း နောင်တစ်ဆူသော ဘုရားသာသနာမှာ ဒီလိုမျိုး ဧတဒဂ်ဆု ရယူလိုတဲ့ စိတ်ဆန္ဒတွေ ဖြစ်ပေါ်လာခဲ့တယ်။ ဒါနဲ့ အရှင်မြတ်အလောင်းတော်ဟာ ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး ခုနစ်ရက် ခုနစ်လီ အလွန်ကြီးကျယ်တဲ့ အလှူကြီးကို ပေးလှူခဲ့တယ်။ ခုနစ်ရက် ပြည့်တဲ့ နေ့မှာတော့ ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို တိစီဝရိတ် (သင်္ကန်းသုံးထည်) တစ်စုံစီ လှူဒါန်းပြီး ပဒုမုတ္တရ မြတ်စွာဘုရားထံမှာ သူ ရလိုတဲ့ ဧတဒဂ်ဆုကို တောင်းခဲ့ပါတယ်။ ပဒုမုတ္တရ ဘုရားရှင်က အနာဂတံသဉာဏ်တော်နဲ့ ကြည့်လိုက်တဲ့ အခါ အရှင်မြတ်အလောင်းရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူတဲ့ အတွက် "သင်ဟာ နောင်အနာဂတ် ဂေါတမမြတ်စွာဘုရားရှင်ရဲ့ သာသနာတော်မှာ အခြံအရံပရိသတ်များစွာ ရှိသူတွေထဲမှာ အသာဆုံး ပုဂ္ဂိုလ် ဖြစ်လိမ့်မယ်" လို့ ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

## ဖုဿဘုရားရှင်လက်ထက် ပါရမီဖြည့်ပုံ

အရှင်မြတ်အလောင်း အမျိုးကောင်းသားလည်း ဗျာဒိတ်စကား ကြားရပြီးတဲ့နောက် ဒါန၊ သီလ စတဲ့ ကုသိုလ်ကောင်းမှုတွေကို အသက်ထက်ဆုံး ပြုလုပ်ခဲ့တယ်။ အဲဒီ ဘဝက ကွယ်လွန်ပြီးတဲ့နောက် လူ့ပြည်၊ နတ်ပြည်တွေမှာ စုန်ချည်ဆန်ချည် ဖြစ်ခဲ့တယ်။ ဒီကမ္ဘာကနေ

နောက်ပြန်ရေတွက်လို့ ၉၂ ကမ္ဘာထက် ရောက်တဲ့ အခါ ဖုဿ ဘုရားရှင် ပွင့်တော်မူခဲ့ပါတယ်။ ဒီအခါ အရှင်မြတ်အလောင်းဟာ ဖုဿဘုရားရှင်ရဲ့ အဖေတူ အမေကွဲ ညီတော်မင်းသား ဖြစ်လာခဲ့ ပါတယ်။ ဖခမည်းတော်က မဟိန္ဒမင်းကြီး ဖြစ်ပါတယ်။ သူ့မှာ အခြား ညီတော်မင်းသား နှစ်ယောက်လည်း ရှိပါတယ်။

ညီနောင်မင်းသား သုံးယောက်ဟာ ခမည်းတော် မဟိန္ဒ မင်းကြီးထံမှ ရာထူးဌာနန္တရ ကိုယ်စီ ရရှိကြပြီး တစ်ခါမှာတော့ တိုင်းပြည် နယ်စွန်နယ်ဖျား ပုန်ကန်ထကြွမှု ဖြစ်ပေါ်လာတဲ့အတွက် သူပုန်သူကန် နှိမ်နင်းဖို့ စစ်တိုက်ထွက်ကြရပါတယ်။ သူပုန်များကို နှိမ်နင်းပြီး နယ်မြေ အေးချမ်းအောင် ဆောင်ရွက်နိုင်တဲ့ အတွက် ခမည်းတော်မင်းကြီးထံကနေ နောင်တော် ဖုဿမြတ်စွာဘုရားကို ဝါတွင်းသုံးလ ပြုစုလုပ်ကျွေး ဆွမ်းလှူဒါန်းခွင့်ဆိုတဲ့ ဆုကို ရခဲ့ ပါတယ်။ (တကယ်တော့ ဒီဆုကို ရဖို့ မလွယ်ပါဘူး။ အဲဒီတုန်းက ဖုဿမြတ်စွာဘုရား အမှူးပြုတဲ့ သံဃာတော်များကို မဟိန္ဒမင်းကြီးပဲ လှူဒါန်းပြုစုနေတဲ့ အချိန်အခါ ဖြစ်ပါတယ်။)

မင်းသားသုံးယောက်ဟာ ဝါတွင်းသုံးလ ကာလပတ်လုံး နောင်တော် ဖုဿမြတ်စွာဘုရား အမှူးပြုတဲ့ သံဃာတော်များကို ဆွမ်းကွမ်းဆက်ကပ်လှူဒါန်းရေး စတဲ့ တာဝန်တွေကို အမတ် သုံးယောက်နဲ့ စီစဉ်လွှဲအပ်လိုက်ပြီး သူတို့ကိုယ်တိုင်က ဆယ်ပါးသီလ ဆောက်တည်ကာ သီလသိက္ခာပုဒ်တွေကို စောင့်ထိန်းခဲ့ပါတယ်။ ဝါကျွတ်တဲ့ အခါမှာတော့ ဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို လှူဖွယ်ပစ္စည်းဝတ္ထုမျိုးစုံနဲ့ ပူဇော်လှူဒါန်းခဲ့ပါတယ်။ အဲဒီ ကုသိုလ်ပွဲမှာ ဝေယျာဝစ္စကုသိုလ်ယူ ဆောင်ရွက်ခဲ့ကြတဲ့ အမတ်သုံးယောက်က ဒီ ဂေါတမမြတ်စွာဘုရားသာသနာမှာ ဗိမ္ဗိသာရမင်း၊ ဝိသာခသူဌေး၊ အရှင်ရဋ္ဌပါလမထေရ်ရယ်လို့ အသီးသီး ဖြစ်လာခဲ့ကြပါတယ်။

## (ဂ) ပစ္စုပ္ပန်ဘဝ ဇာတ်ကြောင်းနဲ့ ရဟန်းပြုကြပုံ

ကုသိုလ်ရှင် မင်းသား သုံးယောက်လည်း အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကောင်းမှုကုသိုလ်တွေ ဆည်းပူး အားထုတ်ခဲ့ပြီး ဂေါတမမြတ်စွာဘုရား ပွင့်တော်မမူခင် ရှေးဦးကာလအချိန်မှာပဲ ပုဏ္ဏား မျိုးမှာ ဖြစ်လာခဲ့ကြပါတယ်။ သုံးယောက်လုံးရဲ့ နာမည်ကို မျိုးနွယ် ရိုးရာအတိုင်း 'ကဿပ' လို့ပဲ အသီးသီး မှည့်ခေါ်ခဲ့ကြပါတယ်။ အရွယ်ရောက်တဲ့ အခါ ဗေဒင်သုံးပုံ သင်ကြား တတ်မြောက်ခဲ့ကြတယ်။ ဒီ ကဿပ ပုဏ္ဏားညီနောင် သုံးယောက်အနက် အစ်ကိုအကြီးဆုံးမှာ တပည့်လုလင် ၅၀၀ အခြံအရံ ရှိခဲ့ပါတယ်။ အလတ်တစ်ယောက် မှာတော့ တပည့်လုလင် ၃၀၀၊ အငယ်ဆုံးတစ်ယောက်မှာတော့ တပည့်လုလင် ၂၀၀ အခြံအရံကိုယ်စီ ရှိခဲ့ကြပါတယ်။

## ကဿပညီနောင် သုံးဦးတို့ ရသေ့ရဟန်းပြု

သူတို့ သုံးယောက်ဟာ မိမိတို့ သင်ကြားတတ်မြောက်ထားတဲ့ ဗေဒင်သုံးပုံမှာ အနှစ်သာရ ရှာကြည့်တဲ့ အခါ ဒီပစ္စုပ္ပန် တစ်ဘဝ ကောင်းစားရေးအတွက်ပဲ တွေ့ခဲ့ကြပြီး တမလွန်ဘဝ ကောင်းစားရေးနဲ့ အဆင့်မြင့် ပရမတ္ထအကျိုးတရားတွေကို ရှာမတွေ့ခဲ့ကြဘူး။ ဒါကြောင့် အစ်ကိုအကြီးဆုံး ကဿပက သူ့တပည့်တွေနဲ့အတူ ဥရုဝေလတောဆီ သွားပြီး ရသေ့ရဟန်း ဝတ်ခဲ့ပါတယ်။ ဒါကြောင့်ပဲ သူ့နာမည်က 'ဥရုဝေလကဿပ' လို့ တွင်ခဲ့တယ်။ အလတ် ကဿပလည်း သူ့တပည့်တွေနဲ့အတူ ဂင်္ဂါမြစ်အောက်ပိုင်း မြစ်ကွေ့နားမှာ ရသေ့ရဟန်း ဝတ်ခဲ့ပြီး 'နဒီကဿပ' လို့ အမည်တွင်ခဲ့ပါတယ်။ ဒီ့အတူပဲ အငယ်ဆုံး ကဿပလည်း သူ့တပည့်တွေနဲ့အတူ ဂယာသီသအရပ် သွားပြီး ရသေ့ရဟန်း ဝတ်ခဲ့တယ်၊ ဒါကြောင့် 'ဂယာကဿပ'လို့ နာမည်တွင်ခဲ့ပါတယ်။

## မြတ်စွာဘုရား ပွင့်တော်မူ

ဥရုဝေလကဿပ၊ နဒီကဿပ၊ ဂယာကဿပ ညီနောင်တို့ ဥရုဝေလတောတန်းဝန်းကျင်မှာ ရသေ့ရဟန်းပြုပြီး နေထိုင်နေကြတာ အတော်လေး ကြာသွားတဲ့ အချိန်မှာ အကျွန်ုပ်တို့ရဲ့ ဘုရားအလောင်းတော်ဟာ တောထွက်ပြီး တရားကျင့်တော်မူခဲ့တယ်။ ခြောက်နှစ်အကြာမှာပဲ သဗ္ဗညုတဉာဏ်တော် ရရှိပြီး ဘုရားအဖြစ်သို့ ရောက်တော်မူခဲ့ပါတယ်။ မြတ်စွာဘုရား ဘုရားဖြစ်တော်မူပြီးတဲ့ အခါ ပဉ္စဝဂ္ဂီငါးပါးတို့ကို ဓမ္မစကြာနဲ့ အနတ္တလက္ခဏာသုတ်တော်များ ဟောကြားပြီး အရဟတ္တဖိုလ်မှာ တည်စေကာ ရဟန္တာဖြစ်အောင် ချီးမြှောက်တော်မူခဲ့တယ်။ အဲဒီ နောက်မှာတော့ ယသသူဌေးသား အမှူးပြုတဲ့ သူငယ်ချင်း ၅၅ ယောက်ကိုလည်း သစ္စာလေးပါး တရားရေအေး အမြိုက်ဆေးများ တိုက်ကျွေးပြီး ရဟန္တာဖြစ်အောင် ဆုံးမတော်မူခဲ့ပါတယ်။

## သာသနာပြုခရီး စေလွှတ်

ဝါကျွတ်ပြီးတဲ့ အခါ မြတ်စွာဘုရားရှင်ဟာ ရဟန္တာဖြစ်ပြီးတဲ့ အရှင်မြတ် ခြောက်ကျိပ်ကို လူအများ ဓမ္မစီးပွား ဓမ္မချမ်းသာ ဖြစ်ပွားစေရန်နဲ့ နတ်လူအများ ချမ်းသာသုခ ရရှိစေရန် ရည်သန်ပြီး သာသနာပြုခရီး ကြွချီကြဖို့ တိုက်တွန်းတော်မူခဲ့ပါတယ်။ လမ်းခရီး တစ်ကြောင်းတည်း နှစ်ပါး မကြွဖို့နဲ့ ရောက်တဲ့ အရပ်တိုင်းမှာ အစ၊ အလယ်၊ အဆုံး သုံးပါးလုံး ကောင်းခြင်းဂုဏ်နဲ့ ပြည့်စုံတဲ့ တရားဒေသနာကို ဟောပြောကြဖို့၊ မြင့်မြတ်တဲ့ ဗြဟ္မစရိယအကျင့်ကို ပြကြဖို့ လမ်းညွှန်စကား မိန့်ကြားတော်မူခဲ့ပါတယ်။ မြတ်စွာဘုရား ကိုယ်တော်တိုင်လည်း ဥရုဝေလ တောတန်းဆီ အဖော်မမှီး တစ်ပါးတည်း သာသနာပြုခရီး ကြွချီတော်မူခဲ့ပါတယ်။

လမ်းခရီးမှာ မိန်းမပျောက်လို့ အရှာထွက်လာကြတဲ့ ဘဒ္ဒဝဂ္ဂီ ညီနောင် သုံးကျိပ်ကို "မိန်းမပျောက် ရှာတာနဲ့ ကိုယ့်ကိုယ်ကို ရှာတာ ဘယ်ဟာက ပိုကောင်းမြတ်သလဲ" လို့ မိန့်ကာ အသိအမြင်မှန် ရစေခဲ့ပြီး သစ္စာတရား ဟောကြားကာ အောက်မဂ်၊ အောက်ဖိုလ် ခေါ်တဲ့ လောကုတ္တရာ တရားထူးတွေ ရစေတော်မူခဲ့ပါတယ်။ အဲဒီ နောက် မြတ်စွာဘုရား သာသနာပြုခရီး ဆက်လက် ကြွချီတော်မူခဲ့တာ ဥရုဝေလတောမှာ နေတဲ့ ဥရုဝေလကဿပရသေ့ဆီ ရောက်ရှိခဲ့ ပါတယ်။

## ဥရုဝေလကဿပရသေ့ ချေချွတ်ခန်း
## (၁) အဆိပ်ပြင်းတဲ့ နဂါးကြမ်းကြီးကို နှိမ်နင်းတော်မူပုံ

မြတ်စွာဘုရား ဥရုဝေလကဿပရသေ့ဆီ ရောက်သွားပြီး တဲ့အခါ ဥရုဝေလရသေ့ရဲ့ သင်္ခမ်းကျောင်းအနီးက မီးတင်းကုပ်မှာ တစ်ညတာ တည်းခိုခွင့်ပြုဖို့ ခွင့်တောင်းပါတယ်။ ဒီအခါ ရသေ့က သူ့မှာ အပန်းမကြီးပါကြောင်း၊ ဒါပေမဲ့ အဲဒီ မီးတင်းကုပ်ထဲမှာ ကြမ်းတမ်းပြီး အဆိပ်ပြင်းတဲ့ နဂါးကြီးရှိတဲ့ အကြောင်း ပြောပါတယ်။ မြတ်စွာဘုရားက "ကိစ္စမရှိပါဘူး၊ သင့်ရဲ့ နဂါးကြီးက ငါ့ကို မညှဉ်းဆဲ နိုင်ပါဘူး၊ ခွင့်ပြုမှာသာ ပြုပါ" လို့ မိန့်တော်မူပါတယ်။ ရသေ့ကလည်း "ရဟန်းကြီး··· ဒါဆိုလည်း ချမ်းသာသလို နေနိုင်ပါတယ်" လို့ ခွင့်ပြုခဲ့ပါတယ်။

ဒါနဲ့ မြတ်စွာဘုရားရှင်ဟာ မီးတင်းကုပ်ထဲ ဝင်၊ မြက်အခင်း လေး ခင်းပြီး တင်ပလ္လင်ခွေ ထိုင်ကာ တရားမှတ်နေလိုက်ပါတယ်။ မီးတင်းကုပ်ထဲမှာ ရှိတဲ့ နဂါးလည်း မြတ်စွာဘုရားကို မြင်ပြီး ဒေါသထွက်ကာ အဆိပ်အခိုးတွေ လွှတ်လိုက်တယ်။ မြတ်စွာဘုရားက နဂါးရဲ့ အရေတွေ၊ အသားတွေ၊ အကြောတွေ၊ အရိုးနဲ့ ရိုးတွင်းခြင်ဆီ တွေကို မထိခိုက်အောင် အဓိဋ္ဌာန်ပြီး တန်ခိုးနဲ့ အဆိပ်အခိုးတွေ

ပြန်လွှတ်ခဲ့ပါတယ်။ ဒီအခါ နဂါးကြီး ပိုလို့တောင် စိတ်ဆိုးသွားပြီး မီးတောက်မီးလျှံတွေ လွှတ်ခဲ့တယ်။ မြတ်စွာဘုရားလည်း တေဇော ကသိုဏ်းဝင်စားပြီး မီးတောက်မီးလျှံတွေ ပြန်လွှတ်ခဲ့ပါတယ်။

နဂါးနဲ့ မြတ်စွာဘုရားတို့ရဲ့ မီးတောက်မီးလျှံတွေကြောင့် မီးတင်းကုပ်ဟာ မီးဟုန်းဟုန်း တောက်လောင်သလိုမျိုး ဖြစ်သွား တယ်။ ပတ်ဝန်းကျင် တစ်ခွင်လုံးလည်း မီးတွေ လင်းထိန်သွားတယ်။ ဒီအခါ ရသေ့ငါးရာလည်း ကပျာကယာ ပြေးထွက်လာကြပြီး မီးတင်းကုပ်ကို ဝန်းရံကာ "ဩော်… အလွန်အဆင်းလှတဲ့ ရဟန်းကြီး ကို နဂါးကြီးက ညှဉ်းဆဲနေပါပေါ့လား" လို့ အော်ဟစ်ပြောဆို နေခဲ့ကြတယ်။ နံနက်မိုးသောက် အလင်းရောက်တဲ့ အခါ မြတ်စွာ ဘုရားရှင်ဟာ နဂါးကြီးရဲ့ အဆိပ်အခိုးတွေကို တန်ခိုးတော်နဲ့ ကုန်ခန်း အောင် ပြုပြီး နဂါးကြီးကို သပိတ်ထဲ ထည့်ကာ ဥရုဝေလကဿပ ရသေ့ကို "ကဿပ… ဒါ သင့်ရဲ့ နဂါးကြီးပဲ၊ သူ့မှာ အဆိပ်အခိုးတွေ မရှိအောင် လုပ်ထားလိုက်ပြီ" လို့ မိန့်တော်မူပြီး ပြတော်မူလိုက် ပါတယ်။

ဒီအခါ ဥရုဝေလကဿပရသေ့မှာ 'ဩော်… ဒီရဟန်းကြီး ဟာ အတော်လည်း တန်ခိုး အာနုဘော် ကြီးမားပါပေတယ်၊ ဒီလောက် ကြမ်းလည်းကြမ်း၊ အဆိပ်လည်း အလွန်ပြင်းတဲ့ နဂါးကြီးကို အဆိပ် တွေ ကုန်ခန်းသွားအောင် လုပ်နိုင်ပါပေတယ်၊ ဒါပေမဲ့ သူ ငါ့လိုတော့ ရဟန္တာ မဟုတ်ရှာသေးပါလား' လို့ တွေးထင်နေခဲ့တယ်။

ဒါနဲ့ ဥရုဝေလကဿပရသေ့ဟာ ဒီတန်ခိုးပြာဋိဟာကြောင့်ပဲ မြတ်စွာဘုရားအပေါ် ကြည်ညိုသွားပြီး မြတ်စွာဘုရားကို "ရဟန်းကြီး… ဒီမှာပဲ သီတင်းသုံးနေပါ၊ အကျွန်ုပ် သင့်ကို အမြဲတမ်း ဆွမ်းလုပ်ကျွေးပြီး ပူဇော်ပါ့မယ်" လို့ ဖိတ်မန် လျှောက်ထား ခဲ့ပါတယ်။

## (၂) နတ်မင်းကြီးလေးပါး တရားနာ လာရောက်

ဒီအခါ မြတ်စွာဘုရားရှင်ဟာ ဥရုဝေလကဿပရသေ့ရဲ့ ဖိတ်မန်လျှောက်ထားချက်ကို လက်ခံခဲ့ပြီး ရသေ့ရဲ့ သင်္ခမ်းကျောင်းနဲ့ မနီးမဝေးမှာရှိတဲ့ တောအုပ်ထဲမှာ သီတင်းသုံး နေတော်မူခဲ့ပါတယ်။ ညပိုင်းရောက်တဲ့အခါ နတ်မင်းကြီးလေးပါးတို့ဟာ သန်းခေါင်ယံ အချိန်မှာ ကိုယ်ရောင် ကိုယ်ဝါ တောက်ပစွာနဲ့ မြတ်စွာဘုရားထံ တရားနာဖို့ရန်အတွက် ရောက်လာခဲ့ပြီး မြတ်စွာဘုရားကို ရှိခိုးကန်တော့ ကာ မြတ်စွာဘုရားရဲ့ လေးဖက်လေးတန် အရပ်အသီးသီးမှာ ဝန်းရံ ရပ်တည်နေခဲ့ကြတယ်။ အဝေးကနေ ကြည့်ရင် သူတို့ရဲ့ ကိုယ်ရောင် ကိုယ်ဝါတွေက မီးပုံ အစုအဝေးကြီးလို ထင်ရပါတယ်။ မနက် မိုးသောက် အလင်းရောက်တဲ့ အခါ ဥရုဝေလကဿပရသေ့က "အို… ရဟန်းကြီး၊ ဆွမ်းစားချိန် ရောက်ပါပြီ၊ ဆွမ်း အဆင်သင့် စီမံပြီးပါပြီ၊ မနေ့ညက ကိုယ်ရောင်ကိုယ်ဝါ တောက်ပစွာနဲ့ လာကြတဲ့ သူတွေဟာ ဘယ်သူတွေပါလဲ"လို့ လျှောက်ထားမေးမြန်းခဲ့ပါတယ်။ မြတ်စွာဘုရားက "ကဿပ… မနေ့ညက လာရောက်တဲ့ သူတွေဟာ နတ်မင်းကြီး လေးယောက်ပါ၊ တရားနာဖို့ရန်အတွက် ငါ့ထံ လာကြ တာပါ"လို့ မိန့်တော်မူပါတယ်။

ဒီအခါမှာလည်း ဥရုဝေလကဿပရသေ့မှာ 'သြော်… ဒီရဟန်းကြီးဟာ အတော်လေး တန်ခိုးအာနုဘော် ကြီးမားလှပါ ပေတယ်၊ နတ်မင်းကြီးတွေတောင် သူ့ဆီ တရားနာ လာရသကိုး၊ အို… ဒါပေမဲ့လေ သူဟာ ငါ့လိုတော့ ရဟန္တာ မဖြစ်ရှာသေးဘူး'လို့ အတွေးဝင်ကာ ဘဝင်တွေ မြင့်နေခဲ့ပါတယ်။

**(၃) သိကြားမင်း၊**

**(၄) သဟမ္ပတိဗြဟ္မာမင်းတို့လည်း တရားနာ ရောက်လာ**

ထိုနည်းတူစွာပဲ နောက်ည သန်းခေါင်ယံမှာ တာဝတိံသာ နတ်ပြည်က သိကြားမင်း၊ အခြား နောက်ည သန်းခေါင်ယံမှာ ဗြဟ္မာပြည်က သဟမ္ပတိ ဗြဟ္မာမင်းတို့လည်း တရားနာဖို့ရန်အတွက် မြတ်စွာဘုရားထံ ရောက်လာ၊ ရှိခိုးကန်တော့ ဖူးမြော်ခဲ့ကြပါတယ်။

ဥရုဝေလကဿပရသေ့လည်း မနက်မိုးသောက် အလင်းရောက်တိုင်း ဆွမ်းစားကြွဖို့ လာပင့်ရင်း ညက လာတဲ့ သူဟာ ဘယ်သူပါလဲလို့ မေးမြန်းခဲ့ပါတယ်။ မြတ်စွာဘုရားက သိကြားမင်းနဲ့ သဟမ္ပတိ ဗြဟ္မာမင်းတို့ ဖြစ်ကြောင်း မိန့်ကြားတော်မူပါတယ်။

ဒီအခါမှာလည်း ဥရုဝေလကဿပရသေ့ဟာ 'သြော်.. ဒီရဟန်းကြီး အတော်လေး တန်ခိုး အာနုဘော် ကြီးမားလှပါပေတယ်၊ သိကြားမင်းတို့၊ သဟမ္ပတိ ဗြဟ္မာမင်းတို့ကတောင် ရဟန်းကြီးထံ တရား လာရောက် နာယူရတယ်၊ ဒါပေမဲ့ သူ ငါ့လိုတော့ ရဟန္တာ မဖြစ်ရှာသေးဘူး' ဆိုတဲ့ အတွေးဝင်ပြီး သူ့ကိုယ်သူ အထင်ကြီးမြဲ ကြီးလျက် ရှိပါတယ်။

**(၅) ရသေ့ရဲ့ စိတ်အကြံကို သိတော်မူ**

တစ်ခါမှာတော့ ဥရုဝေလကဿပရသေ့ရဲ့ ကျောင်းမှာ အလွန်ကြီးကျယ်တဲ့ အလှူပွဲကြီး ပြုလုပ်ဖို့ အစီအစဉ် ရှိတယ်၊ အင်္ဂတိုင်းနဲ့ မဂဓတိုင်းမှာ နေကြတဲ့ တိုင်းသူတိုင်းသားတွေဟာ ခဲဖွယ်ဘောဇဉ်တွေ အမြောက်အမြား ယူဆောင်ပြီး လာရောက်လှူဒါန်းကြမှာ ဖြစ်တယ်။ ဥရုဝေလကဿပရသေ့လည်း 'အလှူပွဲကြီး လုပ်တော့မယ်၊ လူတွေလည်း အများကြီး လာလှူကြမှာ၊ တကယ်လို့ ရဟန်းကြီးဟာ လူပုံအလယ်မှာ တန်ခိုးပြာဋိဟာတွေ ပြခဲ့မယ်ဆိုရင် ရဟန်းကြီးဆီ

လာဘ်သပ်ပကာ လှူဖွယ်ပစ္စည်းဝတ္ထုတွေ၊ ပူဇော် သက္ကာရတွေ ရောက်သွားပြီး ငါ့မှာတော့ လျော့သွားလိမ့်မယ်။ မနက်ဖြန် ရဟန်းကြီး မလာရင် ကောင်းမှာပဲ’လို့ တွေးတော ကြံစည်နေခဲ့တယ်။ ရသေ့ရဲ့ စိတ်အကြံကို မြတ်စွာဘုရားက သူတစ်ပါး စိတ်ကို သိနိုင်တဲ့ စေတောပရိယအဘိညာဉ်နဲ့ သိတော်မူတဲ့အတွက် နောက်နေ့မနက်မှာ ရသေ့ထံ ဆွမ်းစားမကြွတော့ဘဲ မြောက်ကျွန်းကို ကြွပြီး ဆွမ်းခံတော်မူပါတယ်။ ဟိမဝန္တာတောင်မှာ ရှိတဲ့ အနောဝတတ် ရေအိုင်နား ကြွ၊ ဆွမ်းဘုဉ်းပေးတော်မူပြီး နေ့ပိုင်း တရားဘာဝနာ ရှုမှတ်နှလုံးသွင်းကာ နေတော်မူခဲ့ပါတယ်။

နောက်တစ်နေ့မနက်စော ရောက်တဲ့ အခါ ဥရုဝေလကဿပ ရသေ့ဟာ မြတ်စွာဘုရားထံ ဆွမ်းစားလာပင့်ရင်း “ရဟန်းကြီး… မနေ့က ဘာလို့ မကြွလာတာလဲ၊ ‘ဘာလို့များ ရဟန်းကြီး မကြွလာတာပါလိမ့်’လို့တောင် အမှတ်ရနေမိတယ်၊ သင့်အတွက် ခဲဖွယ်၊ ဘောဇဉ်တွေလည်း အများကြီး စီစဉ်ထားတာ”လို့ လျှောက်ထားပါတယ်။ မြတ်စွာဘုရားက ‘သင့်ရဲ့ စိတ်အကြံကို သိလို့ မကြွတာ ဖြစ်ကြောင်း၊ မြောက်ကျွန်း ကြွပြီး ဆွမ်းခံ၊ အနောဝတတ်အိုင်မှာ ဆွမ်းစားပြီး နေ့ခင်းပိုင်း တရားဘာဝနာ ရှုပွားပြီး နေတယ် ဆိုတဲ့ အကြောင်း’ ရှင်းလင်း မိန့်ကြားတော်မူပါတယ်။ ဒီအခါမှာလည်း ဥရုဝေလကဿပရသေ့ဟာ ‘သြော်… ရဟန်းကြီးဟာ တန်ခိုး အာနုဘော် အလွန် ကြီးမားလှပါပေတယ်၊ စေတောပရိယအဘိညာဉ်နဲ့ သူတစ်ပါးရဲ့ စိတ်အကြံကို သိနိုင်ပါပေတယ်၊ ဒါပေမဲ့ ငါ့လိုတော့ ရဟန္တာ မဟုတ်ရှာသေးဘူး’ လို့ပဲ မာန်မာနအတွေးနဲ့ တွေးနေတော့တယ်။

## (၆) သိကြားမင်း ဝေယျာဝစ္စ လာရောက် ဆောင်ရွက်

တစ်ခါမှာတော့ မြတ်စွာဘုရားမှာ ပံ့သကူသင်္ကန်း ဖြစ်ပေါ် လာပါတယ်။ (ပံ့သကူသင်္ကန်း ဆိုတာ လူတွေ မလိုချင်လို့ သင်္ချိုင်း

ကုန်းမှာ၊ အမှိုက်ပုံတွေမှာ စွန့်ပစ်ထားတဲ့ အဝတ်စ၊ ပိတ်စတွေကို လိုက်ကောက်ပြီး ဖွပ်လျှော်၊ သင်္ကန်းပုံစံချုပ်၊ ဆေးဆိုးပြီး ဝတ်ရတဲ့ သင်္ကန်းမျိုးပါ။)

ဒါနဲ့ မြတ်စွာဘုရားက 'ဒီသင်္ကန်း ဘယ်မှာ ဖွပ်လျှော်ရရင် ကောင်းမလဲ' လို့ စဉ်းစားပါတယ်။ မြတ်စွာဘုရားရဲ့ စိတ်တော်အကြံကို သိကြားမင်းက သိလိုက်ပြီး ရေကန်ကြီး တစ်ကန် တူးလိုက်ပါတယ်။ ပြီးတဲ့ အခါ ဒီရေကန်မှာ သင်္ကန်းဖွပ်လျှော်ဖို့ရန် မြတ်စွာဘုရားကို လျှောက်ထားပါတယ်။

သင်္ကန်းလျှော်ပြီးတဲ့ အခါ 'ဘယ်ပေါ်မှာ သင်္ကန်းကို ထုခြေနယ်ရရင် ကောင်းမလဲ' လို့ မြတ်စွာဘုရား စဉ်းစားပြန်ပါတယ်။ ဒီအခါမှာလည်း သိကြားမင်းက မြတ်စွာဘုရားရဲ့ စိတ်တော်အကြံကို သိလိုက်တဲ့ အတွက် ကျောက်ဖျာကြီး တစ်ချပ် ရေကန်အနီးမှာ ချထားလိုက်ပါတယ်။

တစ်ခါ 'ဘယ်မှာ သင်္ကန်းကို ချိတ်ဆွဲပြီး ရေညှစ်ရရင် ကောင်းမလဲ' လို့ မြတ်စွာဘုရားမှာ အကြံဖြစ်ပါတယ်။ ဒီအခါမှာတော့ အနားမှာ ရှိနေတဲ့ ရေခံတက်ပင်စောင့်နတ်က မြတ်စွာဘုရားရဲ့ စိတ်အကြံကို သိရှိပြီး ရေခံတက်ပင်ရဲ့ အကိုင်းတစ်ကိုင်းကို ညွှတ်ပေး လိုက်ပါတယ်။

မြတ်စွာဘုရားရှင်ဟာ သင်္ကန်း ရေညှစ်ပြီးတဲ့နောက် 'ဘယ်နေရာမှာ သင်္ကန်းကို ဖြန့်လှန်းရရင် ကောင်းမလဲ' လို့ စဉ်းစား တွေးတောပြန်ပါတယ်။ ဒါကိုလည်း သိကြားမင်းက သိလိုက်ပြီး သင်္ကန်း ဖြန့်လှန်းဖို့အတွက် ကျောက်ဖျာကြီးတစ်ချပ် အနီးအနားမှာ ချထားပေးလိုက်ပါတယ်။

နောက်နေ့ မနက်စော ရောက်တဲ့ အခါ ဉရုဝေလကဿပ ရသေ့ဟာ ဆွမ်းစားကြွဖို့ မြတ်စွာဘုရားကို သွားပင့်ရင်း-

"အို… ရဟန်းကြီး၊ ဆွမ်းစားဖို့ အချိန်ရောက်ပါပြီ၊ သြော်… အရင်က ဒီနားမှာ ရေကန် မရှိပါဘူး၊ ခု ရေကန်ကြီး ဖြစ်လို့ပါလား၊ အရင်က ဒီနားမှာ ကျောက်ဖျာကြီးလည်း မရှိပါဘူး၊ ဘယ်သူများ ဒီကျောက်ဖျာကြီး လာထားသွားတာပါလိမ့်၊ အရင်က ဒီရေခံတက်ပင်က သစ်ကိုင်းကလည်း ကိုင်းညွှတ်မနေပါဘူး၊ ခုတော့ ရေခံတက်ကိုင်းကြီးကလည်း အောက်နားကို ညွှတ်နေပါ့လား" လို့ မေးလျှောက်ပါတယ်။

ဒီအခါ မြတ်စွာဘုရားက သူ့မှာ ရလာတဲ့ ပံ့သကူသင်္ကန်း လျှော်ဖို့၊ ဖွပ်နယ်ဖို့၊ ရေညှစ်ဖို့၊ ဖြန့်လှန်းဖို့ အကြံဖြစ်တဲ့ အကြောင်း၊ သိကြားမင်းနဲ့ ရေခံတက်ပင်စောင့်နတ်တို့က သူ့စိတ်အကြံကို သိရှိပြီး လာရောက် စီမံပေးတဲ့ အကြောင်း ရသေ့ကို ရှင်းပြပါတယ်။

ဒီအခါမှာလည်း ဥရုဝေလကဿပရသေ့ဟာ 'သြော်… ဒီရဟန်းကြီး တော်တော်လေးကို ဘုန်းတန်ခိုး အာနုဘော် ကြီးမားလှပါပေတယ်၊ သိကြားမင်းကတောင် သူ့စိတ်အကြံကို သိရှိပြီး ဝေယျာဝစ္စ ပြုလုပ်ပေးရပါပေတယ်၊ ဒါပေမဲ့ သူဟာ ငါ့လိုတော့ ရဟန္တာ မဖြစ်သေးရှာဘူး' လို့ တွေးမြဲ တွေးကာ မာန်တက်နေပါတော့တယ်။ မြတ်စွာဘုရားရှင်လည်း ရသေ့ကပ်တဲ့ ဆွမ်းကို ဘုဉ်းပေးပြီး အနီးအနားက တောအုပ်ထဲမှာပဲ ဆက်လက် သီတင်းသုံး နေတော်မူခဲ့ပါတယ်။

## (၇) ဇမ္ဗုသပြေသီး ဆွတ်ပြီး ရသေ့ထံ ကြွတော်မူ

နောက်နေ့ မနက်စောရောက်တဲ့ အခါ ဥရုဝေလကဿပရသေ့ဟာ မြတ်စွာဘုရားထံ သွားပြီး ဆွမ်းစားကြွဖို့ ပင့်လျှောက်ပါတယ်။ မြတ်စွာဘုရားက "ကဿပ… သင် သွားနှင့်ပါ၊ ငါ နောက်က လိုက်လာခဲ့မယ်" လို့ မိန့်တော်မူပြီး ရသေ့ကို ပြန်လွှတ်လိုက်ပါတယ်။ အဲဒီနောက်တော့ မြတ်စွာဘုရားရှင်ဟာ ဇမ္ဗူဒိပ်ကျွန်းလို့ အမှတ်သင်္ကေတ ဖြစ်ပေါ်လာစေတဲ့ ဇမ္ဗုသပြေပင်ဆီ ကြွပြီး

ဇမ္ဗူသပြေသီးမှည့်ကို ယူဆောင်ကာ ရသေ့ မရောက်ခင်မှာပဲ ရသေ့ရဲ့ မီးတင်းကုပ်(မီးဖိုဆောင်) ထဲ ဝင်ထိုင် သီတင်းသုံး နေတော်မူခဲ့ပါတယ်။

ဥရုဝေလကဿပရသေ့ဟာ မီးတင်းကုပ်ထဲ ဝင်ထိုင်နေတဲ့ မြတ်စွာဘုရားကို မြင်လိုက်ရတဲ့ အခါ "အို… ရဟန်းကြီး၊ သင် ဘယ်လမ်းက လာခဲ့တာလဲ၊ အကျွန်ုပ်က သင့်အရင် ပြန်လာခဲ့တာပါ၊ ခုတော့ သင်က အရင် ရောက်နှင့်နေပြီး မီးတင်းကုပ်ထဲ ဝင်ထိုင်နေပါပေါ့လား" လို့ လျှောက်ထားပါတယ်။

မြတ်စွာဘုရားက "ကဿပ၊ ငါဟာ သင့်ကို ပြန်လွှတ်လိုက်ပြီးတဲ့နောက် ဇမ္ဗူဒိပ်ကျွန်းရယ်လို့ အမည်နာမ သင်္ကေတ ဖြစ်လာစေတဲ့ သပြေပင်ကနေ သပြေသီး ခူးလာပြီး သင့်အရင် ဒီနေရာကို ရောက်နှင့်နေကာ ထိုင်နေတာ ဖြစ်တယ်၊ ကဿပ၊ ဒီ ဇမ္ဗူသပြေသီးက အရောင်လည်း လှတယ်၊ အနံ့လည်း ကောင်းတယ်၊ အရသာလည်း ရှိတယ်၊ ရော့ စားပါဦး" လို့ မိန့်တော်မူပါတယ်။

ဒီအခါ ရသေ့က "အို… ရဟန်းကြီး၊ တော်ပါပြီ၊ ဒီအသီးက သင်နဲ့ပဲ ထိုက်တန်ပါတယ်၊ သင်ပဲ ဘုဉ်းပေး သုံးဆောင်ပါ" လို့ ငြင်းပယ်လိုက်ပါတယ်။ ဆက်ပြီးတော့လည်း 'သြော်… ဒီရဟန်းကြီးဟာ ဘုန်းတန်ခိုး အာနုဘော် ကြီးမားလှပါပေတယ်၊ ငါ့ကို အရင် ပြန်လွှတ်လိုက်ပြီး ဇမ္ဗူသပြေသီး သွားခူးကာ ငါ့အရင် ရောက်လာပြီး မီးတင်းကုပ်ထဲ ထိုင်နှင့်နိုင်ပါပေတယ်၊ ဒါပေမဲ့လည်း သူဟာ ငါ့လိုတော့ ရဟန္တာ မဖြစ်ရှာသေးဘူး' ဆိုတဲ့ အတွေးကိုပဲ ဆက်လက် ဆုပ်ကိုင်ထားဆဲပါ။

မြတ်စွာဘုရားလည်း ရသေ့ကပ်တဲ့ ဆွမ်း ဘုဉ်းပေးတော်မူပြီး အနီးအနားက တောအုပ်ထဲမှာ ဆက်လက် သီတင်းသုံးနေတော်မူပါတယ်။

## (၈) သရက်သီး၊ (၉) ဆီးဖြူသီး၊ (၁၀) ဖန်ခါးသီး၊ (၁၁) တာဝတိံသာနတ်ပြည်က ကသစ်ပန်းတို့ ယူဆောင်ပြီး ရသေ့ထံ ကြွတော်မူ

ထိုနည်းတူစွာပဲ နောက်နေ့ နောက်နေ့တွေမှာလည်း ရသေ့က ဆွမ်းစား လာပင့်တဲ့ အခါ မြတ်စွာဘုရားရှင်က ရသေ့ကို အရင် ပြန်လွှတ်လိုက်ပြီး ဇမ္ဗူသပြေပင်အနီးမှာရှိတဲ့ သရက်ပင်က သရက်သီး၊ ဆီးဖြူပင်က ဆီးဖြူသီး၊ ဖန်ခါးပင်က ဖန်ခါးသီး၊ တာဝတိံသာ နတ်ပြည်က ကသစ်ပန်းတွေကို ယူဆောင်လာပြီး ရသေ့ရဲ့ အရင် ကြွလာကာ မီးတင်းကုပ်ထဲမှာ သီတင်းသုံး နေတော်မူခဲ့ပါတယ်။ ဒီအခါတွေမှာလည်း ရသေ့ဟာ အံ့ဩဘနန်းဖြစ်ပြီး မြတ်စွာဘုရားကို ရှေးနည်းအတိုင်း အံ့ဩဖွယ်ရာစကား လျှောက်ထားပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ရသေ့ကို ပြန်လွှတ်ပြီးတဲ့နောက် ဇမ္ဗူ သပြေပင်အနီးက သရက်သီး၊ ဆီးဖြူသီး၊ ဖန်ခါးသီးနဲ့ တာဝတိံသာ နတ်ပြည်က ကသစ်ပန်းတွေ သွားရောက် ယူဆောင်တဲ့ အကြောင်း၊ ပြီးမှ ရသေ့ရဲ့ အရင် ရောက်လာပြီး မီးတင်ကုပ်ထဲ ဝင်ထိုင်နေတဲ့ အကြောင်း ရှင်းပြပြီး သရက်သီး၊ ဆီးဖြူသီး၊ ဖန်ခါးသီး၊ ကသစ်ပန်း တို့ကို သုံးဆောင်ဖို့ရာ ဖိတ်ကြားခဲ့ပါတယ်။ ဒီအခါတွေမှာလည်း ရသေ့က သုံးဆောင်ဖို့ ငြင်းပယ်ခဲ့ပြီး 'ရဟန်းကြီးဟာ တန်ခိုးကြီးပေမယ့် သူ့လို ရဟန္တာ မဟုတ်ရှာသေးကြောင်း'ပဲ အထင်ရောက်မြဲ ရောက်နေ ခဲ့ပါတယ်။ မြတ်စွာဘုရားလည်း ရသေ့ကပ်တဲ့ ဆွမ်း ဘုဉ်းပေးပြီး အဲဒီ တောအုပ်ထဲမှာပဲ ဆက်လက် သီတင်းသုံး နေတော်မူခဲ့ပါတယ်။

## (၁၂) ထင်းငါးရာ တစ်ပြိုင်နက် ခွဲပြတော်မူ

တစ်ချိန်မှာ ဥရုဝေလကဿပရသေ့နဲ့ သူ့တပည့် ၅၀၀ တို့ဟာ မီးပူဇော်ပွဲ ပြုလုပ်ချင်ပါတယ်။ ဒါပေမဲ့ ခက်တာက သူတို့ရဲ့

ထင်းတွေကို ခွဲမရဘူး ဖြစ်နေခဲ့ပါတယ်။ ဒီအခါ ရသေ့တွေရဲ့ စိတ်ထဲမှာ 'ဧကန္တတော့ ရဟန်းကြီးရဲ့ တန်ခိုးကြောင့် ငါတို့ ထင်းတွေ ခွဲမရတာ နေမှာ' လို့ ထင်နေခဲ့ကြပါတယ်။

ဒီလို ထင်နေတဲ့အခါ မြတ်စွာဘုရားက ဥရုဝေလ ကဿပရသေ့ကို ''ကဿပ၊ ထင်းတွေ ခွဲလိုပါသလား'' လို့ မေးတော်မူပါတယ်။ ရသေ့က ''ရဟန်းကြီး၊ ခွဲလိုပါတယ်'' လို့ အဖြေပေးပါတယ်။ ဒီလို မေးဖြေပြီးလို့ ချက်ချင်း ဆိုသလိုပဲ ထင်းတုံးငါးရာဟာ တစ်ခါတည်း ထင်းတွေ ခွဲခြမ်းပြီးသားအနေ ဖြစ်သွားခဲ့ပါတယ်။

ဒီအခါမှာလည်း ဥရုဝေလကဿပရသေ့ကြီးမှာ 'သြော်... ဒီရဟန်းကြီး အတော် တန်ခိုး အာနုဘော် ကြီးမားလှပါပေတယ်၊ သူ့တန်ခိုးနဲ့ ထင်းငါးရာကို တစ်ခါတည်း ခွဲနိုင်ပါပေတယ်၊ ဒါပေမဲ့ သူ ငါ့လိုတော့ ရဟန္တာ မဖြစ်ရှာသေးပါလား' လို့ တွေးကာ ဘဝင်မြင့်မြဲ မြင့်လျက်ပါပဲ။

## (၁၃) ထင်းငါးရာ တစ်ပြိုင်နက် မီးတောက်စေတော်မူ

တစ်ခါ ထင်းတွေ ခွဲပြီးသွားပြန်တော့ ရသေ့တွေဟာ အဲဒီ ထင်းတွေကို မီးတောက်အောင် လုပ်လို့ မရဘဲ ဖြစ်နေပြန်ပါတယ်။ 'ဒါလည်း ရဟန်းကြီး တန်ခိုးကြောင့် နေမှာပဲ' လို့ ရသေ့တွေ တွေးနေကြပြန်တယ်။

ဒီအခါ မြတ်စွာဘုရားက ရသေ့ကြီးကို ''ကဿပ၊ ထင်းတွေ မီးတောက်စေလိုပါသလား'' လို့ မေးတော်မူပါတယ်။ ရသေ့က ''အို... ရဟန်းကြီး၊ ထင်းတွေ မီးတောက်စေလိုတာပေါ့'' လို့ ဖြေပါတယ်။ အဲဒီ အချိန်မှာ ထင်းငါးရာဟာ တစ်ပြိုင်နက်တည်း မီးတောက်ပြီးသား ဖြစ်ကုန်ပါတယ်။

ဒီအခါမှာလည်း ရသေ့ကြီးမှာ 'ရဟန်းကြီး တန်ခိုး အာနုဘော် ကြီးမားပါကြောင်း၊ တန်ခိုးနဲ့ ထင်းငါးရာကို တစ်ပြိုင်နက်တည်း မီးတောက်စေနိုင်ခဲ့ကြောင်း၊ ဒါပေမဲ့ ရဟန်းကြီးဟာ သူ့လို ရဟန္တာ မဖြစ်ရှာသေးကြောင်း' ဆိုတဲ့ မာန အတွေးတွေ ဆက်တွေးလျက်ပါပဲ။

## (၁၄) မီးတောက်ငါးရာ တစ်ပြိုင်နက် ငြိမ်းစေတော်မူ

ရသေ့တွေဟာ မီးပူဇော်ပြီးတဲ့ အခါ မီးတွေကို ငြိမ်းသတ်ချင်ပါတယ်။ ဒါပေမဲ့ မီးတောက် ငါးရာကို ငြိမ်းအောင် မတတ်နိုင်ဘဲ ဖြစ်နေကြတယ်။ ဒီအခါမှာလည်း 'သူတို့ ခုလို မီးငြိမ်းမရတာဟာ ရဟန်းကြီးရဲ့ တန်ခိုးကြောင့်ပဲ' လို့ ရသေ့တွေက ထင်နေခဲ့ကြပြန်တယ်။

ဒီအခါမှာလည်း မြတ်စွာဘုရားက ရသေ့ကြီးကို "ကဿပ၊ မီးတွေ ငြိမ်းစေချင်သလား" လို့ မေးတော်မူပါတယ်။ ရသေ့ကြီးက "အို… ရဟန်းကြီး၊ မီးတွေ ငြိမ်းစေချင်တာပေါ့" လို့ ပြန်လည် ဖြေကြားပါတယ်။ အဲဒီ အချိန်မှာပဲ မီးငါးရာဟာ တစ်ပြိုင်နက်တည်း ငြိမ်းသွားခဲ့ပါတယ်။

ဉရုဝေလကဿပရသေ့ကြီးကတော့ ထုံးစံအတိုင်း 'သြော်… ရဟန်းကြီး ဘုန်းတန်ခိုး အာနုဘော် ကြီးမားပါပေတယ်၊ တန်ခိုးနဲ့ မီးငါးရာကို တစ်ပြိုင်နက် ငြိမ်းစေတော်မူနိုင်ပါပေတယ်၊ ဒါပေမဲ့ ငါ့လိုတော့ သူဟာ ရဟန္တာ မဖြစ်ရှာသေးဘူး' လို့ပဲ မာနတွေနဲ့ တွေဝေမြဲ တွေဝေလျက်ပါပဲ။

## (၁၅) မီးအိုးကင်း ၅၀၀ ဖန်ဆင်းပေးတော်မူ

တစ်ခါမှာတော့ ရသေ့ငါးရာဟာ ဆောင်းတွင်းကာလ ဆီးနှင်းတွေ ကျပြီး ရာသီဉတု အတော်လေး အေးခဲနေတဲ့ အချိန် နေရဋ္ဌရာမြစ်ထဲ ဆင်းပြီး ရေထဲ ငုပ်လိုက်၊ ဖော်လိုက် လုပ်နေခဲ့ကြတယ်။ ဒီအခါ မြတ်စွာဘုရားက ရသေ့တွေ မြစ်ထဲကနေ ပြန်တက်

လာရင် အချမ်းပြေ မီးလှုံနိုင်စေဖို့အတွက် မီးအိုးကင်း ၅၀၀ ကို တန်ခိုးနဲ့ ဖန်ဆင်းထားလိုက်ပါတယ်။ မြစ်ထဲကနေ ရေချိုးပြီး ပြန်တက်လာတဲ့ ရသေ့တွေဟာ မီးအိုးကင်း ၅၀၀ မှာ ဝိုင်းအုံကာ မီးလှုံကြပြီး 'သြော်… ကေနိစင်စစ်တော့ ဒါလည်း ရဟန်းကြီးရဲ့ တန်ခိုးအာနုဘော်နေမှာပဲ၊ သူ့တန်ခိုးကြောင့် မီးအိုးကင်း ငါးရာ ဖြစ်လာတာပဲ' လို့ တွေးနေခဲ့ကြတယ်။

ဥရုဝေလကဿပရသေ့ကြီးကတော့ 'သြော်… ရဟန်းကြီး တန်ခိုး အာနုဘော် ကြီးပါပေတယ်၊ မီးအိုးကင်း ငါးရာကို ဖန်ဆင်းနိုင်ပါပေတယ်၊ ဒါပေမဲ့ သူဟာ ငါ့လိုတော့ ရဟန္တာ မဖြစ်ရှာသေး' ဆိုတဲ့ အတွေးကို ဆုပ်ကိုင်ထားဆဲပါပဲ။

## (၁၆) ရေထဲ ဖုန်တထောင်းထောင်းထစေလျက် စင်္ကြံ ကြွချီတော်မူ

တစ်ခါမှာတော့ ဥရုဝေလတောဝန်းကျင်မှာ အချိန်မဲ့ အခါမဲ့ မိုးကြီး အကြီးအကျယ် ရွာသွန်းခဲ့ပါတယ်။ မြစ်ရေတွေ ပြည့်လျှံပြီး ရေကြီး၊ ရေလျှံမှုတွေလည်း ဖြစ်နေပါတယ်။ ပတ်ဝန်းကျင် တောတန်း တစ်လျှောက်လုံး ရေတွေ ကြီးနေပေမယ့် မြတ်စွာဘုရား သီတင်းသုံးတဲ့ နေရာလေးကတော့ ရေကြီးတဲ့ ဘေးကနေ လွတ်နေခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်ဟာ 'ပတ်ဝန်းကျင်မှာ ရှိနေတဲ့ ရေတွေကို ဖယ်ရှားပြီး ရေရဲ့ အလယ် ဖုန်တထောင်းထောင်းထနေတဲ့ လမ်းပေါ်မှာ လမ်းလျှောက် စင်္ကြံသွားနေရရင် ကောင်းမယ်' လို့ တွေးကြံတော်မူခဲ့ပါတယ်။

အဲဒီ အကြံအတိုင်း မြတ်စွာဘုရားရှင်ဟာ တန်ခိုးနဲ့ ရေတွေကို ဖယ်ရှားပြီး ရေလယ်ကောင်မှာ ဖုန်တွေ ထနေတဲ့ လမ်းကို ဖန်ဆင်းလိုက်တယ်၊ ပြီးမှ အဲဒီ လမ်းပေါ်မှာ စင်္ကြံကြွချီနေတော်မူခဲ့ပါတယ်။

ဥရုဝေလကဿပရသေ့ဟာ 'ရဟန်းကြီး ရေ မမျောပါစေနဲ့' လို့ တွေးကြံပြီး တပည့်များစွာနဲ့အတူ လှေလှော်ကာ မြတ်စွာဘုရား သီတင်းသုံးတဲ့ အရပ်ဆီ ထွက်လာခဲ့ပါတယ်။ ဒီအခါ ရသေ့ကြီးဟာ ရေလယ်ကောင်က ဖုန်တွေ တသောသော ထနေတဲ့ မြေလမ်းမပေါ်မှာ စင်္ကြံသွားနေတဲ့ မြတ်စွာဘုရားကို မြင်တွေ့လိုက်ပါတယ်။

မြင်ပြီးတာနဲ့ မြတ်စွာဘုရားကို "အို... ရဟန်းကြီး၊ ခု စင်္ကြံလျှောက်နေတာ သင် ဟုတ်ပါသလား" လို့ မေးလိုက်ပါတယ်။ "ကဿပ... ဟုတ်တယ်၊ စင်္ကြံလျှောက်နေတာ ငါပဲ" လို့ မြတ်စွာဘုရားက ဖြေတော်မူခဲ့ပြီး တန်ခိုးနဲ့ ကောင်းကင် ပျံတက်ကာ ရသေ့ရဲ့ လှေပေါ် သက်ဆင်းခဲ့ပါတယ်။

ဒီအခါမှာလည်း ဥရုဝေလကဿပရသေ့ကြီးမှာ "သြော်... ဒီရဟန်းကြီး အတော့်ကို ဘုန်းတန်ခိုး အာနုဘော် ကြီးမားလှပါ ပေတယ်။ ဒီလောက် လေကြီး မိုးကြီး ကျပြီး ရေတွေ ကြီးနေတာ တောင် ရေတွေက သူ့ကို မျောပါသွားအောင် မတတ်နိုင်ခဲ့ဘူး၊ ဒါပေမဲ့လည်း ငါ့လိုတော့ သူ ရဟန္တာ မဖြစ်ရှာသေးဘူး' ဆိုတဲ့ ဘဝင်အတွေးတွေက ခိုင်မာနေဆဲပါ။

## ရသေ့ကြီးကို ထိတ်လန့်စေပြီး တရားဟော

ဒီအခါ မြတ်စွာဘုရားရှင်က 'သြော်... ဈာန်မဂ်ဖိုလ်မရှိ အချည်းနှီးဖြစ်တဲ့ ဒီယောကျ်ားမှာ 'ရဟန်းကြီးဟာ တန်ခိုးကြီးပါ ပေတယ်၊ အာနုဘော် ကြီးပါပေတယ်၊ ဒါပေမဲ့ သူဟာ ငါ့လိုတော့ ရဟန္တာ မဟုတ်ရှာသေးပါလားဆိုတဲ့ ဒီအတွေးတွေက ခုထိ ရှိနေတုန်း ပါလား၊ ငါ သူ့ကို ထိတ်လန့်မှု သံဝေဂဉာဏ် ဖြစ်စေရရင် ကောင်း မယ်' လို့ ကြံတွေးတော်မူပြီး ဥရုဝေလကဿပရသေ့ကို -

"ကဿပ၊ သင်ဟာ ရဟန္တာလည်း မဟုတ်၊ သင့်မှာ အရဟတ္တမဂ်လည်း မရသေး။ ယုတ်စွအဆုံး သင့်မှာ ရဟန္တာ ဖြစ်ကြောင်း၊ အရဟတ္တမဂ်ရကြောင်း အခြေခံ အကျင့်တောင် မရှိသေးဘူး" လို့ ခပ်ဆတ်ဆတ်လေး မိန့်တော်မူလိုက်ပါတယ်။

အခုလို မိန့်လိုက်တဲ့ အခါမှ ဥရုဝေလကဿပရသေ့ဟာ မြတ်စွာဘုရားရဲ့ ခြေတော်ရင်းမှာ ဦးခေါင်းနဲ့ ဝပ်စင်းလိုက်ပြီး "မြတ်စွာဘုရား၊ အရှင်ဘုရားထံမှာ တပည့်တော် ရှင်ရဟန်းပြုချင် ပါတယ်ဘုရား" လို့ လျှောက်ထားတောင်းပန်ခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက "ကဿပ၊ သင်ဟာ ရသေ့ငါးရာတို့ရဲ့ ရှေ့သွား ခေါင်းဆောင် အကြီးအမှူးပုဂ္ဂိုလ် ဖြစ်တယ်၊ သူတို့ကို အရင် ပြန်ပြော ပါဦး၊ သူတို့လည်း ကြိုက်သလို ဆုံးဖြတ်နိုင်တာပေါ့" လို့ မိန့်တော်မူ လိုက်ပါတယ်။ ဥရုဝေလကဿပရသေ့လည်း တပည့်ရသေ့တွေထံ သွားပြီး "အို··· ရသေ့အပေါင်းတို့၊ ငါဟာ ရဟန်းမြတ်အထံမှာ မြင့်မြတ်တဲ့ အကျင့်ကို ကျင့်လိုတယ်၊ သင်တို့လည်း ကြိုက်သလို ဆုံးဖြတ်ကြပါ" လို့ ခွင့်ပန်စကား ပြောကြားခဲ့ပါတယ်။

## ရသေ့ငါးရာ မြတ်စွာဘုရားထံ ရဟန်းပြုကြပြီ

ဒီအခါ ရသေ့ငါးရာတို့လည်း "အို··· ဆရာရသေ့၊ အကျွန်ုပ် တို့ဟာ အတော် စောစောကတည်းကကိုပဲ ရဟန်းမြတ်အပေါ်မှာ ကြည်ညိုနေခဲ့ကြပါပြီ၊ တကယ်လို့ ဆရာရှင်ဟာ ရဟန်းမြတ်ထံမှာ မြတ်သော အကျင့်ကို ကျင့်မယ်ဆိုရင် အကျွန်ုပ်တို့ အကုန်လုံးလည်း ရဟန်းမြတ်ထံမှာ အဲဒီ အကျင့်ကို ကျင့်ကြပါမယ်" လို့ ဝမ်းပန်းတသာ ပြန်လည် ဖြေကြားခဲ့ကြပါတယ်။ ဒီနောက်မှာတော့ ဥရုဝေလကဿပ ရသေ့ အမှူးပြုတဲ့ ရသေ့ အားလုံးဟာ သာသနာနဲ့ မလျော်တဲ့ ရသေ့ ပရိက္ခရာတွေကို မြစ်ထဲ မျှောလိုက်ကြပြီး မြတ်စွာဘုရားထံသွားကာ

မြတ်စွာဘုရားရဲ့ ခြေတော်ရင်းမှာ ဦးခေါင်း ဝပ်စင်းပြီး ရှင်ရဟန်း ပြုပေးဖို့ တောင်းပန်လျှောက်ထားခဲ့ကြပါတယ်။

မြတ်စွာဘုရားက "ရဟန်းတို့… လာကြကုန်လော့၊ ငါသည် တရားဒေသနာကို ကောင်းမွန်စွာ ဟောကြားအပ်ပါပြီ၊ ဆင်းရဲဒုက္ခတွေ ကောင်းမွန်စွာ ကုန်ဆုံးစေဖို့ မြင့်မြတ်တဲ့ ဗြဟ္မစရိယအကျင့်တွေကို ကျင့်ကြကုန်လော့" လို့ ရဟန်းပြုခွင့် စကား မိန့်ကြားတော်မူခဲ့ပါတယ်။ မြတ်စွာဘုရားရဲ့ ဒီအမိန့်တော်နဲ့ပဲ ဥရုဝေလကဿပရသေ့ အမှူးပြုတဲ့ ရသေ့ငါးရာတို့ဟာ ရဟန်းဘောင် ရောက်ခဲ့ကြပါတော့တယ်။

## နဒီကဿပ၊ ဂယာကဿပ ရသေ့တို့လည်း ရဟန်းပြုကြ

ဂင်္ဂါမြစ်ရဲ့ အောက်အကြေ မြစ်ကွေ့မှာ နေတဲ့ နဒီကဿပ ရသေ့ဟာ မြစ်ထဲ မျောပါလာတဲ့ ရသေ့ပရိက္ခရာတွေကို မြင်လိုက်တာနဲ့ 'ငါ့ရဲ့ နောင်တော်ကြီး ဘေးရန်များ တွေ့နေပြီလား' လို့ စိတ်ပူပြီး သူ့ရဲ့ တပည့်ရသေ့ ၃၀၀ နဲ့ အတူ အရှင်ဥရုဝေလကဿပထံ လိုက်လာခဲ့ပါတယ်။

အရှင်မြတ်ကို တွေ့တဲ့ အခါ "နောင်တော်ကြီး ကဿပ၊ ဒီ ရဟန်းပြုတယ် ဆိုတာ မြင့်မြတ်ပါသလား" လို့ မေးမြန်းခဲ့ပါတယ်။ အရှင်ဥရုဝေလကဿပ အရှင်မြတ်က 'ရဟန်းပြုတယ် ဆိုတာ မြင့်မြတ်တဲ့အကြောင်း' ပြန်လည် မိန့်ကြားပါတယ်။ ဒီအခါ နဒီကဿပရသေ့ အမှူးပြုတဲ့ ရသေ့သုံးရာတို့ဟာ ရသေ့ ပရိက္ခရာ အသုံးအဆောင်တွေကို မြစ်ထဲ မျှောလိုက်ပါတယ်။ နောက်ပြီး မြတ်စွာဘုရားထံ သွားရောက်ကာ ခြေတော်ရင်း ဝပ်စင်းပြီး ရဟန်းပြုပေးဖို့ တောင်းပန်ခဲ့ကြတယ်။ မြတ်စွာဘုရားကလည်း အရှင် ဥရုဝေလကဿပ အမှူးပြုတဲ့ ရသေ့တွေကို ရဟန်းပြုပေးတဲ့နည်း

အတိုင်း 'ဧဟိ ဘိက္ခု ရဟန်းပြုနည်း'ဖြင့် ရဟန်းပြုပေးတော်မူခဲ့ပါတယ်။

ညီအငယ်ဆုံး ဂယာကဿပရသေ့လည်း မြစ်ထဲ မျောပါလာတဲ့ ရသေ့ပရိက္ခရာတွေကို မြင်ပြီး 'ငါ့နောင်တော်တွေ ဘေးရန်အန္တရာယ်တွေများ ကြုံနေပြီလား'ဆိုတဲ့ စိုးရိမ်စိတ်နဲ့ တပည့်ရသေ့ ၂၀၀ ကိုပါ ခေါ်ပြီး နောင်တော်တွေထံ လိုက်လာခဲ့ပါတယ်။ ရောက်တဲ့ အခါ နောင်တော်တွေ ရဟန်းပြုတာကို တွေ့မြင်လိုက်ရပြီး ''အခုလို ရဟန်းပြုတာဟာ မြင့်မြတ်ပါသလား'' လို့ မေးမြန်းခဲ့ပါတယ်။ နောင်တော်တွေကလည်း မြင့်မြတ်တဲ့အကြောင်း ပြန်လည်ဖြေကြားခဲ့ကြပါတယ်။ ဒီအခါ ဂယာကဿပရသေ့လည်း တပည့်ရသေ့ နှစ်ရာနဲ့အတူ ရသေ့ပရိက္ခရာတွေကို မြစ်ထဲ မျှောလိုက်ပြီး မြတ်စွာဘုရားထံမှောက် သွားရောက်ကာ ရဟန်းပြုခွင့် တောင်းခဲ့ကြပါတယ်။ မြတ်စွာဘုရားက ရှေးနောင်တော်များနည်းတူ နဒီကဿပရသေ့အမှူးပြုတဲ့ ရသေ့နှစ်ရာကိုလည်း ဧဟိ ဘိက္ခု ရဟန်းပြုနည်းနဲ့ ရဟန်းပြုပေးတော်မူခဲ့ပါတယ်။

## ခန္ဓာကိုယ်ကြီးကို မီး တစ်ဆယ့်တစ်မီးတို့ လောင်မြိုက်နေပုံကို ဖော်ပြသည့် အာဒိတ္တပရိယာသုတ္တန်ကို ဟောတော်မူ

အဲဒီ နောက်မှာတော့ မြတ်စွာဘုရားရှင်ဟာ ရသေ့ဘဝကနေ ရဟန်းပြုလာကြတဲ့ ရဟန်းသစ် တစ်ထောင်နဲ့ အတူ ဉရုဝေလတောကနေ ဂယာရွာကို ကြွတော်မူပါတယ်။ ဂယာရွာ ရောက်တဲ့အခါ ရွာအနီးမှာ ရှိတဲ့ ဂယာသီသကျောက်ဖျာပေါ်မှာ ရဟန်းတစ်ထောင်နဲ့အတူ သီတင်းသုံး နေတော်မူပါတယ်။

မြတ်စွာဘုရားရှင်ဟာ 'ဘယ်လို တရားမျိုးက ဒီရဟန်းသစ်တွေအတွက် သင့်တော်မလဲ'လို့ ဆင်ခြင်တော်မူလိုက်ပါတယ်။ ဒီအခါ

'ဩော်… ဒီရဟန်းတွေဟာ မီးမပြတ် ပူဇော်ပြီး နေခဲ့တဲ့ သူတွေ ဖြစ်တယ်၊ ကာမ၊ ရူပ၊ အရူပလို့ ခေါ်တဲ့ ဘုံဘဝသုံးခုလုံးကို မီးလျှံတွေ အလျှံတပြောင်ပြောင် မပြတ်တောက်လောင်နေတဲ့ အိမ်ကြီးလို ပမာပြုပြီး ဟောရရင် သင့်တော်မယ်'လို့ သိတော်မူပြီး ရဟန်းသစ်တစ်ထောင်နဲ့ ကိုက်ညီတဲ့ အာဒိတ္တပရိယာယသုတ္တန်ကို ဖော်ပြပါအတိုင်း ဟောတော်မူခဲ့ပါတယ်။

## အာဒိတ္တပရိယာယသုတ္တန် နာယူပြီး ရဟန်းသစ်တစ်ထောင် ရဟန္တာဖြစ်

"ရဟန်းတို့… အရာ အားလုံးကို မီးတွေ အလျှံတပြောင်ပြောင် တောက်လောင်လျက် ရှိတယ်၊ ဘယ်အရာတွေကို မီးတွေ အလျှံတပြောင်ပြောင် တောက်လောင်နေတာလဲ ဆိုရင် မျက်စိရုပ်ကို မီးတွေ အလျှံတပြောင်ပြောင် တောက်လောင်နေတယ်၊ အဆင်းရုပ်ကို၊ မြင်စိတ်ကို၊ မြင်စိတ်မှာ မှီပြီး ဖြစ်နေတဲ့ ဖဿကို၊ ယင်း ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာကို မီးတွေ အလျှံတပြောင်ပြောင် တောက်လောင်နေတယ်၊ အဘယ်မီးတွေက တောင်လောင်နေတာလဲ ဆိုရင် ရာဂမီး၊ ဒေါသမီး၊ မောဟမီး၊ ဇာတိမီး၊ ဇရာမီး၊ မရဏမီး၊ သောကမီး၊ ပရိဒေဝမီး၊ ဒုက္ခမီး၊ ဒေါမနဿမီး၊ ဥပါယာသမီး ဆိုတဲ့ တစ်ဆယ့်တစ်ပါးသော မီးတွေက လောင်နေတာ ဖြစ်တယ်။

ဒီ့အတူပဲ နားရုပ်ကို၊ အသံရုပ်ကို၊ ကြားသိစိတ်ကို၊ ကြားသိစိတ်မှာ မှီပြီး ဖြစ်တဲ့ ဖဿကို၊ ယင်း ဖဿကြောင့် ဖြစ်လာတဲ့ သုခ၊ ဒုက္ခ၊ ဥပေက္ခာဝေဒနာတွေကို ဖော်ပြပါ မီးတစ်ဆယ့်တစ်မီးက မပြတ် တောက်လောင်နေတယ်။

နှာခေါင်းရုပ်ကို၊ အနံ့ရုပ်ကို၊ နံသိစိတ်ကို၊ နံသိစိတ်မှာ မှီပြီး ဖြစ်တဲ့ ဖဿကို၊ ဖဿကြောင့် ဖြစ်တဲ့ သုခ၊ ဒုက္ခ၊ ဥပေက္ခာဝေဒနာတွေကိုလည်း မီးတစ်ဆယ့်တစ်မီးက တောက်လောင်နေတယ်။

လျှာရုပ်ကို၊ အရသာရုပ်ကို၊ စားသိစိတ်ကို၊ စားသိစိတ်မှာ မှီပြီး ဖြစ်တဲ့ ဖဿကို၊ ဖဿကြောင့် ဖြစ်တဲ့ သုခ၊ ဒုက္ခ၊ ဥပေက္ခာ ဝေဒနာတွေကိုလည်း မီးတစ်ဆယ့်တစ်မီးက တောက်လောင်နေတယ်။

ကိုယ်ရုပ်ကို၊ အတွေ့ဖောဋ္ဌဗ္ဗရုပ်ကို၊ ထိသိစိတ်ကို၊ ထိသိစိတ်မှာ မှီပြီး ဖြစ်တဲ့ ဖဿကို၊ ဖဿကြောင့် ဖြစ်လာတဲ့ သုခ၊ ဒုက္ခ၊ ဥပေက္ခာဝေဒနာတွေကိုလည်း မီးတစ်ဆယ့်တစ်မီးက တောက်လောင်နေတယ်။

ဘဝင်မနောစိတ်ကို၊ အတွေးဓမ္မအာရုံတွေကို၊ တွေးသိစိတ်ကို၊ တွေးသိစိတ်မှာ မှီပြီး ဖြစ်နေတဲ့ ဖဿကို၊ ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ သုခ၊ ဒုက္ခ၊ ဥပေက္ခာဝေဒနာတွေကိုလည်း မီးတစ်ဆယ့်တစ်မီးတို့က တောက်လောင်နေတယ်။

ရဟန်းတို့… ခု ဟောခဲ့သလို မပြတ်နှလုံးသွင်း ရှုမှတ်နေတဲ့ အရိယာတပည့်ဟာ မျက်စိရုပ် အပေါ်မှာလည်း ငြီးငွေ့လာမယ်၊ အဆင်းရုပ်တွေ အပေါ်မှာလည်း ငြီးငွေ့လာမယ်၊ မြင်သိစိတ် အပေါ်မှာလည်း ငြီးငွေ့လာမယ်၊ ဖဿအပေါ်မှာလည်း ငြီးငွေ့လာမယ်၊ ဖဿကြောင့် ဖြစ်တဲ့ သုခ၊ ဒုက္ခ၊ ဥပေက္ခာ ဆိုတဲ့ ဝေဒနာတွေအပေါ်မှာလည်း ငြီးငွေ့လာမယ်။

ထိုနည်းတူစွာပဲ နားရုပ်အပေါ်မှာ၊ အသံတွေအပေါ်မှာ၊ ကြားသိစိတ်အပေါ်မှာ၊ ဖဿအပေါ်မှာ၊ ဖဿကြောင့် ဖြစ်တဲ့ ဝေဒနာတွေအပေါ်မှာ၊

နှာခေါင်းရုပ်အပေါ်မှာ၊ အနံ့အာရုံတွေ အပေါ်မှာ၊ နံသိစိတ်အပေါ်မှာ၊ ဖဿအပေါ်မှာ၊ ဖဿကြောင့် ဖြစ်တဲ့ ဝေဒနာတွေအပေါ်မှာ၊

လျှာရုပ်အပေါ်မှာ၊ အရသာအာရုံတွေအပေါ်မှာ၊ စားသိစိတ်အပေါ်မှာ၊ ဖဿအပေါ်မှာ၊ ဖဿကြောင့်ဖြစ်တဲ့ ဝေဒနာတွေအပေါ်မှာ၊

ကိုယ်ရုပ် အပေါ်မှာ၊ အတွေ့ဖောဋ္ဌဗ္ဗာရုံတွေ အပေါ်မှာ၊ ထိသိစိတ်အပေါ်မှာ၊ ဖဿအပေါ်မှာ၊ ဖဿကြောင့် ဖြစ်တဲ့ ဝေဒနာတွေအပေါ်မှာ၊

ဘဝင်စိတ်အပေါ်မှာ၊ အတွေးဓမ္မအာရုံတွေအပေါ်မှာ၊ တွေးကြံသိစိတ်အပေါ်မှာ၊ ဖဿအပေါ်မှာ၊ ဖဿကြောင့် ဖြစ်တဲ့ ဝေဒနာတွေအပေါ်မှာ ငြီးငွေ့တဲ့ နိဗ္ဗိန္ဒဉာဏ်တွေ ဖြစ်ပေါ်မယ်။

ငြီးငွေ့လာရင် တပ်မက်မှုတွေ ကင်းလာမယ်၊ တပ်မက်မှုကင်းတဲ့ အတွက်ကြောင့် ကိလေသာတွေကနေ လွတ်မြောက်လာမယ်၊ လွတ်မြောက်တဲ့ အရဟတ္တဖိုလ်စိတ်ကို သိတဲ့ ဆင်ခြင်ဉာဏ်တွေ ဖြစ်လာမယ်၊ 'ပဋိသန္ဓေနေမှု ကုန်ပြီ၊ မြတ်သောအကျင့် ဗြဟ္မစရိယအကျင့်ကို ကျင့်သုံးတဲ့ကိစ္စ ပြီးသွားပြီ၊ ပြုကျင့်စရာ ကိစ္စ မှန်သမျှမရှိတော့ဘူး၊ နောင်အနာဂတ် ခန္ဓာအစဉ်လည်း မရှိတော့ပြီ' လို့ သိတဲ့ ဆင်ခြင်ဉာဏ်တွေ ဖြစ်လာမယ်"

ဒီတရားဒေသနာတော် ဟောပြီးတဲ့ အဆုံးမှာ ရဟန်းသစ်တစ်ထောင်လုံး အာသဝေါကုန်ခန်း ရဟန္တာအဖြစ်သို့ ရောက်တော်မူခဲ့ပါတယ်။

ဒီ အာဒိတ္တပရိယာယ သုတ္တန်ဒေသနာကို သဘောပေါက်နားလည်လွယ်အောင် အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ ရေးစပ်သီကုံးခဲ့တဲ့ လင်္ကာဆောင်ပုဒ်ကိုလည်း ကျက်မှတ်လိုသူတွေအတွက် ဖော်ပြပါဦးမယ်။

'သူသူငါငါ၊ ဖြစ်လေရာဝယ်၊ ဦးစွာကြိုဆီး၊ ဇာတိမီးက၊ အပြီးပုံသေ၊ လောင်မြိုက်လေ၏၊ မသွေတစ်သီး၊ ဇရာမီးလည်း၊ အပြီးနောက်မှာ၊ ကပ်လျက်ပါ၏၊ မကွာစေရ၊ မရဏဟု၊ တစ်ဘဝဖျက်ဆီး၊ လောင်သည့်မီးလည်း၊ ညီးညီးပြောင်ပြောင်၊ အမြဲလောင်၏။

လောင်ပုံလောင်အား၊ မထင်ရှားဘဲ၊ နုထွားပျိုမျစ်၊ အရွယ်ဖြစ်သော်၊ အချစ်ရာဂ၊ မီးတွေထ၍၊ ဒေါသထန်ပြင်း၊ မောဟညှဉ်း၏၊

မကင်းနိုင်အောင်၊ ထို့နောက်နောင်လည်း၊ ပြောင်ပြောင်ညီးညီး၊ သောကမီးကြောင့်၊ ဝမ်းနည်းဖွယ်တွေ၊ အထွေထွေနှင့်၊ ပရိဒေဝ၊ ငိုကြွေးကြဖို့၊ ဒုက္ခလည်းထပ်၊ ဒေါမနဿနှင့်၊ ဆတ်ဆတ်မက္ခာ၊ ဥပါယာသ၊ လွန်ပြင်းပြ၍၊ သက်မျှမရှူ၊ တက်အောင်ပူသည်၊ ဆူဆူ ဆယ့်တစ်မီးတောက်တည်း။'

## ရဟန္တာတစ်ထောင် ခြံရံပြီး ရာဇဂြိုဟ် သာသနာပြုခရီးကြွ

အရှင်ဥရုဝေလကဿပ အမှူးပြုတဲ့ ရဟန်းသစ်တစ်ထောင် ရဟန္တာဖြစ်ပြီးတဲ့နောက် မြတ်စွာဘုရားရှင်ဟာ ရဟန္တာတစ်ထောင် ခြံရံပြီး ရာဇဂြိုဟ်မြို့ကို ကြွချီတော်မူခဲ့ပါတယ်။

ဘုရားအလောင်းတော် တောထွက်စဉ်က ပဏ္ဍဝတောင်ဝှမ်းမှာ ရာဇဂြိုဟ်ပြည့်ရှင် ဘုရင်ဗိမ္ဗိသာရနဲ့ တွေ့လို့ ဗိမ္ဗိသာရမင်းက "ဘုရားဖြစ်ပြီးလျှင် ပထမဦးဆုံး ရာဇဂြိုဟ်ကို ကြွရောက် ချီးမြှောက်တော်မူပါ"လို့ ပင့်လျှောက်ခဲ့ပါတယ်။ ဘုရားအလောင်းကလည်း ကတိပဋိညာဉ်ပေးခဲ့ပါတယ်။ ဒါကြောင့် မြတ်စွာဘုရားဟာ ရဟန္တာတစ်ထောင် ခြံရံပြီး ရာဇဂြိုဟ်ကို ကြွတော်မူရခြင်း ဖြစ်ပါတယ်။

ရာဇဂြိုဟ်ရောက်တဲ့ အခါ ထန်းတောဥယျာဉ်မှာ သီတင်းသုံးနေတော်မူပါတယ်။ ဒီအခါ ဗိမ္ဗိသာရမင်းလည်း မြတ်စွာဘုရားရှင်ဟာ ရဟန္တာတစ်ထောင်နဲ့အတူ ထန်းတောဥယျာဉ်ကို ရောက်နေပြီ ဆိုတဲ့အကြောင်း ကြားသိတာနဲ့ တစ်ပြိုင်နက် သူ့ရဲ့နယ်ပယ်ဖြစ်တဲ့ အင်္ဂတိုင်း၊ မဂဓတိုင်း နှစ်တိုင်းက ပုဏ္ဏားပညာရှိတွေ၊ သူဌေးသူကြွယ်တွေ အမှူးပြုတဲ့ တိုင်းသူတိုင်းသား တစ်သိန်း နှစ်သောင်းနဲ့အတူ မြတ်စွာဘုရားကို သွားရောက် ဖူးမြော် ကန်တော့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ ပရိသတ် အားလုံးကို ကြည့်တော်မူလိုက်တဲ့ အခါ လူတော်တော်များက အရှင်ဥရုဝေလကဿပအပေါ် အထူးအလေးပေးပြီး အရိုအသေ ပြုနေတာကို မြင်တွေ့တော်မူခဲ့ပါတယ်။ အဲဒီ လူတွေက အရှင်မြတ်ကို ရသေ့ဘဝတုန်းက ကိုးကွယ်ဆည်းကပ်ခဲ့ဖူးတဲ့ လူတွေပါ။ ဒီအခါ မြတ်စွာဘုရားက 'သြော်... ဒီလူတွေဟာ ငါကပဲ ဥရုဝေလထက် ပိုကြီးမြတ်တဲ့ သူလား၊ ဒါမှမဟုတ် ဥရုဝေလကပဲ ငါ့ထက် ပိုပြီး ကြီးမြတ်တဲ့ သူလား ဆိုတာ မသိနိုင်၊ မဝေခွဲနိုင် ဖြစ်နေကြရှာတယ်၊ ဒီလို အတွေးသံသယ ရှိနေတဲ့ ဒီလူတွေဟာ ငါဟောတဲ့ တရားဒေသနာအပေါ်မှာလည်း အာရုံစူးစိုက်နိုင်မှာ မဟုတ်ဘူး' လို့ ဉာဏ်တော်နဲ့ သိရှိတော်မူလိုက်ပါတယ်။

ဒါကြောင့် မြတ်စွာဘုရားက အရှင်ဥရုဝေလကဿပမထေရ်ကို "ကဿပ... သင့် ဒကာ၊ ဒကာမတွေရဲ့ သံသယဝင်နေတဲ့ အတွေးကို ဖယ်ရှားဖြတ်တောက်ပေးလိုက်ပါ" လို့ မိန့်တော်မူပါတယ်။ မထေရ်မြတ်ဟာ မြတ်စွာဘုရားစကားကို လက်ခံတော်မူပြီးနောက် ထိုင်နေရာမှ ထ၊ ထိခြင်း ငါးပါးနဲ့ ရှိခိုးကန်တော့၊ ထန်းတစ်ပင်စာ လောက်မြင့်တဲ့ ကောင်းကင်ပေါ် တန်ခိုးနဲ့ ပျံတက်လိုက်ပြီး တန်ခိုးအမျိုးမျိုး ပြတော်မူပါတယ်။ ဒီ့နောက်မှာတော့ "မြတ်စွာဘုရား၊ အရှင်ဘုရားဟာ တပည့်တော်ရဲ့ ဆရာပါ ဘုရား၊ တပည့်တော်ဟာ အရှင်ဘုရားရဲ့ တပည့်ပါ၊ မြတ်စွာဘုရား... အရှင်ဘုရားဟာ တပည့်တော်ရဲ့ ဆရာပါ၊ တပည့်တော်ဟာ အရှင်ဘုရားရဲ့ တပည့်ပါ ဘုရား" လို့ နှုတ်က ဖွင့်ဟ လျှောက်ထားပြီး မြတ်စွာဘုရားခြေတော်ရင်း သက်ဆင်းကာ ရှိခိုးဦးချ ကန်တော့ပါတယ်။ ဒီနည်းအတိုင်း ခုနစ်ကြိမ်တိုင်တိုင် ထန်းခုနစ်ပင် မြင့်လောက်တဲ့ ပမာဏရှိတဲ့ ကောင်းကင်ယံအထိ တန်ခိုးနဲ့ ပျံတက်ပြီး တစ်ဖန် မြတ်စွာဘုရား

ခြေတော်ရင်း သက်ဆင်းကာ ရှိခိုးကန်တော့ပြီး သင့်တင့်လျောက်ပတ်တဲ့ နေရာမှာ ထိုင်နေတော်ခဲ့ပါတယ်။

အဲဒီ အခါမှာမှ လူတွေရဲ့ စိတ်ထဲမှာ မြတ်စွာဘုရားက အရှင်ဥရုဝေလကဿပထက် ပိုပြီး ကြီးမြတ်တဲ့ ရဟန်းမြတ်ဖြစ်တယ် ဆိုတာ သံသယတွေ ရှင်းသွားပါတယ်။ ဒီလို သံသယတွေ ရှင်းသွားတဲ့ အခါမှ မြတ်စွာဘုရားရှင်က အဲဒီ လူတွေကို သစ္စာလေးပါး တရားဒေသနာ ဟောကြားတော်မူပါတယ်။ တရားဒေသနာတော် အဆုံးမှာ ဗိမ္ဗိသာရမင်းကြီးဟာ ပုဏ္ဏား၊ သူကြွယ် တစ်သိန်း တစ်သောင်းတို့နဲ့အတူ သောတာပတ္တိဖိုလ်မှာ တည်ခဲ့ပြီး သောတာပန် အရိယာ ဖြစ်ခဲ့ပါတယ်။ ကျန်တဲ့ လူပေါင်း တစ်သောင်းကတော့ သရဏဂုံတည်ရုံပဲ ဖြစ်ခဲ့ပါတယ်။

## ရဟန္တာတစ်ထောင် တစည်းတလုံးတည်း အတူနေကြ

အရှင်ဥရုဝေလကဿပရဲ့ အခြံအရံ ပရိသတ် ရဟန္တာ တစ်ထောင်တို့ဟာ အတိတ်က အတူတကွ ဆည်းပူးခဲ့တဲ့ အထုံပါရမီ အတိုင်း 'ငါတို့မှာ ရဟန်းကိစ္စ အထွတ်အထိပ်ရောက် ပြီးမြောက်ခဲ့ပြီ၊ တခြား သွားပြီးတော့လည်း ဘာမှ လုပ်စရာ၊ ကျင့်စရာ အထွေအထူး မရှိတော့ဘူး' လို့ စဉ်းစားတွေးတောကာ အရှင်ဥရုဝေလကဿပမထေရ်ကိုပဲ ဝန်းရံပြီး တပေါင်းတစည်းတည်း နေထိုင်ခဲ့ကြပါတယ်။ အဲဒီ ရဟန်းတစ်ထောင်က တစ်ပါး တစ်ပါးကို တပည့်ရဟန်း တစ်ပါး တစ်ပါးစီ မွေးမြူစောင့်ရှောက်တဲ့အခါ အခြံအရံ ပရိသတ်ဟာ နှစ်ထောင်အထိ ရှိပါတယ်။ တကယ်လို့ တပည့်ရဟန်း နှစ်ပါးစီလောက် မွေးမြူစောင့်ရှောက်တဲ့ အခါမှာတော့ တပည့်အခြံအရံ တွေဟာ သုံးထောင်အထိ ရှိခဲ့ပါတယ်။

**မဟာပရိသတေဒဂ် ရတော်မူ**

ဒါကြောင့်ပဲ နောင်ပိုင်းကာလ သင့်တော်တဲ့ အချိန် ရောက်တဲ့ အခါ မြတ်စွာဘုရားရှင်က အရှင်ဥရုဝေလကဿပမထေရ်ကို ဇေတဝန်ကျောင်းတော်မှာ သံဃာပရိသတ် စုံလင်တဲ့ အချိန် "ရဟန်းတို့… တပည့်အခြံအရံ ပရိသတ် များစွာရှိကြတဲ့ ငါဘုရားရဲ့ တပည့်သာဝက ရဟန်းတော်တွေထဲမှာ ဒီ ဥရုဝေလကဿပ ရဟန်း ဟာ အသာဆုံး ဖြစ်ပေတယ်" လို့ မဟာပရိသတေဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဃ) အရှင် ဥရုဝေလ ကဿပမထေရ်ရဲ့ ကိုယ်တိုင်ဟောတရား

၁။ ငါဟာ ကျော်စောခြင်း ရှိတော်မူတဲ့ ဂေါတမမြတ်စွာဘုရားရဲ့ တန်ခိုးပြာဋိဟာတွေကို တွေ့မြင်နေရပေမယ့် မြတ်စွာဘုရားက မခြိမ်းခြောက်သေးသမျှ မနာလိုတဲ့ ဣဿာ၊ ထောင်လွှားတဲ့ မာန လှည့်ပတ်ခံနေရတဲ့ အတွက်ကြောင့် မြတ်စွာဘုရားကို ဦးမညွှတ်နိုင်ခဲ့၊ မကိုးကွယ်နိုင်ခဲ့ပါ။

၂။ လူတွေ၊ နတ်တွေကို ယဉ်ကျေးအောင် ဆုံးမတော်မူနိုင်တဲ့ မြတ်စွာဘုရားက ငါ့ရဲ့ မှားယွင်းနေတဲ့ အတွေးအကြံကို သိတော်မူလို့ ထိတ်လန့်စေတော်မူတယ်။ ဒါကြောင့် ရှေးက မဖြစ်ဖူးသေးတဲ့ ထိတ်လန့်မှု သံဝေဂဉာဏ်နဲ့ ကြက်သီး မွေးညင်းထမှုတွေ ငါ့မှာ ဖြစ်ပေါ်ခဲ့တယ်။

၃။ ဒီအခါ ရသေ့ဘဝတုန်းက ငါ့မှာ ရှိခဲ့တဲ့ ဘာမျှ မပြောပ လောက်တဲ့ လာဘ်ပူဇော်သကာ ပြည့်စုံမှုတွေကို ပယ်စွန့် လိုက်ပြီး မြတ်စွာဘုရား သာသနာမှာ ရဟန်းပြုခဲ့တယ်။

၄။ ငါဟာ အရင်က ကာမဘုံ ကာမလောကလောက်ကို ဦးတည်တဲ့ ယဇ်ပူဇော်ခြင်းနဲ့ပဲ နှစ်သက်ရောင့်ရဲ တင်းတိမ်နေ

ခဲ့တယ်။ ခုနေခါမှာတော့ တပ်မက်စွဲလမ်းမှု ရာဂ၊ အမျက်ထွက် မကျေနပ်မှု ဒေါသ၊ အမှန်မသိ တွေဝေမှု မောဟတွေကို ပယ်နုတ် ဖျက်ဆီးနိုင်ခဲ့ပြီ။

၅။ ငါဟာ ခုနေခါမှာ ရှေးဘဝတွေကို သိနိုင်တဲ့ ပုဗ္ဗေနိဝါသဉာဏ်၊ နတ်မျက်စိနဲ့တူတဲ့ ဒိဗ္ဗစက္ခုဉာဏ်၊ တန်ခိုးဖန်ဆင်းနိုင်တဲ့ ဣဒ္ဓိဝိဓဉာဏ်၊ သူတစ်ပါးစိတ်ကို သိနိုင်တဲ့ စေတောပရိယဉာဏ်၊ နတ်နားနဲ့ တူတဲ့ ဒိဗ္ဗသောတဉာဏ်တွေကို ရထားပြီးပြီ။

၆။ ရဟန်းဝတ်ကြတယ် ဆိုတာ အရဟတ္တဖိုလ် ရဖို့ရန်အတွက် ဝတ်ကြတာ ဖြစ်တယ်။ ငါဟာ ရဟန်းဘဝရဲ့ ပန်းတိုင်ဖြစ်တဲ့ သံယောဇဉ်နှောင်ကြိုးတွေ အားလုံး ကုန်ဆုံးရာ ဖြစ်တဲ့ အရဟတ္တဖိုလ်ကို ရခဲ့ပါပြီ။



လောကနယ်ပယ် အသီးသီးမှာ ရှိနေကြတဲ့ လူတွေတော်တော်များများဟာ အစစအရာရာ အရည်အချင်းကောင်းတွေ ရှိနေတဲ့သူတွေအပေါ်မှာ ကိုယ့်ထက်သာလွန်တဲ့ အစွမ်းသတ္တိတွေ ရှိမှန်းသိကြပေမယ့် ကိုယ့်ထက်သာ မနာလိုမှု ဣဿာနဲ့ ငါလည်း သူ့လောက်တော့ တတ်ပါတယ် ဆိုတဲ့ မာနတွေက နှလုံးဘဝင်မှာ လွှမ်းမိုးပိတ်ဆို့နေတာကြောင့် ဦးမညွတ်နိုင်၊ နေရာမပေးနိုင်၊ အသိအမှတ် မပြုနိုင်ဖြစ်နေတတ်ကြပါတယ်။

ဒီလို ဖြစ်တဲ့ အတွက်ကြောင့် ဣဿာနဲ့ မာန ဖိစီးခံထားရသူတွေရဲ့ ဘဝသမိုင်းတွေဟာ မလှပခဲ့ကြပါဘူး၊ သူတို့တင်မက သူတို့နဲ့ ဆက်စပ်နေတဲ့ လူတွေအားလုံးလည်း ဆင်းရဲဒုက္ခတွေ ဝေနေ

ခဲ့ရ၊ ဝေနေကြပါတယ်။ ဒါကို လက်ရှိကမ္ဘာ့သမိုင်း ဖြစ်ရပ်တွေက သက်သေခံ မီးမောင်းထိုးပြခဲ့၊ ထိုးပြနေဆဲ ဖြစ်ပါတယ်။ တကယ့် အရည်အချင်းကောင်းတွေ ပိုင်ဆိုင်ထားသူတွေကတော့ ဘယ်သူတွေက အသိအမှတ်ပြု ဦးညွှတ်သည်ဖြစ်စေ၊ အသိအမှတ်မပြု ဦးမညွှတ်သည် ဖြစ်စေ သူတို့ လျှောက်လှမ်းနေတဲ့ မှန်ကန်တဲ့ လမ်းကြောင်းပေါ်မှာ သစ္စာ၊ မေတ္တာ သူတော်ကောင်းဓာတ်တွေ ခိုင်ကျည်စွာနဲ့ လျှောက်မြဲ လျှောက်ခဲ့၊ လျှောက်လည်း လျှောက်လျက် ဆိုတာ ဆင်ခြင်စဉ်းစား တတ်တဲ့ အသိဉာဏ်ရှိသူတိုင်း သိနေကြမှာပါ။

အခု အရှင်ဥရုဝေလကဿပအရှင်မြတ်ဟာ အစပထမ မှာတော့ ကိလေသာနဲ့ မာန ဖိစီးနေတဲ့ အတွက် မြတ်စွာဘုရားအပေါ် ဦးမညွှတ်နိုင်၊ မကိုးကွယ် မဆည်းကပ်နိုင် ဖြစ်နေခဲ့ပါတယ်။ နောက် ပိုင်းမှာတော့ ကိလေသာနဲ့ မာနကို ဖယ်ရှားလိုက်နိုင်လို့ သူတင်မက သူနဲ့ ဆက်စပ်နေတဲ့ ရသေ့တစ်ထောင်တို့ပါ အရဟတ္တဖိုလ် ဆိုတဲ့ အမြင့်ဆုံး လောကုတ္တရာ တရားထူးကို ရရှိခဲ့ကာ အောင်ပွဲခံနိုင်၊ သမိုင်းကောင်းတွေ မော်ကွန်းတင် ရေးထိုးနိုင်ခဲ့ပါတယ်။

ဒါကြောင့် နယ်ပယ် အသီးသီးမှာ ရှိနေကြတဲ့ အသင်တို့ရော အကျွန်ုပ်တို့ပါ မိမိတို့ရဲ့ ဘဝသမိုင်းတွေကို ကောင်းကောင်းမွန်မွန် မော်ကွန်းတင် ရေးထိုးလိုကြတယ်၊ မိမိတို့နဲ့ ဆက်စပ်နေတဲ့ လောကလူ့ဘောင်ကိုလည်း သာယာ အေးချမ်းစေချင်ကြတယ် ဆိုရင်ဖြင့်။။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၃၀။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၄၈၈။
၃။ ဝိနည်းမဟာဝါ ပါဠိတော်၊ ၃၂။

၄။ ဝိနည်းမဟာဝါ ဘာသာဋီကာ၊ ၁။ ၄၆၃။
၅။ အပဒါနအဋ္ဌကထာ၊ ၂။ ၂၄၁။
၆။ ထေရဂါထာပါဠိ၊ ၂၈၂။
၇။ ထေရဂါထာအဋ္ဌကထာ၊ ၂။ ၇၈။

ဆွေတော်မျိုးတော်များကို ထဗ္ဗါတရားဖြစ်စေတဲ့အရာ ဇာတာဆုံး

ကုလဝသောဒဏေတောဒဝ်ရ

# အရှင်ကောဏ္ဍဒါယိ မထေရ်





“ဆန်စပါး လိုချင်လို့ ကောက်စိုက်တာ၊ အသီးအပွင့်တွေ စားသုံးချင်လို့ သစ်ပင်ပန်းမန်တွေ စိုက်ပျိုးတာ၊ အမြတ်အစွန်းရချင်လို့ အရောင်းအဝယ် လုပ်ကြတာ၊ ဘုရားပင့်ချင်လို့ အရှင့်ထံပါး ရောက်နေတာပါ”တဲ့။

အရှင်ကာဠုဒါယီမထေရ်က ဘုရားထံပါး သူ ရောက်နေရခြင်းရဲ့ ရည်ရွယ်ချက်ကို ရိုးရှင်းတဲ့ ဥပမာတွေနဲ့ တင်စားပြီး လှစ်ဟပြခဲ့တယ်။ အရှင်ရဲ့ ဒီအပြောက မိမိတို့တစ်တွေ ဘာအတွက် ဘာတွေလုပ်နေကြတာလဲ ဆိုတဲ့ ကိုယ့်ကိုယ်ကိုယ် နေ့စဉ် စောကြောစရာမေးခွန်းကိုလည်း နှလုံးသားထဲ ရောက်လာစေတယ်။ လူတိုင်းမှာ အိပ်မက်တွေ၊ မျှော်လင့်ချက်တွေ ရှင်သန်နေဖို့နဲ့ ဒီရည်မှန်းချက်တွေနဲ့ ထိုက်တန်တဲ့ လုပ်ဆောင်ချက်တွေ ရှိနေဖို့ အရေးကြီးတယ် ဆိုတာကိုလည်း မီးမောင်း ထိုးပြနေသလို ရှိလှပါတယ်။

"ကောက်စပါးတွေကို အခါခါ စိုက်ကြ၊ ပျိုးကြတယ်၊ မိုးကလည်း ထပ်တလဲလဲ ရွာတယ်၊ လယ်ယာတွေကို အကြိမ်ကြိမ် ထွန်ကြယက်ကြတယ်၊ စားနပ်ရိက္ခာတွေ ရပ်ထဲရွာထဲ နေ့စဉ် ရက်ဆက် ယူဆောင်လာကြတယ်၊ ဒီဥပမာတွေလိုပါပဲ ရှင်တော်ဘုရားကို မွေးရပ်မြေကြွဖို့အရေး တပည့်တော် ထပ်ကာ ထပ်ကာ လျှောက်ထားရတာပါ"

သူ ဘာကြောင့် အဆက်မပြတ် လျှောက်ထား တောင်းပန်နေရတယ် ဆိုတာကိုလည်း အခုလို သိလွယ်မြင်လွယ်တဲ့ မြင်ကွင်းတွေနဲ့ နှိုင်းခိုင်းပြီး လျှောက်လဲချက် ပေးခဲ့ပါတယ်။

အရှင်မြတ်ရဲ့ ဒီလျှောက်လဲချက်က 'ကိုယ်ဖြစ်ချင်တဲ့ အရာကို တစ်ကြိမ်မက အကြိမ်ကြိမ်၊ တစ်ခါမက အခါခါ အဆက်မပြတ် မရပ်တမ်း မနားတမ်း ကြိုးပမ်းရမယ်' ဆိုတဲ့ ဘဝအသိကို ပိုပြီး ခိုင်ကျည်နေအောင် အထောက်အကူ ဖြစ်စေလှပါတယ်။

ဒီလို အဖိုးတန် စိတ်ခွန်အားတွေ၊ စိတ်စွမ်းအင်တွေ ရရှိဖို့အတွက် အရှင်ကာဠုဒါယီမထေရ်မြတ်ရဲ့ ဘဝရပ်ပုံလွှာကို သဒ္ဓါစိတ်နဲ့ အာရုံထဲမှာ ပုံဖော်ကြည့်ကြပါစို့။

## (က) အရှင်မြတ် ရတဲ့ ဧတဒဂ်အဓိပ္ပာယ်

အရှင်ကာဠုဒါယီမထေရ်ဟာ မြတ်စွာဘုရားကို မဖူးတွေ့ရသေးတဲ့ သုဒ္ဓေါဒနမင်းကြီးရဲ့ နန်းတော်တွင်းမှာ ရှိတဲ့ ဆွေတော်မျိုးတော်တွေကို မြတ်စွာဘုရားအပေါ်မှာ ကြည်ညိုတဲ့ သဒ္ဓါစိတ်တွေ ဖြစ်လာအောင် ဟောနိုင်ပြောနိုင်တဲ့ မထေရ် ဖြစ်ပါတယ်။ ဒါကြောင့် ဆွေတော်မျိုးတော်တွေကို သဒ္ဓါတရား ဖြစ်စေနိုင်သူတွေထဲမှာ အသာဆုံးလို့ အဓိပ္ပာယ်ရတဲ့ ကုလပသာဒကဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်က ပါရမီဖြည့်ပုံနဲ့ ဆုတောင်း

အရှင်မြတ်အလောင်းတော်လည်း ပဒုမုတ္တရာဘုရားရှင်လက်ထက်တော်မှာ ဟံသာဝတီ မင်းနေပြည်က သူဌေးသူကြွယ်မျိုးမှာ ဖြစ်ခဲ့တယ်။ အရွယ်ရောက်တဲ့ အခါ မြတ်စွာဘုရား တရားတော်ကို သွားရောက် နာယူခဲ့ပါတယ်။ ဒီအခါ ပဒုမုတ္တရမြတ်စွာဘုရားက ရဟန်းတစ်ပါးကို ဆွေတော်မျိုးတော်တွေကို သဒ္ဓါတရား ဖြစ်စေနိုင်တဲ့ အရာ အသာဆုံး (ကုလပသာဒက) ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။ ဒီမြင်ကွင်းကို မြင်တွေ့လိုက်ရတာနဲ့ အရှင်မြတ်လောင်းလည်း အားကျစိတ် ဖြစ်ပြီး ဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို ပင့်ဖိတ်၊ ကုသိုလ်ကောင်းမှု ပြုလုပ်ကာ ဒီ ကုလပသာဒကဧတဒဂ် ရလိုကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။

## (ဂ) ပစ္ဆိမဘဝ ဇာတ်ကြောင်းနဲ့ ရဟန်းပြုပုံ

အရှင်မြတ်အလောင်းတော်ဟာ ဆုပန်ဗျာဒိတ်ခံပြီးတဲ့နောက် အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကုသိုလ်ကောင်းမှုတွေကို ပြုလုပ်ခဲ့တယ်။ အဲဒီ ဘဝကနေ ကွယ်လွန်တဲ့ အခါ နတ်ပြည်၊ လူ့ပြည်တွေမှာ အကြိမ်ကြိမ်အခါခါ ဖြစ်ခဲ့တယ်။ ဒီ့နောက်မှာတော့ အကျွန်ုပ်တို့ရဲ့

ဂေါတမမြတ်စွာဘုရား အလောင်း ပဋိသန္ဓေ တည်နေတဲ့ နေ့မှာပဲ အရှင်မြတ်အလောင်းလည်း ကပိလဝတ် နေပြည်တော်က အမတ်တစ်ဦးရဲ့ အိမ်မှာ ပဋိသန္ဓေ တည်နေခဲ့ပါတယ်။ မွေးဖွားပြန်တော့လည်း ဘုရားအလောင်းနဲ့အတူ တစ်နေ့ထဲ ဖွားမြင်ခဲ့တယ်။ ဒ့ါကြောင့် အရှင်မြတ်အလောင်း သူငယ်လေးကို ဘုရားအလောင်းတော်နား ဆောင်ယူခဲ့ပြီး ဖွားဖက်တော်အဖြစ် ဘုရားအလောင်းနဲ့အတူ ကြည့်ရှု စောင့်ရှောက်ခဲ့ကြတယ်။

## ဖွားဖက်တော် ခုနစ်မျိုး

ဟုတ်ပါတယ်၊ မြတ်စွာဘုရားမှာ ဖွားဖက်တော် ခုနစ်မျိုး ရှိပါတယ်။ ဗောဓိပင်၊ ရာဟုလာမယ်တော်၊ ရွှေအိုးကြီး လေးလုံး၊ စီးတော်ဆင်၊ ကဏ္ဍကမြင်း၊ ဆန္နအမတ်နဲ့ ကာဠုဒါယီအမတ်တို့ဟာ ဘုရားအလောင်း ဖွားမြင်တဲ့ နေ့မှာပဲ ဖြစ်လာ၊ မွေးဖွားလာကြတာ ဖြစ်ပါတယ်။ ဒါကြောင့် ဒီ ခုနစ်မျိုးကို ဖွားဖက်တော် ခုနစ်မျိုးလို့ မှတ်တမ်း ရေးထိုးခဲ့ကြတယ်။

## ကာဠုဒါယီ အမည်တွင်ခဲ့ပုံ

အဲဒီ အချိန်က ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားလေး ဖွားမြင်တဲ့အတွက် ကပိလဝတ် တစ်မြို့လုံးက မြို့တော်သူမြို့တော်သား တွေဟာ ဝမ်းပန်းတသာ ပျော်ရွှင်နေကြ၊ စိတ်တွေ ရွှင်လန်း တက်ကြွ နေခဲ့ကြတယ်။ အဲဒီလို မြို့တော်တစ်မြို့လုံးက လူတွေ ပျော်ရွှင်လန်းဆန်း တက်ကြွနေတဲ့ နေ့မှာ အရှင်မြတ်အလောင်းကို မွေးခဲ့တာမို့ အရှင်မြတ်ရဲ့ အမည်ကို ‘ဥဒါယီ’ လို့ နာမည် မှည့်ခေါ်ခဲ့ကြတယ်။ နောက်ပိုင်းမှာတော့ အရှင်မြတ်အလောင်းရဲ့ အသားအရောင်လေးက နည်းနည်း မည်းနေတာမို့ ‘ကာဠ’ ဆိုတဲ့ ပုဒ်ကလေး ရှေ့က ထည့်စွက်ပြီး ‘ကာဠုဒါယီ’ ရယ်လို့ အမည်နာမ တွင်ခဲ့ပါတယ်။ ကာဠုဒါယီ

သူငယ်ဟာ ဘုရားလောင်းရဲ့ ဖွားဖက်တော်ဖြစ်တာမို့ ဘုရားအလောင်းနဲ့အတူ ဆော့ကစားရင်း ကြီးပြင်းခဲ့ပါတယ်။

## ဘုရားပင့်သွားတဲ့ အမတ်နဲ့ မင်းချင်းတွေ ရဟန္တာဖြစ်

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ ဘုရားအလောင်းတော်ဟာ တောထွက်ပြီး တရား အားထုတ်ခဲ့တယ်။ ခြောက်နှစ်ကြာတဲ့အခါ သဗ္ဗညုဘုရားအဖြစ်သို့ ရောက်တော်မူတယ်။ ဒီနောက်မှာတော့ ပဉ္စဝဂ္ဂီငါးပါး စတဲ့ ကျွတ်ထိုက်တဲ့ ပုဂ္ဂိုလ်တွေကို ဓမ္မစကြာ စတဲ့ တရားဒေသနာတွေ ဟောကြားပြီး မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတွေ ရတဲ့အထိ ချီးမြှောက်တော်မူရင်း ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်ဆီ ရောက်ရှိ သီတင်းသုံးနေတော်မူခဲ့ပါတယ်။ အဲဒီ အချိန်ဟာ မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ပြာသိုလပြည့်ကျော်စ ကာလအချိန်ဖြစ်ပါတယ်။

ဒီအချိန်မှာ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးဟာ 'သားတော် သိဒ္ဓတ္ထမင်းသား ဘုရားဖြစ်ပြီးတဲ့ နောက် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူတယ်' ဆိုတဲ့ သတင်းစကားကြားသိခဲ့တယ်။ ဒါကြောင့် မွေးရပ်မြေ ကပိလဝတ်ပြည်ကို သားတော်ဘုရား ကြွချီတော်မူပါမည့်အကြောင်း ပင့်လျှောက်ဖို့ရန်အတွက် အမတ်တစ်ယောက်ကို နောက်လိုက်မင်းချင်း တစ်ထောင်နဲ့အတူ ဘုရားပင့် စေလွှတ်လိုက်ပါတယ်။ အမတ်နဲ့ မင်းချင်းတွေဟာ ကပိလဝတ်ကနေ ယူဇနာ ၆၀ ကွာဝေးတဲ့ ရာဇဂြိုဟ်ဆီ ခရီးနှင်ခဲ့ကြပြီး ဝေဠုဝန်ကျောင်းတော်ကို ရောက်လာခဲ့ကြတယ်။

အဲဒီ အချိန်က မြတ်စွာဘုရားရှင်ဟာ ပရိသတ်လေးပါးအလယ် ထိုင်နေတော်မူပြီး တရားဒေသနာ ဟောကြားနေတဲ့အချိန် ဖြစ်ပါတယ်။ ဒီအခါ အမတ်နဲ့ မင်းချင်းတစ်ထောင်တို့ဟာ 'မင်းကြီး မှာကြားလိုက်တဲ့ သတင်းစကား နောက်မှပဲ လျှောက်တော့မယ်၊ အခုတော့

တရားတော်ပဲ အရင်နာလိုက်ပါဦးမယ်’လို့ တွေးကြံပြီး ပရိသတ် အစွန်ကနေ မတ်တတ်ရပ်ကာ မြတ်စွာဘုရားဟောတဲ့ တရားကို စူးစူး စိုက်စိုက် နာခဲ့ကြတယ်။ မတ်တတ်ရပ် တရားနာရင်းပဲ အမတ်နဲ့ မင်းချင်းတွေဟာ ရဟန္တာဖြစ်ခဲ့ကြတယ်။

ဒီအခါ မြတ်စွာဘုရားက လက်ယာလက် ဆန့်တန်းပြီး “ရဟန်းတို့၊ လာခဲ့ကြ”လို့ မိန့်တော်မူလိုက်တယ်။

အဲဒီလို မိန့်လိုက်တဲ့ အချိန်မှာပဲ အမတ်နဲ့ မင်းချင်း တစ်ထောင် တို့ဟာ တန်ခိုးနဲ့ ပြီးတဲ့ သပိတ်၊ သင်္ကန်းတွေ ဝတ်ရုံ၊ လွယ်သိုင်း ထားပြီး ဝါတော် ၆၀ ရ မထေရ်လို ‘ဧဟိဘိက္ခုရဟန်း’ ဖြစ်ကုန်ကြ တယ်။

ရဟန္တာပုဂ္ဂိုလ်တွေ ဆိုတာ လောကီကိစ္စတွေကို လျစ်လျူရှုမြဲ ဓမ္မတာသဘော ရှိပါတယ်။ ဒါကြောင့် အရှင်မြတ်တွေဟာ ရဟန္တာ ဖြစ်ပြီးတဲ့နောက် သုဒ္ဓေါဒနမင်းကြီး မှာလိုက်တဲ့ သတင်းစကားကို မြတ်စွာဘုရားထံ မလျှောက်ကြတော့ပါဘူး။

သုဒ္ဓေါဒနမင်းကြီးလည်း ‘ဩော်… သွားသူလည်း ပြန်မလာ၊ ဘာသတင်းစကားမှလည်း မကြားရပါလား’လို့ စဉ်းစားပြီး နောက်ထပ် အမတ်တစ်ယောက်နဲ့ မင်းချင်းတစ်ထောင်ကို ဘုရားပင့် စေလွှတ်ခဲ့ပြန် ပါတယ်။ ဒီအမတ်နဲ့ မင်းချင်းတွေလည်း အရင်အမတ်တွေလို တရား နာပြီး ရဟန္တာဖြစ်ကုန်ကြတယ်။ ဒီပုံဒီနည်းအတိုင်း သုဒ္ဓေါဒန မင်းကြီးဟာ ကိုးကြိမ်တိုင်တိုင် အမတ်နဲ့မင်းချင်းတွေကို ဘုရားပင့် စေလွှတ်ခဲ့ပြီး ဘုရားပင့်သွားတဲ့ အမတ်နဲ့ မင်းချင်းမှန်သမျှလည်း မြတ်စွာဘုရားရဲ့ တရားနာပြီး ရဟန္တာ ဖြစ်ကုန်ကြတယ်။ ရဟန္တာ မထေရ် အားလုံးလည်း သူတို့ကိစ္စ ပြီးတာနဲ့ မင်းကြီးမှာလိုက်တဲ့ သတင်းစကားကို မြတ်စွာဘုရားထံ မလျှောက်ခဲ့ကြတော့ပါဘူး။

## ကာဠုဒါယီအမတ်ကို ဘုရားပင့်ရန် စေလွှတ်

နောက်ဆုံးတော့ သုဒ္ဓေါဒနမင်းကြီးမှာ 'ဩော်… ဘုရားပင့် လွှတ်လိုက်တဲ့ အမတ်နဲ့ မင်းချင်းတွေဟာ ငါ့အပေါ် မြတ်နိုးချစ်ခင်မှု မရှိကြလို့သာ သားတော်ဘုရား ငါ့ဆီ ကြွဖို့ မလျှောက်ထားကြတာပဲ၊ ဒီပြင်လူတွေ လွှတ်ရင်လည်း ဘာမှ ထူးမှာ မဟုတ်ဘူး၊ ငါ့သားတော် ဥဒါယီအမတ်ကတော့ သားတော်ဘုရားနဲ့ အရွယ်တူ၊ ငယ်ပေါင်း ကြီးဖော် ကစားဖော်ကစားဖက် ဖြစ်တယ်၊ ငါ့အပေါ်မှာလည်း ချစ်ခင် မြတ်နိုးမှု ရှိတယ်၊ သူ့ကို ဘုရားပင့် စေလွှတ်ရရင် ကောင်းမယ်'လို့ စိတ်အကြံ ဖြစ်ခဲ့တယ်။

ဒါနဲ့ သုဒ္ဓေါဒနမင်းကြီးဟာ ကာဠုဒါယီ အမတ်ကို ခေါ်ပြီး "ချစ်သား၊ အမတ်တစ်ထောင် ခြံရံပြီး သားတော်ဘုရားကို သွားရောက် ပင့်ဆောင်ချေ"လို့ စေလွှတ်လိုက်ပါတယ်။

ဒီအခါ ကာဠုဒါယီအမတ်က "အရှင်မင်းကြီး၊ အကျွန်ုပ်လည်း အရင် ဘုရားပင့်သွားကြတဲ့ အမတ်တွေလို ရဟန်းပြုခွင့်ရမယ် ဆိုရင် ဘုရား ပင့်ဆောင်ပေးပါ့မယ်"လို့ ခွင့်တောင်းခဲ့ပါတယ်။

သုဒ္ဓေါဒနမင်းကြီးလည်း "ချစ်သား၊ သင် ကြိုက်သလို ရဟန်းပြုချင်လည်း ပြုပါ၊ ဒါပေမဲ့ သားတော်ဘုရားကိုတော့ ငါ့ဆီ မရောက် ရောက်အောင် ပင့်ဆောင်ပေးပါ"လို့ ခံဝန်ချက်တောင်းပြီး ခွင့်ပြုစကား မိန့်ကြားခဲ့ပါတယ်။

## ကာဠုဒါယီအမတ် ရဟန္တာဖြစ်

ကာဠုဒါယီအမတ်လည်း မင်းကြီးထံက သတင်းစကား ယူဆောင်ပြီး ဘုရားပင့်ဖို့ ရာဇဂြိုဟ်ကို ထွက်လာခဲ့တယ်။ ဝေဠုဝန် ကျောင်း ရောက်တဲ့ အခါ မြတ်စွာဘုရား တရားဟောနေတဲ့ အချိန် ဖြစ်နေတာမို့ ပရိသတ်အစွန်ကနေ ရပ်ပြီး တရားတော်နာယူခဲ့ပါတယ်။ တရားနာနေရင်းနဲ့ပဲ ကာဠုဒါယီအမတ်နဲ့ မင်းချင်းတွေဟာ အရဟတ္တ

ဖိုလ်ဉာဏ် ရရှိခဲ့ပြီး ရဟန္တာတွေ ဖြစ်ခဲ့ကြတယ်။ 'ဧဟိဘိက္ခု ရဟန်း' အဖြစ်ကိုလည်း ရရှိခဲ့ကြတယ်။

**ကာဠုဒါယီမထေရ် ဘုရားပင့်**

ကာဠုဒါယီမထေရ်ဟာ ရဟန္တာဖြစ်ပြီးတဲ့ အခါ မြတ်စွာဘုရားရှင် ကပိလဝတ် မွေးရပ်မြေဆီ ကြွချီဖို့ အချိန်မတန်သေးတာမို့ သင့်တော်တဲ့ ကာလတစ်ခုကို စောင့်စားနေခဲ့တယ်။ ဒီလိုနဲ့ ဟေမန် ဆောင်းလတွေ ကုန်လို့ ဂိမှာန်နွေဦးကာလဆီ ရောက်လာခဲ့ပြီ၊ လယ်သမားတွေလည်း ကောက်ပဲသီးနှံတွေ ရိတ်သိမ်းပြီးကုန်ကြပြီ၊ တောအုပ်တောတန်းတွေမှာလည်း ရွက်ဟောင်းတွေ ကြွေလို့ ရွက်သစ်တွေ ဝေနေတဲ့ အချိန်၊ ပထဗျာမြေအပြင်မှာလည်း စိမ်းလန်းတဲ့ မြက်တွေ ဖုံးလွှမ်းနေဆဲ၊ သွားလမ်းလာလမ်း ဖြောင့်တန်းသာယာတဲ့ ဆောင်းနှောင်းနွေဦးကာလ ရောက်လာတဲ့ အခါ အရှင်ကာဠုဒါယီမထေရ်က မွေးရပ်ဇာတိ ကပိလဝတ်ရွှေနန်းဆီ ကြွချီသင့်ပါပြီ ဆိုတဲ့ အကြောင်း ဂါထာပေါင်း ခြောက်ဆယ်နဲ့ မြတ်စွာဘုရားကို တောင်းပန် လျှောက်ထားခဲ့ပါတယ်။

ဂါထာခြောက်ဆယ်ထဲက ထေရဂါထာ အဋ္ဌကထာမှာ မှတ်တမ်းတင်ထားတဲ့ ခုနစ်ဂါထာကို ဖော်ပြပါ့မယ်။

၁။ ပွင့်လို သီးလိုတဲ့ ထိုထို သစ်ပင်တွေဟာ
ရော်ရွက်ဝါတွေ ကြွေလို့
မီးကျီးအသွေး နီတွေးတဲ့
ပုရစ်ဖူးတွေလည်း ထွက်ပြူနေပါပြီ။
ရွက်နုတွေ ဝေစပြုနေတဲ့ သစ်ပင်တွေကလည်း
နေရောင်ထဲမှာ တဖိတ်ဖိတ် တလက်လက်
လင်းလဲ့တောက်ပနေပါပြီ။
အို၊ မဟာဝီရ မြတ်ဗုဒ္ဓ၊

မွေးရပ်ဇာတိ ကပိလဝတ်ဆီ ကြွချီဖို့ရန်
အချိန်တန်ပါပြီ ဘုရား။
၂။ သစ်ပင်တွေထက်ဆီ
ပန်းတွေလည်း ဝေနေပြီမို့
နှလုံးမွေ့လျော် ပျော်ဖွယ်ရာအတိ ရှိနေပါ၏။
အရပ်လေးမျက်နှာဆီ
ပန်းရနံ့တွေလည်း သင်းပျံ့နေပြီမို့
ကြိုင်လျက် လှိုင်လျက် ရှိနေပါ၏။
အကိုင်းအခက်တွေဆီကနေ
သီးကင်းတွေလည်း သီးနေကြပြီမို့
မြင်ရသူ စိတ်ဝမ်း အေးချမ်းပါ၏။
အို၊ မဟာဝီရ မြတ်ဗုဒ္ဓ၊ .
မွေးရပ်ဇာတိ ကပိလဝတ်ဆီ ကြွချီဖို့ရန်
အချိန်တန်ပါပြီ ဘုရား။
၃။ ချိန်ခါယခု ဥတုရာသီကလည်း
မအေးလွန်း မပူလွန်းမို့
ခရီးရှည် ကြွချီလှမ်းဖို့ရန်
လျော်ကန် သင့်မြတ်လှပါ၏။
ရောဟိနီမြစ် တစ်ဖက်ကမ်းဆီ
ကြွချီလာတဲ့ ရှင်တော်ဗုဒ္ဓကို
ကောဠိယနဲ့ သာကီ
သည်နှစ်လီ ဆွေညီညာတို့
ကြည်သာစွာ ဖူးကြစေသား။
၄။ လယ်သမားတွေ
ဆန်ရေစပါး ရလိုငြားမို့
လယ်ယာမြေတွေ ထွန်ယက်ပေ၏။

ကောက်ပဲသီးနှံ ရချင်ပြန်၍
မျိုးစေ့အများ စိုက်ပျိုးထား၏။
ဥစ္စာစုဆောင်း ကုန်သည်ပေါင်းတို့
အစွန်းအမြတ် ရလိုလတ်၍
ရောင်းကြ ဝယ်ကြ ကုန်သွယ်ကြ၏။
ကာဋ္ဌမည်တွင် တပည့်ရှင်လည်း
ရှင်တော်ဗုဒ္ဓ ကပိလဝတ်ကြွရန်
စိတ်ရည်သန်၍ ဤမှာရပ်ကာ နေခဲ့ပါ၏။
တပည့်တော်၏ တောင့်တအာသာ
လျှင်စွာခဏ ပြည့်ဝရပါလို၏။
၅။ လယ်ယာသမား မျိုးစေ့များကို
ထပ်ကာ ထပ်ကာ စိုက်ပျိုးပါ၏။
ပဇ္ဇုန်မည်သာ မိုးဒေဝါလည်း
ထပ်ကာ ထပ်ကာ သွန်းဖြိုးရွာ၏။
လယ်ယာသမား လယ်မြေများကို
ထပ်ကာ ထပ်ကာ ထွန်ယက်ပါ၏။
စားနပ်ရိက္ခာ အဖြာဖြာလည်း
တိုင်းရပ်ဌာနေ အပြည့်ပြည့်သို့
ထပ်ကာ ထပ်ကာ ရောက်ရှိပါ၏။
၆။ တောင်းစားကြရှာ ယာစကာတို့
ထပ်ကာ ထပ်ကာ လှည့်လည်ပါ၏။
စိတ်ထားကြည်လင် ဒါနရှင်လည်း
ထပ်ကာ ထပ်ကာ လှူဒါန်းပါ၏။
ထပ်ကာ ထပ်ကာ လှူဒါန်းပါ၍
မွေ့လျော်ဌာနီ နတ်တို့ဆီလည်း
ထပ်ကာ ထပ်ကာ ရောက်ကြပါ၏။

ထို့ကြောင့်သာပင်
ကာဠုမည်တွင် တပည့်ရှင်လည်း
ရှင်တော်ဗုဒ္ဓ ကပိလဝတ်ကြွဖို့
ထပ်ကာ ထပ်ကာ တောင်းပန်ပါ၏။

၇။ ပညာရှိပုဂ္ဂိုလ် ရှိပါသည့် ထိုအမျိုး
ဆွေခုနစ်ဆက် မျိုးခုနစ်ဆက်တိုင်
စင်ကြယ်စေနိုင်သတဲ့၊
နတ်တကာတို့ထက် မြတ်သထက် မြတ်ပါသည့်
သာကီနွယ်ဖွား မြတ်ဗုဒ္ဓ ဘုရားရှင်ကတော့
မကောင်းတာတွေ မလုပ်ဖို့ တားမြစ်ခြင်း
ကောင်းတာတွေ လုပ်ဖို့ ညွှန်ကြားခြင်းတွေနဲ့
ရှင်တော်ရဲ့ တပည့်အစဉ်အဆက်ကို
လောကပညာရှိ သတ်မှတ်သည့် သူထက်
အဆပေါင်း သိန်းသောင်းမက သာအောင်
ပို၍ ပို၍ စင်ကြယ်စေနိုင်တယ် ဆိုတာ
သံသယမရှိ ကာဠုသမုတ် အကျွန်ုပ်
လုံးဝ လုံးဝ ယုံကြည်ပါ၏။
မိမိနဲ့ သူတစ်ပါး နှစ်ဦးသားအကျိုး
ပစ္စုပ္ပန်နဲ့ တမလွန် နှစ်တန်သော အကျိုးတွေကို
သေချာကျန သိတော်မူလှသည့် အရိယာဇာတိ
မုနိအစစ် ဖြစ်သောကြောင့်ပါ။
ထို့ကြောင့်သာပင်
မုနိထွတ်တင် ဘုရားရှင်ကို
ဆွေညာအများ ကောင်းကျိုးတရားတွေ ဝေဖြာစေဖို့
မွေးရပ်ဇာတိ ကပိလဆီ ကြွချီမည့်အကြောင်း
ခွင့်တောင်းပါ၏ ဘုရား။

## မြတ်စွာဘုရား ကပိလဝတ်သို့ ကြွချီတော်မူ

ကာဠုဒါယီမထေရ်က အခုလို လျှောက်ထား တောင်းပန်တဲ့ အတွက်ကြောင့်ရော ကိုယ်တော်တိုင်ကလည်း ကပိလဝတ်ကို ကြွခဲ့ရင် ဆွေတော်မျိုးတော်တွေ ကျွတ်တမ်းဝင်မည့် အရေးကို ဉာဏ်တော်နဲ့ သိမြင်တော်မူတဲ့ အတွက်ကြောင့်ပါ မြတ်စွာဘုရားရှင်ဟာ ရဟန္တာ နှစ်သောင်း ခြံရံပြီး ကပိလဝတ်မြို့တော်ဆီ မနွေးမလျင် ကြွချီတဲ့ အတုရိတဒေသစာရီ ခရီးမျိုးနဲ့ ကြွမြန်းတော်မူခဲ့ပါတယ်။

ကာဠုဒါယီမထေရ်ဟာ မြတ်စွာဘုရား စတင် ကြွချီတော်မူတဲ့ နေ့မှာပဲ ကောင်းကင်ခရီးနဲ့ သုဒ္ဓေါဒနမင်းကြီးရဲ့ နန်းတော်ကို ကြွသွားပါတယ်။ မင်းကြီးက ကာဠုဒါယီမထေရ်ကို ရဟန်းအသွင်နဲ့ ဆိုတော့ ရုတ်ခနဲ မမှတ်မိတာနဲ့ "သင် ဘယ်သူလဲ" လို့ မေးလျှောက်ပါတယ်။

ကာဠုဒါယီမထေရ်က "မင်းကြီး... အကျွန်ုပ်ဟာ တစ်ပါးသူတို့ သည်းခံဖို့ရာ မလွယ်ကူသည့် အရာကို သည်းခံနိုင်တဲ့ဂုဏ်၊ ခန္ဓာကိုယ်တော်မှ ရောင်ခြည်တော် ခြောက်သွယ်တွေ တဖိတ်ဖိတ် တလက်လက် ကွန့်မြူးပေါ်ထွက်နေတဲ့ဂုဏ်၊ အနှိုင်းမဲ့ တာဒိဂုဏ် ဒီလိုမျိုး ဂုဏ်တော်တွေနဲ့ ပြည့်စုံတော်မူတဲ့ သဗ္ဗညု ဘုရားရှင်ရဲ့ သားတော် ဖြစ်ပါတယ်။

မင်းကြီး... သင် မင်းကြီးဟာ ငါတို့အဖ မြတ်စွာဗုဒ္ဓရဲ့ ခမည်းတော် ဖြစ်ပါပေတယ်။ ဂေါတမနွယ်ဖွား အို... မင်းတရားကြီး၊ သင် မင်းကြီးဟာ တကယ်တော့ ငါတို့ရဲ့ ဘိုးတော် ဖြစ်ပါပေတယ်" လို့ မိန့်တော်မူလိုက်ပါတယ်။

ဒီအခါ သုဒ္ဓေါဒနမင်းကြီးဟာ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး ကာဠုဒါယီမထေရ်ကို ရာဇပလ္လင်ထက်မှာ သီတင်းသုံး ထိုင်တော်မူစေ ပါတယ်။ သူ့အတွက် စားတော်ခေါ်ဖို့ ပြင်ဆင်ထားတဲ့ စားကောင်း သောက်ဖွယ်တွေကို အရှင်မြတ်ရဲ့ သပိတ်ထဲ လောင်းထည့်ပြီး လျှုဒါန်း

လိုက်ပါတယ်။ ဒီနောက်မှာတော့ အရှင်မြတ်ဟာ နေရာမှ ထတော်မူပြီး ပြန်ကြွဖို့ ဟန်ပြင်လိုက်ပါတယ်။

"ချစ်သား၊ ဒီမှာတင်ပဲ ထိုင်ဘုဉ်းပေးပါ ဘုရား"

"မြတ်သောမင်းကြီး၊ မြတ်စွာဘုရားထံ ပြန်သွားပြီးပဲ ဘုဉ်းပေးပါ့မယ်"

"ချစ်သား၊ ခု မြတ်စွာဘုရား ဘယ်မှာပါလဲ"

"မြတ်သောမင်းကြီး... သင်တို့ကို တွေ့ဖို့အတွက် ရဟန္တာပေါင်း နှစ်သောင်း ခြံရံပြီး မြတ်စွာဘုရား ခရီးကြွလာနေပါပြီ"

"ချစ်သား... ဒါဆိုရင် သင်ချစ်သားက ဒီနန်းတော်မှာပဲ နေ့စဉ် ဆွမ်းဘုဉ်းပေးပါ၊ သားတော်ဘုရား ဒီကို မရောက်မချင်း သားတော်ဘုရားအတွက် ဆွမ်းကို တပည့်တော်ကပဲ လှူပါရစေ၊ ချစ်သားက သားတော်ဘုရားဆီ ယူသွားပေးပါ"

အခုလို ကာဠုဒါယီမထေရ်နဲ့ သုဒ္ဓေါဒနမင်းကြီးတို့ အပြန်အလှန် မေးကြ၊ ဖြေကြပြီး အရှင်မြတ်နဲ့ မြတ်စွာဘုရားတို့အတွက် နေ့စဉ် ဆွမ်းကိစ္စကို စီစဉ်ခဲ့ကြတယ်။

## အရှင်မြတ် ဧတဒဂ်ရပုံ

အရှင်မြတ်လည်း ဆွမ်းစားပြီးတဲ့အခါ မြတ်စွာဘုရားအတွက် ဆွမ်းအလှူခံပြီးနောက် မင်းကြီးအမှူးပြုတဲ့ ဆွေတော်မျိုးတော်တွေကို နေ့စဉ် တရားဓမ္မ ဒေသနာတွေ ဟောကြားပါတယ်။ အရှင်မြတ် ဟောတဲ့ တရားတွေကို နာရတဲ့ အတွက်ကြောင့် ဆွေတော်မျိုးတော်တွေဟာ မြတ်စွာဘုရားကို မဖူးမြင်ရသေးဘဲနဲ့ကိုပဲ မြတ်စွာဘုရား အပေါ် ကြည်ညိုတဲ့သဒ္ဓါစိတ်တွေ ဖြစ်နေခဲ့ကြပါတယ်။ အရှင်မြတ်ဟာ တရားဟောပြီးတယ်ဆိုရင် ဆွေတော်မျိုးတော်တွေ အကုန်လုံး ကြည့်နေခိုက်မှာပဲ သပိတ်ကို ကောင်းကင်ထက်ဆီ တန်ခိုးနဲ့ လွှတ်လိုက်တယ်။ ပြီးမှ ကိုယ်တိုင်လည်း တန်ခိုးနဲ့ ကောင်းကင်ကို ပျံတက်ကြွသွားတော်

မူပါတယ်။ မြတ်စွာဘုရားထံ ရောက်တဲ့ အခါ ယူလာတဲ့ ဆွမ်းခဲဖွယ်တွေကို ကပ်လှူပါတယ်။ မြတ်စွာဘုရားက အဲဒီ ဆွမ်းခဲဖွယ်ဘောဇဉ်တွေကို ဘုဉ်းပေး သုံးဆောင်တော်မူပါတယ်။

အရှင်မြတ်ဟာ ယူဇနာ ဖ၀ ရှိတဲ့ ခရီးကို တစ်နေ့ တစ်ယူဇနာနှုန်းနဲ့ ကြွတော်မူတဲ့ မြတ်စွာဘုရားအတွက် ဆွမ်းဘောဇဉ်ကို နေ့တိုင်း နေ့တိုင်း သုဒ္ဓေါဒနမင်းကြီးရဲ့ နန်းတော်ကနေ ယူဆောင်ပြီး ကပ်လှူပါတယ်။

နောက်ပိုင်းကာလ ရောက်တဲ့ အခါ မြတ်စွာဘုရားက "ရဟန်းတို့... ငါ့ခမည်းတော် မင်းကြီးရဲ့ နန်းတော်မှာ နေတဲ့ ဆွေတော်မျိုးတော်တွေကို ကြည်ညိုသဒ္ဓါ ဖြစ်စေတဲ့ တပည့်ရဟန်းတွေထဲမှာ ဒီ ကာဠုဒါယီ ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်" လို့ မိန့်ကြားပြီး အရှင်ကာဠုဒါယီမထေရ်ကို ကုလပသာဒက ဧတဒဂ်အရာထားကာ ချီးမြှောက်တော်မူခဲ့ပါတယ်။



"ဟိမဝန္တာတောင်မင်းကြီးကို မှီခိုရတဲ့အတွက် အဲဒီတောင်မှာရှိတဲ့ သစ်ပင်တွေ၊ ပန်းမန်တွေဟာ အခက်အရွက်တွေ၊ အကိုင်းအလက်တွေ၊ အသီးအပွင့်တွေနဲ့ ဝေဆာလှပခွင့် ရကြတယ်၊ ဒီလိုပဲ လောကလူ့ဘောင်မှာ သူတော်ကောင်းတစ်ယောက် ဖြစ်ထွန်းပေါ်ပေါက်လာရင် သူ့ဝန်းကျင်မှာရှိတဲ့ လောကသားတွေမှာလည်း ကောင်းကျိုးတရားတွေ သီးပွင့်ဝေဆာ ဖြစ်ပွားလာရစမြဲပါ"

သူတော်ကောင်းတစ်ယောက်ရဲ့ တန်ဖိုးကြီးမားပုံကို ညွှန်းဆိုတဲ့ မြတ်ဗုဒ္ဓရဲ့ ဒီမိန့်ဆိုချက်ကို အင်္ဂုတ္တရနိကာယ်မှတ်တမ်းမှာ တွေ့ရပါတယ်။

ဒီဒေသနာမှာ လာတဲ့ အတိုင်း အရှင်ကာဠုဒါယီမထေရ်မြတ်ကို မှီခိုခွင့်ရပြီး အရှင်မြတ်ရဲ့ စွမ်းဆောင်ချက်ကြောင့် သုဒ္ဓေါဒန မဟာရာဇာ အမှူးပြုတဲ့ သကျဆွေတော်မျိုးတော်တွေဟာ မြတ်စွာဘုရားကို ဖူးမြင်ခွင့်ရခဲ့ကြ၊ အလွမ်းအဆွေးတွေ ပြေပျောက်ခဲ့ကြ၊ သောကအပူမီးတွေ ငြိမ်းအေးခဲ့ကြ၊ လောကုတ္တရာတရားထူးတွေ ရရှိခံစားခဲ့ကြရပါတယ်။

ဒါကြောင့် 'အရှင်ကာဠုဒါယီမထေရ်ဟာ ဉာတတ္ထစရိယ၊ လောကတ္ထစရိယ၊ ဗုဒ္ဓတ္ထစရိယ ဆိုတဲ့ စရိယသုံးဖြာကို အပြည့်အဝ ကျင့်သုံးပြီး လောကသားတို့ရဲ့ အကျိုးကို သယ်ပိုး ဆောင်ရွက်တော်မူခဲ့တဲ့ အရှင်မြတ်ကြီးပါလား' ဆိုတဲ့ ကြည်ညိုသဒ္ဓါစိတ်တွေ ရင်မှာ အကြိမ်ကြိမ် ဖြစ်ပွားခဲ့ရပါတယ်။

ဩော်၊ စိတ်ထားမြင့်မြတ်ကြတဲ့ သူတော်ကောင်းတွေ ဆိုတာ မိမိဝန်းကျင်မှာရှိတဲ့ လောကသားတွေအပေါ်မှာ ကောင်းမြတ်တဲ့ အကျိုးတရားတွေ ဖြစ်ထွန်းအောင် ဖော်ဆောင်ခဲ့ကြ၊ ဖော်ဆောင်နေဆဲ၊ နောင်လည်း ဆက်ပြီး ဖော်ဆောင်နေကြမှာပါ။

နောက်ပြီး လောကသားတွေအပေါ်မှာ ထည့်တွက်ခြင်း၊ ငဲ့ကွက်ခြင်း၊ စာနာခြင်း၊ ညှာတာခြင်း၊ ထောက်ထားခြင်း၊ ကြင်နာခြင်းတွေနဲ့ ဗြဟ္မစိုရ်မိုးတွေ ရွာသွန်းဖြိုးခဲ့၊ ရွာသွန်းဖြိုးဆဲ၊ နောင်လည်း ဆက်ပြီး ရွာသွန်းနေဦးမယ် ဆိုတာ မလွဲဧကန်ပါပဲလေ။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၃၃။

၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၄၉၅။

၃။ အပဒါန်ပါဠိတော်၊ ၂။ ၁၅၆။

၄။ အပဒါန်အဋ္ဌကထာ၊ ၂။ ၅၅။

၅။ ထေရဂါထာပါဠိ၊ ၃၀၀။

၆။ ထေရဂါထာအဋ္ဌကထာ၊ ၂။ ၁၆၅။



## အနာရောဂါ ထင်းတဲ့အရာ အသာဆုံး

## အပ္ပာဗာဓဓေတာဝ်ရ

# အရှင်ဗာကုလ မထေရ်

'မလုပ် မပြော၊ လုပ်မှ ပြော၊ သဘောစင်လှစေ။
အပြောသာချဲ့၊ အလုပ်မဲ့၊ ကဲ့ရဲ့မလွတ်ချေ။'

ခပ်ငယ်ငယ်တုန်းက မင်းကွန်းတိပိဋက နိကာယအဖွဲ့က ထုတ်တဲ့ ပြက္ခဒိန်မှာ တိပိဋကရေ မင်းကွန်းဆရာတော်ကြီးပုံတော်နဲ့



ပုံတော်ရဲ့အောက်ခြေမှာ အထက်ဖော်ပြပါ ဆရာတော်ကြီးရဲ့ ဆုံးမစာ လင်္ကာကို မှတ်မှတ်ထင်ထင် တွေ့ခဲ့ပါတယ်။ အဲဒီ ကတည်းက ဒီဆုံးမစာလင်္ကာလေးဟာ နှလုံးသားထဲမှာ ခိုင်ခိုင်မြဲမြဲ စွဲထင်နေခဲ့တယ်။ ရိုးရှင်းပြီး ဟိတ်ဟန်ကင်းတော်မူတဲ့ ဆရာတော်ကြီးရဲ့ ဘဝဖြစ်စဉ်နဲ့ ဒီဆုံးမစာက တစ်ထပ်တည်း ကျနေတာမို့လည်း နှလုံးထဲ အသည်းထဲ ပိုပြီး စွဲစွဲလမ်းလမ်း ဖြစ်ခဲ့ရတာပါ။

အခု အရှင်ဗာကုလမထေရ်အကြောင်း စာရေးဖို့ စာတွေ ကြည့်လိုက်တဲ့အခါမှ မင်းကွန်းဆရာတော်ကြီးရဲ့ ဆုံးမစာလင်္ကာဟာ အရှင်ဗာကုလမထေရ် ဟောကြားတဲ့ ဂါထာသုံးဂါထာထဲက

'ယဉှိ ကယိရာ တဉှိ ဝဒေ၊ ယံ န ကယိရာ န တံ ဝဒေ။
အကရောန္တံ ဘာသမာနံ၊ ပရိဇာနန္တိ ပဏ္ဍိတာ။'

ဆိုတဲ့ ဂါထာကို မြန်မာမှုပြုထားတာပါလား ဆိုတာ သိလိုက်ရပါတယ်။

ဒီအခါ သိပ်သည်းကျစ်လျစ် လှပလွန်းလှတဲ့ ပါဠိဂါထာနဲ့ ဟောကြားတော်မူခဲ့တဲ့ အရှင်ဇာကုလမထေရ်ကိုရော ရိုးရှင်းထိမိလွန်းလှတဲ့ မြန်မာလင်္ကာ သီကုံးပြီး ဆုံးမတော်မူခဲ့တဲ့ မင်းကွန်းဆရာတော်ကြီးကိုပါ ပိုလို့ပင် ကြည်ညိုမဆုံး ဖြစ်ခဲ့ရပါတယ်။

ဘဝမှာ အောင်မြင်မှု ရလိုသူတိုင်းဟာ ဟန်ဆောင်မှုကင်းပြီး ရိုးသားဖြောင့်မတ်ဖို့ လိုအပ်လှပါတယ်။ အထူးသဖြင့် တရားပိုင်းဆိုင်ရာ ကိစ္စတွေမှာ ပိုလို့တောင် လိုအပ်တယ် ဆိုတာကို မထေရ်မြတ်တွေက သတိပေး ဆုံးမနေတာ ဖြစ်ပါတယ်။

မြတ်စွာဘုရားရှင်ကလည်း ကိုယ်လိုလားတဲ့ ပန်းတိုင်ကို ရောက်ဖို့ ဆိုရင်–

၁။ ယုံကြည်မှု ခိုင်မာရမယ်၊

၂။ ကျန်းမာရေး ကောင်းရမယ်၊

၃။ ရိုးသားဖြောင့်မတ်ရမယ်၊

၄။ ကြိုးစားအားထုတ်ရမယ်၊

၅။ ဝေဖန်ပိုင်းခြား ခွဲခြမ်းစိတ်ဖြာနိုင်တဲ့ အသိဉာဏ်ပညာလည်း ရှိရမယ်လို့ ရိုးသားဖြောင့်မတ်မှုကို ဘဝရဲ့ အောင်မြင်မှုတွေ ရရှိရေးအတွက် အစိတ်အပိုင်း တစ်ခုအနေနဲ့ ထည့်သွင်း ဟောကြားတော်မူခဲ့ပါတယ်။

နောက်ပြီး အရှင်ဇာကုလမထေရ်ရဲ့ 'ခု လုပ်ရမယ့် အလုပ်တွေကို အခုပဲ ဖြစ်အောင် လုပ်ပါ၊ နောက်မှ လုပ်မယ်ဆိုပြီး မရွှေ့ပါနဲ့၊ အလုပ်တွေကို နောက်မှ လုပ်မယ်၊ နောက်မှ လုပ်မယ်ဆိုပြီး ရွှေ့ရွှေ့နေရင် လိုချင်တဲ့ ချမ်းသာသုခတွေနဲ့ လွဲချော်နေရတတ်တယ်၊ အချိန်နှောင်းခါမှ နောင်တတွေရပြီး နှလုံးမသာမယာနဲ့ ပူပန်နေရတတ်တယ်' ဆိုတဲ့ အဆုံးအမတော်ကလည်း မိမိတို့ နောင်လာ နောက်သား

တွေရဲ့ ဖြစ်တတ်တဲ့ သဘာဝတွေကို ကြိုတင်ကာ မြင်ပြီး ဆုံးမတော်မူခဲ့သလားလို့တောင် မှတ်ထင်ရပါတယ်။

ဒါအပြင် အရှင်ဗာကုလမထေရ်က "မြတ်စွာဘုရား ဟောကြားတဲ့ နိဗ္ဗာန်ဆိုတာ သိပ်ကို ချမ်းသာတယ်၊ ပူပင်သောကလည်း မရှိ၊ ကိလေသာမြူတွေလည်း ရှင်း၊ ဘေးမျိုးစုံလည်း ကင်းတဲ့ တရား ဖြစ်တယ်၊ နိဗ္ဗာန်မှာ ဘာဒုက္ခမှ မရှိဘူး" လို့ သူကိုယ်တိုင် မျက်မှောက်ပြု သိမြင်ခဲ့တဲ့ နိဗ္ဗာန်ရဲ့ သဘောသဘာဝကို မိမိတို့လို ပုထုဇဉ်ပုဂ္ဂိုလ်တွေ ရိပ်စားမိအောင်လည်း ရှင်းလင်း ဟောပြတော်မူခဲ့ပါတယ်။

အခုလို အဖိုးတန် ဓမ္မဆီမီး ဓမ္မအလင်းတွေ ညှိထွန်းပေးတော်မူတဲ့ အရှင်ဗာကုလမထေရ်မြတ်ရဲ့ ဘဝဖြစ်ရပ် အတ္ထုပ္ပတ်ကနေ မိမိတို့အတွက် ကောင်းမြတ်တဲ့ ဘဝလမ်းညွှန်ချက်တွေ ထုတ်ယူနိုင်ဖို့ အရှင်မြတ်ရဲ့ ဘဝပုံရိပ်ကို သဒ္ဓါစိတ်နဲ့ ကြည်ညိုကြည့်ကြပါမယ်။

## (က) အပ္ပာဗာဓဧတဒဂ်နဲ့ ဘွဲ့အမည်အဓိပ္ပာယ်

အရှင်ဗာကုလမထေရ်ဟာ လူဝတ်ကြောင်ဘဝနဲ့ အနှစ်ရှစ်ဆယ်၊ ရဟန်းဘဝနဲ့ အနှစ်ရှစ်ဆယ် နေခဲ့ရတဲ့ သက်တော် ၁၆၀ ရှည် မထေရ်မြတ် ဖြစ်ပါတယ်။ မြတ်စွာဘုရားသာသနာတော်မှာ သက်တော်အရှည်ဆုံး မထေရ်ပါ။ သက်တော်ရှည်ရုံတင်မက အရှင်မြတ်ရဲ့ ဘဝတစ်သက်တာလုံး ရောဂါဝေဒနာဆိုလို့ အလွန်တိုတောင်းလှတဲ့ နွားနို့တစ်ညှစ်စာ အချိန်လေးလောက် အတွင်းမှာပင် ချောင်းဆိုးနှာချေတာတောင် မဖြစ်ခဲ့ဖူးပါဘူး။ ဒါကြောင့် အနာရောဂါ ကင်းရှင်းတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ်ရခဲ့တာ ဖြစ်ပါတယ်။ ပါဠိလိုတော့ အပ္ပာဗာဓဧတဒဂ်လို့ ခေါ်ပါတယ်။

အရှင်မြတ်ဟာ အလွန် ချမ်းသာကြွယ်ဝတဲ့ မျိုးနွယ်နှစ်ခုမှာ ကြီးပြင်းခဲ့ရတယ်။ ဒါကြောင့် 'ဗာကုလ'လို့ နာမည်တွင်ခဲ့ပါတယ်။

'ဗာ' ဆိုတာက 'နှစ်ခု'၊ 'ကုလ'ဆိုတာက 'မျိုးနွယ်' လို့ အဓိပ္ပာယ်ရပါတယ်။ 'မျိုးနွယ်နှစ်ခုမှာ ကြီးပြင်းခဲ့ရသူ' လို့ ဆိုလိုပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီ နဲ့ ဆုတောင်း
## အနောမဒဿီဘုရားရှင်ရဲ့ လေနာရောဂါကို ကုသပေး

လွန်လေပြီး တစ်သင်္ချေနဲ့ ကမ္ဘာတစ်သိန်းအလွန် ကာလတုန်းက အနောမဒဿီမြတ်စွာဘုရား ပွင့်တော်မူခဲ့ပါတယ်။ အဲဒီဘုရားရှင်လက်ထက်ဆီက ဒီ အရှင်ဗာကုလမထေရ် အလောင်းတော်ဟာ အနောမဒဿီဘုရား မပွင့်ခင်မှာပဲ ဗြာဟ္မဏလို့ခေါ်တဲ့ ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ မျိုးရိုးထုံးစံအတိုင်း ဝေဒကျမ်းဂန်လို့ခေါ်တဲ့ ဗေဒင်သုံးပုံ သင်ကြားတတ်မြောက်ခဲ့တယ်၊ အဲဒီ ဗေဒင်သုံးပုံထဲမှာ သူလိုချင်တဲ့ အနှစ်သာရ ရှာမတွေ့တာကြောင့် တောင်ခြေတစ်ခုက တောအုပ်ထဲသွားပြီး ရသေ့ဝတ်၊ တရားအားထုတ်ခဲ့တယ်။ လောကီစျာန် အဘိညာဉ် သမာပတ်တွေ အကုန်ရအောင် အားထုတ်နိုင်ခဲ့တယ်။

တစ်ချိန်မှာတော့ အနောမဒဿီမြတ်စွာဘုရား ပွင့်တော်မူလာတယ်။ 'လောကမှာ ဘုရားပွင့်တော်မူနေပြီ၊ ဘုရားရှင်ရဲ့ တရားတော်ကို နာကြားရလို့ အရိယာသံဃာတွေလည်း ပွင့်တော်မူနေကြပြီ၊ ဒါကြောင့် ရတနာ သုံးပါးလုံး လောကလူ့ဘောင်မှာ ထင်ရှားပေါ်ပေါက်နေပြီ'ဆိုတဲ့ သတင်းကို အရှင်မြတ်လောင်း ရှင်ရသေ့တစ်ဆင့်စကား တစ်ဆင့်နားနဲ့ ကြားခဲ့တယ်။

ဒီအခါ အရှင်မြတ်လောင်း ရသေ့ဟာ ကောင်းကင်ခရီးစျာန်ယာဉ်စီးပြီး အနောမဒဿီဘုရားကို ဖူးမြော်ဖို့ ထွက်လာခဲ့ပါတယ်။ ဘုရားထံမှောက် ရောက်တဲ့ အခါ ဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို ဖူးမြော်ကန်တော့ပြီး မြတ်စွာဘုရား ဟောတော်မူတဲ့ တရားကို

နာကြားပါတယ်။ တရားနာရတဲ့အတွက် ရတနာသုံးပါးအပေါ်မှာ သက်ဝင်ယုံကြည်မှု ဖြစ်ခဲ့ပြီး သရဏဂုံ တည်ခဲ့ပါတယ်။ ဒါပေမဲ့ သူနေတဲ့ တောတန်း၊ ကျောင်းသင်္ခမ်းနဲ့ ရသေ့ဘဝကို မစွန့်နိုင်တာကြောင့် ရဟန်းတော့ မဝတ်ခဲ့ပါဘူး။

အရှင်မြတ်အလောင်း ရသေ့ဟာ ရဟန်း မဝတ်နိုင်ခဲ့ပေမဲ့ မြတ်စွာဘုရားဆီ မကြာ မကြာ လာပြီး တရားတော်ကို နာယူလေ့ရှိပါတယ်။ တစ်ခါမှာတော့ အနောမဒဿီဘုရားရှင်ဟာ လေနာရောဂါဖြစ်ပြီး မမာမကျန်း ဖြစ်ခဲ့ပါတယ်။ ဒီအခါ အရှင်မြတ်လောင်း ရသေ့ဟာ သူနေတဲ့ တောထဲက ဆေးဖက်ဝင်တဲ့ သစ်သီး၊ သစ်မြစ်၊ သစ်ဉ၊ သစ်ဖုတွေကို ဆေးဖော်စပ်ပြီး မြတ်စွာဘုရားကို ဆက်ကပ်ပါတယ်။ ဒီဆေးနဲ့ မြတ်စွာဘုရားရှင်ရဲ့ ကျန်းမာရေး ပြန်လည်ကောင်းမွန်ခဲ့ပါတယ်။

ဒါကြောင့် အရှင်မြတ်လောင်း ရသေ့က ''မြတ်စွာဘုရား၊ ဒီကောင်းမှုကြောင့် တပည့်တော်ဟာ ဖြစ်လေရာရာ ဘဝတိုင်းမှာ အလွန် တိုတောင်းတဲ့ နွားနို့တစ်ညှစ်စာ အချိန်လေးမှာတောင် အနာရောဂါဝေဒနာ မဖြစ်ဘဲ ကျန်းမာရေး ကောင်းမွန်တဲ့သူ ဖြစ်ရပါလို၏'' လို့ ဆုတောင်းခဲ့ပါတယ်။

ဒါကတော့ အနောမဒဿီဘုရားရှင် လက်ထက်တုန်းက အရှင်မြတ်အလောင်းရဲ့ ဖြည့်ဆည်းခဲ့တဲ့ ပါရမီ ကောင်းမှု ကုသိုလ် ဖြစ်ပါတယ်။

## ပဒုမုတ္တရာဘုရားရှင်ထံ အနာရောဂါကင်းသူဖြစ်ဖို့ ဆုပန်

အရှင်ဗာကုလမထေရ်မြတ် အလောင်းဟာ အဲဒီ ဘဝကနေ ကွယ်လွန်တဲ့ အခါ ဗြဟ္မာ့ပြည်မှာ ဖြစ်ခဲ့ပါတယ်။ လူ့သက်တမ်း တစ်သင်္ချေဆိုတဲ့ အချိန်ကာလပတ်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ရင်း ပဒုမုတ္တရာဘုရားရှင်လက်ထက်တော် ရောက်တဲ့

အခါမှာတော့ ဟံသာဝတီမင်းနေပြည်က သူဌေးမျိုးမှာ ဖြစ်ခဲ့တယ်။ ပဒုမုတ္တရဘုရားရှင်က ရဟန်းတော်တစ်ပါးကို အနာရောဂါကင်းတဲ့ အရာ အသာဆုံး အပ္ပာဗာဓတေဒဂ်နဲ့ ချီးမြှောက်တာကို မြင်တွေ့ရတဲ့ အတွက် အားကျစိတ်ဖြစ်ပြီး ကုသိုလ်ကောင်းမှု ပြုလုပ်ခဲ့တယ်။ သူလည်း နောင်ဘုရားတစ်ဆူ လက်ထက်မှာ ဒီရဟန်းရတဲ့ အပ္ပာဗာဓ တေဒဂ်ဘွဲ့ထူးကို ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။ ဘဝ တစ်လျှောက်လုံးလည်း ဒါန၊ သီလစတဲ့ ကောင်းမှုကုသိုလ်တွေ ပြုလုပ် ခဲ့တယ်။

## ဝိပဿီဘုရားရှင်လက်ထက် သံဃာတော်များကို ဆေးကုပေး

ဒီလိုနဲ့ သံသရာတစ်ခွင် ကောင်းမြတ်တဲ့ သုဂတိဘုံဘဝ တွေမှာ ကျင်လည်ရင်းက ၉၁ ကမ္ဘာထက် ဝိပဿီဘုရားရှင် လက်ထက်တော် ရောက်တဲ့ အခါမှာတော့ အရှင်မြတ်လောင်းဟာ ဘုရား မပွင့်ခင်မှာပဲ ဗန္ဓုမတီမင်းနေပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါ တယ်။ အရွယ်ရောက်တဲ့ အခါ သံဝေဂဖြစ်ပြီး တောထွက်ကာ ရသေ့ ဝတ်နဲ့ ဈာန်၊ အဘိညာဉ်တွေ ရအောင် တရားအားထုတ်ခဲ့ပါတယ်။

တစ်ချိန်မှာတော့ ဝိပဿီဘုရားလောင်းလည်း သဗ္ဗညုဘုရား အဖြစ်သို့ ရောက်တော်မူပြီး ရဟန္တာပေါင်း ၆၈ သိန်းနဲ့အတူ ဖခမည်းတော် ဗန္ဓုမတီမင်းကြီးကို ချီးမြှောက်တဲ့ အနေနဲ့ မင်းကြီးရဲ့ ဥယျာဉ်တော်ထဲမှာ သီတင်းသုံးနေတော်မူခဲ့တယ်။ ဒီသတင်းကို အရှင်မြတ်လောင်းရသေ့ ကြားသိတာနဲ့ မြတ်စွာဘုရားထံ သွားရောက် ဖူးမြော်ခဲ့ပြီး တရားတော် နာယူခဲ့တယ်။ ဒီအခါမှာလည်း သရဏဂုံ တော့ တည်ခဲ့ပြီး ရသေ့ဘဝကို မစွန့်နိုင်တာကြောင့် ရဟန်းမဝတ် နိုင်ခဲ့ပါဘူး။

အခါအားလျော်စွာ မြတ်စွာဘုရားထံ လာရောက်ပြီး တရား တော်ကို နာယူလေ့ရှိပါတယ်။ တစ်ချိန်မှာတော့ ဝိပဿီမြတ်စွာဘုရားနဲ့

အဂ္ဂသာဝက နှစ်ပါးကလွဲပြီး ကျန်တဲ့ ရဟန်းတော်တွေဟာ ဟိမဝန္တာမှာရှိတဲ့ အဆိပ်ပင်တွေရဲ့ ပန်းရနံ့တွေကို ရှူရှိုက်ရတဲ့ အတွက်ကြောင့် မူးမော်တဲ့ ဝေဒနာ ခံစားရပါတယ်။ အရှင်မြတ်လောင်းရသေ့ ရောက်လာတဲ့အခါ ရဟန်းတော်တွေ သင်္ကန်းခေါင်းမြီးခြုံ အိပ်နေကြတာကို မြင်တွေ့ရလို့ အကျိုးအကြောင်း မေးမြန်းလျှောက်ထားပါတယ်။ ဦးခေါင်းမူးဝေတဲ့ ဝေဒနာခံစားနေရတဲ့ အကြောင်း သိလိုက်တာနဲ့ အရှင်မြတ်လောင်း ရသေ့ဟာ 'ဩော်၊ ဒီအချိန်ဟာ ငါ့အတွက်တော့ သံဃာတော်တွေရဲ့ ဝေယျာဝစ္စတွေကို ပြုလုပ်ပြီး ကုသိုလ်ယူရမယ့် အချိန်အခါပဲ' လို့ စိတ်ထဲမှာ ဆုံးဖြတ်ချက်ချလိုက်တယ်။ နောက်ပြီး တောထဲတောင်ထဲမှာ ရှိတဲ့ ဆေးဖက်ဝင် သစ်ဥ၊ သစ်ဖု၊ သစ်မြစ်၊ သစ်ရွက်တွေကို ဆေးဖော်စပ်ပြီး သံဃာတော်တွေကို ဆေးကုပေးခဲ့ပါတယ်။ သိပ်မကြာခင်မှာပဲ သံဃာတော်တွေအားလုံး ရောဂါဝေဒနာ ပျောက်ကင်းပြီး ပြန်လည် ကျန်းမာလာခဲ့ကြပါတယ်။

## ကဿပဘုရားရှင်လက်ထက် ကျောင်းဟောင်းပြင်၊ ဆေးရုံဆေးပေးခန်းလှူ

အရှင်မြတ်လောင်းဟာ အဲဒီ ဘဝကနေ ဗြဟ္မာ့ပြည်မှာ ဖြစ်ခဲ့တယ်၊ ၉၁ ကမ္ဘာတိတိ အပါယ်လေးပါး မလားမရောက်ခဲ့ဘူး။ သုဂတိဘုံဘဝတွေမှာပဲ ဖြစ်ခဲ့ကျင်လည်ခဲ့ပြီး ကဿပမြတ်စွာဘုရားရှင်လက်ထက်ရောက်တဲ့ အခါ ဗာရာဏသီပြည်မှာ ဖြစ်ခဲ့တယ်။ အရွယ်ရောက်လို့ အိမ်ထောင်ကျပြီး ကိုယ့်အိုးကိုယ့်အိမ်နဲ့ နေထိုင်တဲ့ အခါ သူ့ရဲ့အိမ်က သိပ်မကောင်းလို့ အိမ်သစ်ဆောက်ဖို့ဆိုပြီး လက်သမားတွေနဲ့အတူ သစ်ခုတ်ဖို့ တောထဲ ထွက်လာခဲ့ပါတယ်။

လမ်းခုလတ်မှာ ကျောင်းအိုကြီး တစ်ကျောင်းကို တွေ့လိုက်တယ်။ ဒါနဲ့ သူ့မှာ 'ငါ့အတွက် အိမ်ဆောက်တာကို အသာထားလိုက်ဦးမယ်၊ အိမ်အဆောက်အအုံဆိုတာ သေရင် ငါ့နောက် ပါလာမှာ

မဟုတ်ဘူး၊ သံသရာတစ်လျှောက် ငါ့နောက်ပါမယ့်အရာကို အရင်ဦးဆုံး လုပ်ရင် ကောင်းမယ်'လို့ စိတ်အကြံ ဖြစ်ပေါ်လာတယ်။ ဒါကြောင့် အရှင်မြတ်လောင်းဟာ လက်သမားတွေနဲ့အတူ တောထဲသွား၊ သစ်တွေ ရှာခုတ်ပြီး ကျောင်းအိုကြီးကို ပြင်ဆင်လှူဒါန်းပါတယ်။

ဒါတင်မက ရဟန်းသံဃာတော်များ ဥပုသ်ပြုစရာ ဥပုသ်သိမ် ကျောင်းဆောင်၊ မီးတင်းကုပ်၊ ချေးထုတ်စရာ ချေးဇရုံးအိမ်၊ ပစ္စည်း ပစ္စယတွေ အပ်အပ်စပ်စပ် ထားနိုင်ဖို့ရာ ကပ္ပိယကုဋ္ဌိ၊ ကျင်ကြီးစွန့်စရာ ဝစ္စကုဋ္ဌိ၊ ကျင်ငယ်စွန့်စရာ ပဿာဝကုဋ္ဌိ၊ စင်္ကြံလျှောက် တရား မှတ်ရန် စင်္ကြံရှည်၊ ဆေးရုံဆေးပေးခန်း စတာတွေကိုပါ အပြည့်အစုံ ဆောက်လုပ်လှူဒါန်းခဲ့ပါတယ်။ ဆေးရုံဆေးပေးခန်း ဖြစ်တဲ့ အာရောဂျ သာလာမှာလည်း သံဃာတော်များနဲ့ လျောက်ပတ်တဲ့ ဆေးဝါးပစ္စည်း အပြည့်အစုံ စီမံထားရှိခဲ့ပါတယ်။ အရှင်မြတ်လောင်းဟာ အဲဒီ ဘဝ မှာလည်း အသက်ထက်ဆုံး ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ခဲ့ပါတယ်။ ကဿပဘုရားရှင်နဲ့ ဂေါတမဘုရားရှင် ဘုရားနှစ်ဆူအကြား အလွန် ရှည်လျားတဲ့ ကာလတစ်လျှောက်လုံးလည်း နတ်ပြည်၊ လူ့ပြည်တွေမှာပဲ ဖြစ်ခဲ့တာပါ။

## (ခ) ပစ္ဆိမဘဝ ဖြစ်ရပ်နဲ့ ရဟန်းပြုပုံ

အရှင်မြတ်လောင်းဟာ အကျွန်ုပ်တို့ ဂေါတမဘုရားရှင် လက်ထက် ရောက်လာတဲ့ အခါမှာတော့ ဘုရားမပွင့်မခင်မှာပဲ ကောသမ္ဗီပြည်က သူဌေးအိမ်မှာ ပဋိသန္ဓေတည်နေခဲ့ပါတယ်။ အရှင်မြတ်လောင်း ပဋိသန္ဓေတည်တဲ့ နေ့ကစပြီး အဲဒီ သူဌေးအိမ်မှာ စီးပွားရေးတွေ အတော်လေး သိသိသာသာ တိုးတက်လာခဲ့ပါတယ်။ ကောင်းသတင်းတွေလည်း တစ်မုဟုတ်ချင်း ပြန့်နှံ့ကျော်ကြားခဲ့ပါ တယ်။

အရှင်မြတ်လောင်းရဲ့ မယ်တော်ဟာ အရှင်မြတ်လောင်းကို မွေးဖွားပြီးတာနဲ့ ‘ငါ့သားလေးက ရှေးဘုန်းရှေးကံ ကြီးမားသူ ဖြစ်တယ်၊ ဒီသားကလေး ကျန်းမာပြီး အသက်ရှည်နေသမျှ ငါတို့မှာ ကောင်းမြတ်တဲ့အကျိုးစီးပွားတွေ ဖြစ်ထွန်းနေမှာ ဖြစ်တယ်၊ နောက်ပြီး မွေးတဲ့ နေ့မှာပဲ ယမုနာမြစ်ထဲမှာ ရေချိုးပေးတဲ့ ကလေးတွေဟာ ကျန်းမာရေး ကောင်းတယ်’လို့ စိတ်အကြံဖြစ်ပြီး ကလေးကို ယမုနာ မြစ်ထဲ ရေချိုးပေးဖို့ အထိန်းတော်တွေနဲ့ စီမံခဲ့ပါတယ်။

## ငါးကြီးမျိုတာ ခံရပေမယ့် အသက်မသေ

အထိန်းတော်တွေဟာ ကလေးငယ်ကို ယမုနာမြစ်ရေထဲ နှစ်လိုက်၊ ရေထဲက ဆယ်ယူလိုက် မြူဆော့ကစားရင်း ရေချိုးပေးနေ ကြတယ်။ ဒီအခါ ငါးကြီးတစ်ကောင်က ကလေးကို မြင်လိုက်တာနဲ့ သူ့အတွက် အစာရပြီဆိုတဲ့အတွေးနဲ့ ပါးစပ်ဖွင့်ပြီး ပြေးလာခဲ့ပါတယ်။ အထိန်းတော်တွေလည်း ငါးကြီးကို မြင်လိုက်တာနဲ့ ကြောက်အား လန့်အားနဲ့ ကလေးကို ပစ်ပြီး ထွက်ပြေးကုန်ကြတယ်။ ဒီအခါ ငါးကြီးက ကလေးကို မျိုလိုက်ပါတော့တယ်။

ငါးကြီးက မျိုလိုက်ပေမယ့် ကလေးက ဘုန်းရှင်ကံရှင်ဆိုတော့ မသေခဲ့ပါဘူး၊ အိပ်ရာခန်းထဲ ဝင်ပြီး အိပ်ရသလိုမျိုးပဲ ကလေးအနေနဲ့ ခံစားခဲ့ရပါတယ်။ ခုလို ငါးကြီးအမျိုခံရပေမယ့် ဒီကလေးဟာ ကြီးတဲ့ အခါ အရဟတ္တမဂ်ဉာဏ်ရပြီး ရဟန္တာပုဂ္ဂိုလ်ဖြစ်မှာ ဖြစ်တဲ့အတွက် နောင်ရမယ့် အရဟတ္တမဂ်ဉာဏ်ရဲ့ အရှိန်အဟုန်ကြောင့် မသေခြင်း ဖြစ်ပါတယ်။ ဒါမျိုး တန်ခိုးဣဒ္ဓိကို ဉာဏဝိပ္ဖာရဣဒ္ဓိလို့ ခေါ်တယ်ဆိုတဲ့ အကြောင်း ပဋိသမ္ဘိဒါမဂ္ဂအဋ္ဌကထာက ဆိုပါတယ်။

ငါးကြီးမှာတော့ ကလေးရဲ့ တန်ခိုးအရှိန်ကြောင့် မီးသံရဲရဲ တောက်လောင်နေတဲ့ သံတွေခဲ မျိုထားရသလို ပူလောင်နေပြီး ဟိုပြေး ဒီပြေး လျှောက်ပြေးရင်းက ယူဇနာ ၃၀ ကွာဝေးတဲ့ မြစ်ရဲ့ အောက်

အကြေ ဗာရာဏသီမြို့က တံငါသည်တွေ ထောင်ထားတဲ့ ပိုက်ကွန်ထဲ တိုးဝင်မိရက်သား ဖြစ်ခဲ့ပါတယ်။ ငါးကြီးတွေ ဆိုတာ ပိုက်ကွန်ထဲ မိပေမယ့် တမင်သတ်မှ သေတာမျိုးပါ၊ ဒါပေမဲ့ ဒီငါးကြီးကတော့ ကလေးရဲ့ အရှိန်ကြောင့် ပိုက်ကွန်က ထုတ်ဆယ်လိုက်တာနဲ့ မထု မရိုက်ရဘဲ အလိုလို သေသွားခဲ့ပါတယ်။ အခါတိုင်းဆို တံငါသည် တွေဟာ ငါးကြီးတွေ မိခဲ့ရင် အပိုင်းပိုင်း ခုတ်ထစ်ပြီးမှ ရောင်းကြ တာပါ၊ ခုတော့ ကလေးရဲ့ အရှိန်ကြောင့်ပဲ တံငါသည်တွေဟာ ငါးကြီးကို မခုတ်မပိုင်းတော့ဘဲ ထမ်းပိုးနဲ့ ထမ်းပိုးပြီး "ဒီငါးကြီးကို တစ်ထောင်နဲ့ ရောင်းမယ်" လို့ အော်ဟစ်ကာ ဗာရာဏသီမြို့ထဲ လှည့်လည် ရောင်းခဲ့ကြပါတယ်။ တစ်ထောင်ဆိုတော့ တော်တော်နဲ့ ဝယ်မယ့်သူ ပေါ်မလာခဲ့ပါဘူး။

ဒါပေမဲ့ ဗာရာဏသီမြို့ထဲမှာ သားသမီး မထွန်းကားတဲ့ သူဌေးအိမ် တစ်အိမ် ရှိပါတယ်။ အဲဒီ အိမ်ရှေ့ ရောက်သွားတဲ့ အခါ မှာတော့ အိမ်သားတွေက တစ်ထောင်ပေးပြီး ငါးကြီးကို ဝယ်လိုက် ပါတယ်။ သူဌေးကတော်ကြီးဟာ အခါတိုင်း သားငါးစီမံတဲ့ နေရာမှာ ဝင်ပါလေ့ မရှိပေမဲ့ အဲဒီ နေ့မှာတော့ ကိုယ်တိုင်ပဲ ငါးကြီးကို ခွဲစိတ်ဖို့ စဉ်းတီတုံး ပျဉ်ချပ်ပေါ် တင်လိုက်ပါတယ်။ ငါးကို ခွဲတဲ့ အခါ အများ အားဖြင့် ဗိုက်ကနေ ခွဲတတ်ကြပေမယ့် သူဌေးကတော်ကြီးကတော့ ငါးရဲ့ ကျောဘက်ကနေ အသာအယာပဲ ဓားနဲ့ ခွဲလိုက်ပါတယ်။ ဒီအခါ ငါးဝမ်းဗိုက်ထဲက ရွှေရောင်အဆင်းရှိတဲ့ ကလေးကို မြင်လိုက်တာနဲ့ 'ငါ့အတွက် ငါးဗိုက်ထဲကနေ သားကလေး ရပြီ' လို့ အားရဝမ်းသာ အော်ဟစ်ပြီး သူဌေးကြီးထံ သွားခဲ့ပါတယ်။

သူဌေးကြီးလည်း အားရဝမ်းသာစွာနဲ့ ဘုရင်ကြီးထံ ကလေး ကို ယူဆောင်ပြီး 'ငါးဗိုက်ထဲကနေ ဒီကလေးကို ရခဲ့တဲ့ အကြောင်းနဲ့ ဘယ်လို လုပ်ရမလဲ ဆိုတဲ့ အကြောင်း' သံတော်ဦးတင်ခဲ့ပါတယ်။ ဒီအခါ ဘုရင်ကြီးက "ဒီကလေးက ဘုန်းကံကြီးသူပဲ၊ ငါးဗိုက်ထဲ

ရောက်တာတောင် ဘာမှ မဖြစ်ဘူး၊ သင်ပဲ မွေးစားလိုက်ပါ''လို့ အမိန့်တော် ချမှတ်ခဲ့ပါတယ်။

## ဗာကုလ အမည် တွင်လာခဲ့

ကလေးရဲ့ မိရင်းဖရင်းဖြစ်တဲ့ ကောသမ္ဗီပြည်က သူဌေး မိသားစုဟာ အောက်ပြည် ဗာရာဏသီပြည်က သူဌေးအိမ်တစ်အိမ်မှာ ငါးဗိုက်ထဲကနေ ကလေးရတယ် ဆိုတဲ့ သတင်းစကားကို ကြားရတဲ့ အတွက် ဗာရာဏသီပြည်ကို လိုက်သွားကြတယ်။ ဗာရာဏသီပြည်က သူဌေးအိမ် ရောက်တဲ့ အခါ 'သူတို့ကလေးကို ရေချိုးပေးရင်း ငါးကြီး မျိုသွားတဲ့ အတွက် ဒီကလေးဟာ သူတို့ရဲ့ သားလေးဖြစ်တဲ့ အကြောင်း' ပြောပြပါတယ်။ ဗာရာဏသီပြည်သူဌေးလင်မယား ကလည်း သူတို့ဝယ်တဲ့ ငါးရဲ့ ဝမ်းဗိုက်ထဲကနေ ဒီကလေးကို ရခဲ့တာ ဖြစ်လို့ သူတို့ပိုင်တဲ့ ကလေးဖြစ်ကြောင်း ပြန်လည် ချေပခဲ့ပါတယ်။

ဒီလိုနဲ့ တစ်ဖက်နဲ့ တစ်ဖက် ငြင်းကြခုံကြရင်း ပြဿနာ မပြေငြိမ်းတာကြောင့် ဗာရာဏသီဘုရင်ကြီးထံ တရားအဆုံးအဖြတ် ခံယူဖို့ ရောက်သွားကြတယ်။ ဒီအခါ ဘုရင်ကြီးက ''ဒီ ကောသမ္ဗီ သူဌေးကတော်ကြီးက ကလေးကို ဝမ်းနဲ့ ဆယ်လလွယ်ပြီး မွေးဖွားပေး ခဲ့သူ ဖြစ်တာမို့ သူ့ကို ကလေးအမေ မဟုတ်ဘူးလို့ ဆုံးဖြတ်လို့ မဖြစ်ပါ၊ ဒီဘက်က ဗာရာဏသီသူဌေးကတော်ကြီးကျတော့လည်း ငါးကို ဝယ်ရင် ငါးဗိုက်ထဲက ကလေးကိုပါ ပိုင်ဆိုင်သူ ဖြစ်တာမို့ သူ့ကိုလည်း ဒီကလေးနဲ့ မဆိုင်ဘူးလို့ ဆိုလို့ မရပေဘူး၊ ဒါကြောင့် ဒီကလေးဟာ သူဌေးအိမ် နှစ်အိမ်လုံးနဲ့ ဆိုင်တယ်၊ သူဌေးအိမ် နှစ်အိမ်လုံးရဲ့ အမွေခံသား ဖြစ်ပါစေ''လို့ အမိန့်တော်မှတ် ဆုံးဖြတ်ပေး လိုက်ပါတယ်။ အဲဒီ အချိန်ကစပြီး သူဌေးအိမ် နှစ်အိမ်စလုံးမှာ စီးပွားရေးတွေ မြန်မြန်ဆန်ဆန် တိုးတက်လာပြီး ဂုဏ်သတင်း တွေလည်း ပိုမိုကြီးလာခဲ့ပါတယ်။ သူဌေးအိမ် နှစ်အိမ်မှာ ကြီးပြင်းရသူ

ဖြစ်တာမို့ ကလေးရဲ့ နာမည်ကိုလည်း 'ဗာကုလသူငယ်'လို့ မှည့်ခေါ်ခဲ့ကြတယ်။

## အသက်ရှစ်ဆယ်အထိ လူ့စည်းစိမ်ခံစား

ဗာကုလ အရွယ်ရောက်လာတဲ့ အခါ မျိုးနွယ်နှစ်ခုစလုံးက မိဘတွေဟာ သူ့အတွက် နွေရာသီနေဖို့ အိမ်တော်၊ မိုးရာသီနေဖို့ အိမ်တော်၊ ဆောင်းရာသီနေဖို့ အိမ်တော်ဆိုပြီး ဥတုသုံးလီနဲ့ ကိုက်ညီတဲ့ အိမ်တော် သုံးအိမ်စီ ဆောက်လုပ်ပေးခဲ့တယ်။ နောက်ပြီး အဲဒီအိမ်တော်တွေမှာ ပြုစုယုယပေးမယ့် ကချေသည်တွေ၊ ရံရွေတော်တွေနဲ့ ပြည့်ပြည့်စုံစုံ ပျော်ပျော်ပါးပါး နေစေခဲ့ပါတယ်။ မျိုးနွယ်တစ်ခု တစ်ခုစီမှာ လေးလ လေးလစီ နေရပါတယ်။ ဒီဘက်က မြို့မှာ လေးလနေပြီးရင် မဏ္ဍပ်တွေ အမိုးအကာတွေနဲ့ သေချာဆောက်လုပ်ထားတဲ့ လှေကြီးနဲ့ အခြားမြို့ကို သွားရပါတယ်။ အဲဒီ လှေကြီးပေါ်မှာလည်း ကချေသည်တွေ၊ အတီးအမှုတ်တွေ စတဲ့ ပျော်စရာ၊ ပါးစရာ၊ စားစရာ၊ သောက်စရာတွေ အစုံအလင်နဲ့ လေးလတိတိ ခံစား၊ စံစားပြီး သွားရတာပါ။

ဒီလို သွားတဲ့ အခါ အခြားမြို့က ကချေသည်တွေ၊ ရံရွေတော်တွေဟာ လမ်းခရီးထက်ဝက်ကနေ နှစ်လလောက်ကတည်းက စောင့်ကြိုနေပြီး ဗာကုလသူဌေးသားလေးကို သူတို့မြို့ဆီ ပျော်စရာ၊ ပါးစရာအစုံနဲ့ ပြုစုစောင့်ရှောက်ကာ ခေါ်သွားကြပါတယ်။ လာရင်းမြို့က ကချေသည်တွေ၊ ခြွေရံတော်တွေက လာလမ်းအတိုင်း သူတို့မြို့ဆီ ပြန်သွားကြတယ်။ ဗာကုလသူဌေးသားဟာ အဲဒီမြို့မှာ လေးလနေပြီးတာနဲ့ အလာတုန်းက ပုံစံအတိုင်း မူလလာရင်းမြို့ဆီ ပြန်သွားရတာပါ။ ဗာကုလ သူဌေးသားလေးဟာ ဒီပုံဒီနည်းအတိုင်း စည်းစိမ်တွေ ခံစားပျော်ပါးရင်း အသက် ရှစ်ဆယ်အရွယ် ရောက်လာခဲ့ပါတယ်။

## ဗာကုလသူဌေး ရဟန်းပြု၊ ရဟန္တာဖြစ်

အဲဒီ အချိန်မှာ အကျွန်ုပ်တို့ရဲ့ ဂေါတမဘုရား အလောင်းတော်ဟာ ဘုရားဖြစ်တော်မူပြီးနောက် ဓမ္မစကြာတရား စသည် ဟောရင်း ဒေသစာရီခရီး လှည့်လည်လာခဲ့တာ ကောသမ္ဗီပြည်သို့ ဆိုက်ရောက်တော်မူခဲ့ပါတယ်။ ဗာကုလသူဌေးလည်း မြတ်စွာဘုရား ကြွတော်မူလာပြီလို့ သိလိုက်တာနဲ့ ပန်းနံ့သာတွေ ယူဆောင်ပြီး မြတ်စွာဘုရားထံသွားကာ တရားနာခဲ့ပါတယ်။ တရားနာပြီး သဒ္ဓါတရားတွေ ဖြစ်ပေါ်လာတဲ့ အတွက် မြတ်စွာဘုရားထံမှာ ရဟန်းဝတ်ခဲ့ပါတယ်။ အရှင်ဗာကုလဟာ ရဟန်းဖြစ်ပြီးနောက် ဝိပဿနာတရား ပွားများအားထုတ်လိုက်တာ ခုနစ်ရက်ပဲ ပုထုဇဉ်ဘဝနဲ့ နေလိုက်ရပါတယ်။ ရှစ်ရက်မြောက် အရုဏ်တက်တာနဲ့ အရှင်မြတ်ဟာ ပဋိသမ္ဘိဒါလေးပါးနဲ့တကွ အရဟတ္တဖိုလ်ဉာဏ်ရရှိပြီး အာသဝေါကုန်ခန်း ရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။

## သက်ရှည် ကျန်းမာ လွန်ချမ်းသာ

အရှင်ဗာကုလမထေရ်ရဲ့ ဆွေတော်မျိုးတော်တွေနဲ့ လူ့ဘဝတုန်းက သူ့ကို လုပ်ကျွေးပြုစုခဲ့ကြတဲ့ အမျိုးသမီးတွေဟာ သင်္ကန်းတွေကိုယ်တိုင်ချုပ်ပြီး အရှင်မြတ်ကို မပြတ်လှူဒါန်းကြတယ်။ ဒါကြောင့် အရှင်ဗာကုလမထေရ်ဟာ တစ်လရဲ့ ရှေ့ထက်ဝက် ၁၅ ရက်မှာ ကောသမ္ဗီမြို့က ဆွေတော်မျိုးတော်တွေ လှူဒါန်းတဲ့ သင်္ကန်းတွေ ဝတ်ရုံတော်မူရပြီး ကျန်တဲ့ နောက်ထက်ဝက် ၁၅ ရက်မှာတော့ ဗာရာဏသီမြို့က ဆွေတော်မျိုးတော်တွေ လှူဒါန်းတဲ့ သင်္ကန်းတွေကို ဝတ်ရုံသုံးဆောင်တော်မူရတယ်။ သင်္ကန်းတင်မက သူတို့မြို့နှစ်မြို့မှာ အကောင်းဆုံးဆိုတဲ့ ဆွမ်းခဲဖွယ်တွေ၊ ပစ္စည်းဝတ္ထုအသုံးအဆောင်တွေ၊ ဆေးပစ္စည်း စတာတွေကို အရှင်မြတ်ထံ မပြတ်ပို့ဆောင် လှူဒါန်းကြပါတယ်။

အရှင်မြတ်ဟာ လူဝတ်ကြောင်ဘဝနဲ့ အသက်ရှစ်ဆယ်နေခဲ့တဲ့ တစ်လျှောက်လုံးမှာလည်း နံ့သာတုံး၊ နံ့သာခဲကို လက်နဲ့ကိုင်ပြီး တစ်ရှူတစ်ရှိုက်လောက် နမ်းရှူတဲ့ အချိန်တို ကာလလောက်လေး အတွင်းမှာတောင် ဘာဆို ဘာရောဂါဝေဒနာမှ မဖြစ်ခဲ့ဖူးပါဘူး။

အသက်ရှစ်ဆယ်ပြည့်တဲ့ အခါမယ် ရဟန်းဘဝကိုလည်း လွယ်လင့်တကူ ဝတ်နိုင်ခဲ့ပါတယ်။ ရဟန်းဘဝကိုလည်း ဝါတော် ရှစ်ဆယ်အထိ အသက်ရှည်ရှည် နေတော်မူသွားခဲ့ရပါတယ်။ ရဟန်းဘဝ တစ်လျှောက်လုံးမှာလည်း ပစ္စည်းလေးပါး ချို့တဲ့တယ် ဆိုတာ မရှိခဲ့သလို ကျန်းမာရေးကလည်း နှာစေး၊ ချောင်းဆိုတယ် ဆိုတာတောင် မဖြစ်ခဲ့ဖူးပါဘူး။

အရှင်မြတ်ဟာ ပရိနိဗ္ဗာန်စံခါနီး နောက်ဆုံး အချိန်မှာလည်း လူ့ဘဝက သူငယ်ချင်းဖြစ်ခဲ့ဖူးတဲ့ အစေလကဿပကို ဗာကုလ သုတ္တန် တရားဒေသနာ ဟောကြားပြီးမှ အနုပါဒိသေသ ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့ပါတယ်။ ဒါကတော့ အရှင်မြတ်ရဲ့ ဘဝဖြစ်ရပ် အတ္ထုပ္ပတ်ပဲ ဖြစ်ပါတယ်။

## အပ္ပာဗာဓဧတဒဂ်နဲ့ ချီးမြှောက်ခံရ

မြတ်စွာဘုရားရှင်တော်မြတ်ကတော့ အရှင်ဗာကုလမထေရ်ရဲ့ သက်တော်ထင်ရှား ရှိစဉ် အခါမှာပဲ တပည့်မထေရ်တွေကို ဧတဒဂ် အရာထားပြီး ချီးမြှောက်တဲ့ အခါ အရှင်ဗာကုလမထေရ်ကို သာသနာ တော်မှာ အနာရောဂါ အကင်းဆုံးပုဂ္ဂိုလ် ဆိုတဲ့ အပ္ပာဗာဓဧတဒဂ် ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## (၈) အရှင်ဗာကုလမထေရ် ဟောကြားသည့် တရားတော် အရှင်မြတ်၏ အံ့ဩဖွယ်ရာ ဂုဏ်ရည်များ

တစ်ချိန်မှာတော့ အရှင်ဗာကုလမထေရ်ဟာ ရာဇဂြိုဟ်ပြည်

ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံး နေတော်မူပါတယ်။ ဒီအခါ အရှင်မြတ်နဲ့ လူ့ဘဝတုန်းက သူငယ်ချင်း ဖြစ်ခဲ့ဖူးတဲ့ အစေလကဿပဟာ အရှင်မြတ်ထံ ရောက်လာပြီး အာလာပသလ္လာပ နှုတ်ဆက်စကား ပြောဆိုခဲ့ပါတယ်။ အစေလကဿပ ဆိုတာ 'အဝတ်မဝတ်တဲ့ ကဿပ'လို့ ဆိုလိုတာပါ။ သူက အရှင်မြတ်ကို "ငါ့ရှင် ဗာကုလ၊ ရဟန်းဝတ်တာ ဘယ်လောက် ကြာပြီလဲ"လို့ မေးပါတယ်။ အရှင်မြတ်က ရဟန်းဝတ်တာ အနှစ်ရှစ်ဆယ် ရှိပြီဖြစ်တဲ့ အကြောင်း ပြန်လည် ဖြေကြားပါတယ်။ ဆက်ပြီး အရှင်မြတ်ကို "ငါ့ရှင် ဗာကုလ၊ ဒီ နှစ်ရှစ်ဆယ်အတွင်းမှာ မေထုန် ဘယ်နှခါ မှီဝဲဖူးပါသလဲ"လို့ သာသနာပ ရဟန်းတုပီပီ ရိုင်းပျရင့်သီးတဲ့ မေးခွန်းကို မေးခဲ့ပါတယ်။

ဒီအခါမှာ အရှင်မြတ်က အစေလကဿပကို "ငါ့ရှင် ကဿပ၊ သင် ငါ့ကို ဒီလို မေးခွန်းမျိုး မမေးသင့်ဘူး။ သင်မေးချင်တယ်ဆိုရင် 'ငါ့ရှင် ဗာကုလ၊ သင့်စိတ်ထဲမှာ ဒီ နှစ်ရှစ်ဆယ် အတွင်းမှာ ကာမဂုဏ်နဲ့ ပတ်သက်တဲ့ အမှတ်သညာ ဘယ်နှကြိမ် လောက် ဖြစ်ခဲ့ဖူးတုံး'လို့ အခုလို ယဉ်ကျေး သိမ်မွေ့စွာပဲ မေးသင့် တယ်" ဆိုတဲ့ အကြောင်း မိန့်ကြားတော်မူပါတယ်။

မေးခွန်းမေးနည်း သင်ပေးပြီးတဲ့နောက် အရှင်ဗာကုလမထေရ် ဟာ သူ့ဘဝရဲ့ ထူးခြားချက်တွေကို ဖော်ပြပါအတိုင်း ဆက်လက် မိန့်ကြားတော်မူခဲ့ပါတယ်။

"ငါ့ရှင် ကဿပ၊ ငါ ရဟန်းဝတ်တာ အနှစ်ရှစ်ဆယ် ရှိပြီ၊ ဒီ နှစ်ရှစ်ဆယ်၊ ဝါရှစ်ဆယ်အတွင်း-

(၁) - ငါ့သန္တာန်မှာ ကာမဂုဏ်နဲ့ ဆက်စပ်တဲ့ ကာမသညာ တစ်ကြိမ်တစ်ခါမျှ မဖြစ်ဖူးပါ။

(၂) - ငါ့သန္တာန်မှာ သူတစ်ပါးကို ဖျက်ဆီးလိုမှုနဲ့ ဆက်စပ်တဲ့ ဗျာပါဒသညာ တစ်ကြိမ်တစ်ခါမျှ မဖြစ်ဖူးပါ။

(၃) - ငါ့သန္တာန်မှာ သူတစ်ပါးကို ညှဉ်းဆဲလိုမှုနဲ့ ဆက်စပ်တဲ့ ဝိဟိံသသညာ တစ်ကြိမ်တစ်ခါမျှ မဖြစ်ဖူးပါ။

(၄) - ငါ့သန္တာန်မှာ ကာမဂုဏ်နဲ့ ပတ်သက်တဲ့ အတွေးအကြံ ကာမဝိတက် တစ်ကြိမ်တစ်ခါမျှ မဖြစ်ဖူးပါ။

(၅) - ငါ့သန္တာန်မှာ သူတစ်ပါးကို ဖျက်ဆီးလိုမှုနဲ့ ပတ်သက်တဲ့ အတွေးအကြံ ဗျာပါဒဝိတက် တစ်ကြိမ်တစ်ခါမျှ မဖြစ်ဖူးပါ။

(၆) - ငါ့သန္တာန်မှာ သူတစ်ပါးကို ညှဉ်းဆဲလိုမှုနဲ့ ပတ်သက်တဲ့ အတွေးအကြံ ဝိဟိံသာဝိတက် တစ်ကြိမ်တစ်ခါမျှ မဖြစ်ဖူးပါ။

(၇) - ဆွေမျိုးမတော်စပ်တဲ့ ဒကာ၊ ဒကာမတွေ လှူဒါန်းတဲ့ သင်္ကန်းကို တစ်ကြိမ်တစ်ခါမျှ မသာယာခဲ့ဖူး၊ အလှူမခံခဲ့ဖူးပါ။

(၈) - သင်္ကန်းချုပ်ဖို့အတွက် အဝတ်စတစ်ထည်ကိုပင် ဓားနဲ့ တစ်ခါမျှ မဖြတ်ဖူးပါ။

(၉) - သင်္ကန်းကို အပ်နဲ့ တစ်ခါမျှ မချုပ်ဖူးပါ။

(၁၀) - သင်္ကန်းကို ဆိုးရည်နဲ့ တစ်ခါမျှ မဆိုးဖူးပါ။

(၁၁) - ကထိန်သင်္ကန်း တစ်ခါမျှ မချုပ်ဖူးပါ။

(၁၂) - သီတင်းသုံးဖော်တွေ သင်္ကန်းချုပ်တဲ့နေရာမှာလည်း တစ်ခါမျှ မစီမံ မပါဝင်ခဲ့ဖူးပါ။

(၁၃) - ပင့်ဖိတ်ပြီး ကပ်တဲ့ ဆွမ်းကို တစ်ခါမျှ မသာယာခဲ့ဖူးပါ။

(၁၄) - ဒကာ တစ်ဦးတစ်ယောက်က ငါ့ကို ပင့်ဖိတ်ရင် ကောင်းမှာပဲဆိုတဲ့ အတွေးမျိုးလည်း တစ်ခါမျှ မဖြစ်ခဲ့ဖူးပါ။

(၁၅) - ရပ်ထဲရွာထဲ လူတွေရဲ့ အိမ်တံစက်မြိတ်အတွင်း တစ်ကြိမ်တစ်ခါမျှ ဝင်ရောက်ပြီး မနေထိုင်ဖူးပါ။

(၁၆) - မြို့ထဲရွာထဲမှာ တစ်ကြိမ်တစ်ခါမျှ ဆွမ်းမစားဖူးပါ။

(၁၇) - အမျိုးသမီး မာတုဂါမတွေကို အမျိုးသမီးဆိုတဲ့ အမှတ် လက္ခဏာနဲ့ တစ်ကြိမ်တစ်ခါမျှ မကြည့်ခဲ့ဖူးပါ။

(၁၈) - အမျိုးသမီးတွေကို ယုတ်စွအဆုံး လေးပိုဒ်ရှိတဲ့ ဂါထာလေး တစ်ဂါထာနဲ့တောင် တရား မဟောဖူးပါ။

(၁၉) - ဘိက္ခုနီမကျောင်းတွေကို မချဉ်းကပ် မသွားခဲ့ဖူးပါ။

(၂၀) - ဘိက္ခုနီမတွေကို တရား မဟောဖူးပါ။

(၂၁) - သိက္ခမာန်မတွေကို တရား မဟောဖူးပါ။

(၂၂) - သာမဏေမတွေကို တရား မဟောဖူးပါ။

(၂၃) - ဥပဇ္ဈာယ်ဆရာလုပ်ပြီး ရှင်ပြုမပေးဖူးပါ။

(၂၄) - ဥပဇ္ဈာယ်ဆရာလုပ်ပြီး ရဟန်းမခံပေးဖူးပါ။

(၂၅) - နိဿရည်းဆရာလည်း မလုပ်ဖူးပါ။

(၂၆) - ရှင်သာမဏေများရဲ့ ပြုစုလုပ်ကျွေးမှုကိုလည်း မခံဖူးပါ။

(၂၇) - ရေချိုးခန်းထဲမှာ ရေမချိုးဖူးပါ။

(၂၈) - ဆပ်ပြာ၊ ဆပ်ပြာမှုန့်တွေနဲ့ ပွတ်တိုက်ပြီး ရေမချိုးဖူးပါ။

(၂၉) - မည်သည့် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကိုမျှ ငါ့ကိုယ်ကို ဆုပ်နယ်ပေးစမ်းပါ၊ နင်းနှိပ်ပေးစမ်းပါလို့ မခိုင်းဖူးပါ။

(၃၀) - ယုတ်စွအဆုံး ငါ့ခန္ဓာကိုယ်မှာ နွားနို့တစ်ညှစ်ခန့် အချိန်လေးလောက်တောင် အနာရောဂါ မဖြစ်ခဲ့ဖူးပါ။

(၃၁) - ကျန်းမာရေးအတွက် ဆေးဝါးဓာတ်စာ အနေနဲ့ ဆီးဖြူသီးပိုင်းလေးကိုတောင် မစားရဖူးပါ။

(၃၂) - နောက်မှီပါတဲ့ တံကဲပျဉ်(ကုလားထိုင်)ကို မှီပြီး တစ်ခါမျှ မအိပ်စက်ဖူးပါ။

(၃၃) - အိပ်ရာပေါ်မှာ လျောင်းစက်ပြီး မအိပ်ဖူးပါ။

(၃၄) - ရွာနီးကျောင်းမှာ တစ်ခါမျှ ဝါမကပ်ခဲ့ဖူးပါ၊ အမြဲတမ်း တောရကျောင်းမှာပဲ ဝါကပ်ခဲ့ပါတယ်။

(၃၅) - ငါ့ရှင် ကဿပ၊ ငါဟာ ရဟန်းဖြစ်ပြီးတဲ့ နောက် ကိလေသာတန်းလန်း ပုထုဇဉ် ရဟန်းဘဝနဲ့ တိုင်းသားပြည်သူ တွေ လောင်းလှူတဲ့ဆွမ်းကို ခုနစ်ရက်ပဲ စားခဲ့တယ်၊ ရှစ်ရက်မြောက် တဲ့နေ့ ငါ့သန္တာန်မှာ အရဟတ္တဖိုလ်တရား ထင်ရှားဖြစ်ပေါ်လာခဲ့တယ်''

အစေလကဿပဟာ အရှင်ဗာကုလမထေရ် မိန့်ကြားတဲ့ အံ့သြဖွယ်ရာ ထူးခြားချက်ဂုဏ်ရည် တစ်ပါးချင်းစီ ကြားရပြီးတဲ့ အခါတိုင်း အရှင်ဗာကုလမထေရ်အပေါ် ကြည်ညိုစိတ်တွေ အားကျ စိတ်တွေ ဖြစ်ပေါ်လာခဲ့ပါတယ်။ ဒါကြောင့် အစေလကဿပဟာ အရှင်ဗာကုလမထေရ်ထံ ရဟန်းပြုခွင့် တောင်းခံခဲ့ပါတယ်။ ဒီအခါ အရှင်ဗာကုလမထေရ်ဟာ ကိုယ်တိုင် ဥပဇ္ဈာယ်ဆရာလုပ်ပြီး ရဟန်း ခံမပေးခဲ့ပါဘူး။ အခြား သင့်တော်တဲ့ မထေရ်တစ်ပါးကိုပဲ ဥပဇ္ဈာယ် ဆရာ လုပ်စေပြီး အစေလကဿပကို ရဟန်းခံပေးဖို့ စီမံပေးခဲ့တဲ့ အတွက် အစေလကဿပဟာ သာသနာတွင်းရဟန်း ဖြစ်လာခဲ့ပါ တယ်။ ရဟန်းဖြစ်ပြီးတဲ့နောက် အရှင်အစေလကဿပဟာ ရဟန်း တရား ကြိုးစားပြီး အားထုတ်တဲ့အတွက် အရဟတ္တဖိုလ် ဆိုက်ရောက် ကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

(၃၆) ဒီနောက် တစ်ချိန်မှာတော့ အရှင်ဗာကုလမထေရ်ဟာ ရဟန်းတော်တွေ သီတင်းသုံးတဲ့ ကျောင်းဆောင်တိုင်း ကျောင်းဆောင် တိုင်းဆီ သွားရောက်ပြီး ''အရှင်ဘုရားတို့၊ ကြွတော်မူကြပါ ဘုရား၊ ကြွတော်မူကြပါဘုရား၊ ဒီနေ့ဟာဖြင့် တပည့်တော် ပရိနိဗ္ဗာန်ပြုရမယ့် နေ့ပါဘုရား''လို့ လှည့်လည် ဖိတ်ကြား လျှောက်ထားခဲ့ပါတယ်။ ဒီလို ပရိနိဗ္ဗာန်စံမယ့်အရေး ဖိတ်ကြား လျှောက်ထားနိုင်တာဟာလည်း အရှင်မြတ်ရဲ့ ထူးခြားတဲ့ အံ့ဖွယ်ဂုဏ်ရည်တစ်ပါးပဲ ဖြစ်ပါတယ်။

(၃၇) အရှင်ဗာကုလမထေရ်ဟာ အခုလို သံဃာတော်များကို ပင့်ဖိတ်ပြီး သံဃာတော်များ စုဝေးမိတဲ့အခါ "ငါဟာ အသက်ထင်ရှား ရှိစဉ်မှာ ငါ့ကိုယ်ခန္ဓာအတွက်နဲ့ ဘယ်ရဟန်းတစ်ပါးတလေကိုမှ တာဝန်မပေးခဲ့ပါ။ အခု ပရိနိဗ္ဗာန်စံတဲ့အခါမှာလည်း ဒီ ငါ့ခန္ဓာကိုယ်ဟာ ကျန်တဲ့သံဃာတော်တွေအတွက် ကြောင့်ကြပလိဗောဓ မဖြစ်ရစ်ပါစေနဲ့"လို့ အဓိဋ္ဌာန်လိုက်ပါတယ်။ ဒီနောက်တော့ တေဇောကသိုဏ်း ဝင်စားလိုက်ပြီး ရဟန်းသံဃာတော်တွေရဲ့ အလယ်မှာပဲ ထိုင်ရက်အနေအထားနဲ့ ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့ပါတယ်။

ပရိနိဗ္ဗာန် စံတာနဲ့ တစ်ပြိုင်နက်မှာပဲ ခန္ဓာကိုယ်ကနေ မီးဟုန်းခနဲ တောက်ပြီး လောင်ကျွမ်းခဲ့ပါတယ်။ အရေ၊ အသား၊ အသွေးတော်တွေဟာ ထောပတ်ဆီ မီးလောင်တဲ့ အခါ ဘာမှ မကျန်တော့သလို ကုန်ခန်းသွားကြတယ်။ ကျန်တဲ့ အရိုးတော်တွေကတော့ ဓာတ်တော်အဖြစ် ကြွင်းကျန်ရစ်ခဲ့ပါတယ်။ အခုလို ဘယ်သူ့အပေါ်မှာမှ ဝန်မတက်စေဘဲ ပရိနိဗ္ဗာန်စံခြင်းဟာလည်း အရှင်မြတ်ရဲ့ အံ့ဖွယ်ထူးခြားတဲ့ ဂုဏ်ရည်တစ်ပါး ဖြစ်ပါတယ်။



အရှင်ဗာကုလမထေရ်ဟာ 'အနာမဲ့သူ၊ ရှင်ဗာကူ'လို့ ဆိုရိုးပြုပြီး ညွှန်းဆိုခံရလောက်အောင် အနာရောဂါကင်းရှင်း ကျန်းမာခြင်းဂုဏ်နဲ့ ပြည့်စုံတော်မူတဲ့ သက်တော်ရှည် အရှင်မြတ်ဖြစ်ပါတယ်။

အရှင်မြတ် အခုလို အနာရောဂါ ကင်းစင်တဲ့ ပုဂ္ဂိုလ် ဖြစ်ရတဲ့ အကြောင်းရင်း အချက်အလက်တွေကို ကြည့်လိုက်တဲ့ အခါ−

၁။ အနောမဒဿီ မြတ်စွာဘုရားရှင်ရဲ့ လေနာရောဂါကို ကုသပေးခဲ့တာ။

၂။ ဒါန၊ သီလ၊ ဘာဝနာ ကောင်းမှုကုသိုလ်တွေ ပြုလုပ်ပြီး ပဒုမုတ္တရမြတ်စွာဘုရားထံ အနာရောဂါကင်းတဲ့ အရာ ဧတဒဂ်ရဖို့ ဆုပန်ခဲ့တာ။

၃။ ဝိပဿီဘုရားရှင်ရဲ့ တပည့်သံဃာတွေမှာဖြစ်တဲ့ ခေါင်းမူး ဝေဒနာ ပျောက်ကင်းအောင် ဆေးကုသပေးခဲ့တာ။

၄။ ကဿပဘုရားရှင်လက်ထက်တော်မှာ ကျောင်းဟောင်း ပြင်လှူတာ၊ ဆေးရုံ ဆေးခန်း ဆေးပစ္စည်းတွေ လှူခဲ့တာ စတဲ့ ပါရမီ ကောင်းမှုကုသိုလ်တွေကို တွေ့ရမှာပါ။

အရှင်မြတ်ဟာ ဒီပါရမီကောင်းမှု ကုသိုလ်တွေကြောင့်ပဲ နောက်ဆုံးဘဝမှာ လူ့ဘဝရဲ့ ကာမချမ်းသာလည်း ပြည့်ဝစွာ ခံစားရတဲ့ အပြင် ရဟန်းဘဝရဲ့ အမြင့်ဆုံး အရဟတ္တဖိုလ်ချမ်းသာကိုပါ လွယ်လင့် တကူ ရရှိတော်မူခဲ့ပါတယ်။

အရှင်မြတ်ရဲ့ ထူးဆန်းအံ့ဖွယ်ရာ ဂုဏ်ရည်တွေကလည်း ကြားနာရသူအပေါင်းကို ကြက်သီးမွေးညင်းတွေ တဖျဉ်းဖျဉ်း ထလာ စေတဲ့ အထိ ကုသိုလ်ပီတိ သောမနဿကို ဖြစ်စေနိုင်လောက်တဲ့ ဂုဏ်ရည်တွေ ဖြစ်ပါတယ်။

ရဟန်းဘဝ တစ်လျှောက်လုံး ကာမဂုဏ် အတွေးအကြံတွေ လုံးဝ မဖြစ်တာ၊ ပစ္စည်းပစ္စယ ရလိုတဲ့စိတ် မဖြစ်တာ၊ တောရဆောက် တည်ပြီး ကျောမခင်းတဲ့ နိသဇ္ဇဓုတင် ဆောင်ခဲ့တာ၊ သူတစ်ပါးရဲ့ အပြုအစုကို မခံတာ၊ မိမိကြောင့် ဘယ်သူ့ကိုမှ ဝန်ထုပ်ဝန်ပိုး မဖြစ် စေတာတွေကတော့ တကယ့်ကို ကြည်ညိုလို့မဆုံး ဖြစ်ရတဲ့ အရှင်မြတ် ကြီးရဲ့ ထူးခြားချက် ဂုဏ်ရည်တွေပဲ ဖြစ်ပါတယ်။

'သြော်၊ မိမိတို့တစ်တွေ စံနမူနာထားပြီး ကိုးကွယ်တဲ့ သံဃာဆိုတာ ဒီလို သူမတူအောင် ထူးခြားတဲ့ ဂုဏ်ရည်တွေနဲ့ ပြည့်စုံ တော်မူတဲ့ သံဃာတော်မြတ်တွေပါလား' လို့ တွေးပြီး တစိမ့်စိမ့်

တအိမ့်အိမ့် ဖြစ်ပွားလာတဲ့ သဒ္ဓါဓာတ်တွေနဲ့ အရိယာသံဃာတွေကို ကြည်ညိုနေမိပါတော့တယ်။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ ၁။ ၂၃၆။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၀၁။
၃။ အပဒါန်ပါဠိတော်၊ ၁။ ၃၈၅။
၄။ အပဒါန်အဋ္ဌကထာ၊ ၂။ ၂၀၃။
၅။ ထေရဂါထာပါဠိ၊ ၂၆၃။
၆။ ထေရဂါထာအဋ္ဌကထာ၊ ၁။ ၄၃၉။
၇။ ဥပရိပဏ္ဏာသပါဠိတော်၊ ၁၃၅။
၈။ ဥပရိပဏ္ဏာသအဋ္ဌကထာ၊ ၁၃၅။
၉။ ပဋိသမ္ဘိဒါမဂ္ဂအဋ္ဌကထာ၊ ၂။ ၂၈၀။

အခု ကြည့်ညိုကြမယ့် မထေရ်ကတော့ အတိတ်ဘဝ တွေကို အဘိညာဉ်နဲ့ ပြန်ပြီး အောက်မေ့ သိနိုင်တဲ့ အရာ အသာဆုံး ဧတဒဂ် ရခဲ့တဲ့ အရှင်သောဘိတ မထေရ်မြတ်ပဲ ဖြစ်ပါတယ်။ အတိတ်ဘဝ ခန္ဓာ့ဖြစ်စဉ်တွေကို ပြန်လည် အောက်မေ့နိုင်၊ သိမြင်နိုင်တဲ့ အဘိညာဉ်ကို 'ပုဗ္ဗေနိဝါသာ နုဿတိအဘိညာဉ်' လို့ ခေါ်ပါတယ်။ ဒီအဘိညာဉ်ရဲ့ သဘောသဘာဝကို ဆဝါးမှန်းဆနိုင်ဖို့ အတွက် 'ဇာတိဿရဉာဏ်'ဆိုတာကို အရင်ရှင်းပြချင် ပါတယ်။





အတိတ်ဘဝ ခန္ဓာ့ဖြစ်စဉ်တွေကို ဖောက်ဖေ့သိမြင်နိုင်တဲ့အရာ အထာဆုံး

# ပုဗ္ဗေနိဝါသာနုဿတိတောဒဝ်ရ

# အရှင်သောဘိတ မထေရ်

## ဇာတိဿရဉာဏ်

ဇာတိဿရဉာဏ်ဆိုတာ ကိုယ်ဖြစ်ခဲ့တဲ့ ဘဝတွေကို ပြန်လည် မှတ်မိနေတဲ့ အသိကို ဆိုလိုတာ ဖြစ်ပါတယ်။ ဒီအသိဉာဏ်ရှိတဲ့ သူတွေထဲက တချို့ဟာ တစ်ဘဝလောက်ပဲ မှတ်မိကြတယ်။ တချို့ကျ တော့ နှစ်ဘဝ၊ သုံးဘဝလောက်၊ တစ်ချို့ကြတော့ လေး၊ ငါး၊ ဆယ်ဘဝလောက်တောင် မှတ်မိကြ၊ ပြန်ပြောနိုင်ကြတာတွေ ရှိပါ တယ်။ အခုလို ကိုယ်ဖြစ်ခဲ့တဲ့ ရှေးဘဝအကြောင်းအရာတွေကို မှတ်မိ ပြီး ပြန်ပြောနိုင်ကြတဲ့ သူတွေကို 'လူဝင်စား' လို့ ခေါ်ကြပါတယ်။ ဒီလို လူဝင်စားပုဂ္ဂိုလ်တွေကို ကျေးလက်ဒေသ တော်တော်များများမှာ တွေ့ရတတ်ပါတယ်။

အတိတ်ဘဝတွေကို ပြန်လည် အမှတ်ရကြတာကို လေ့လာ ကြည့်တဲ့ အခါ တချို့က ငယ်ငယ်လေးကတည်းက ဘဝဟောင်းကို အလိုလို မှတ်မိနေပြီး ပြန်ပြောပြတာ ရှိတတ်ပါတယ်။ တချို့ကျတော့ အကြောင်းအရာ တိုက်ဆိုင်လာမှ၊ တစ်စုံတစ်ယောက်က အစဖော်ပေး လိုက်မှ ပြန်လည် မှတ်မိတာလည်း ရှိပါတယ်။ တချို့ကျတော့ တရား ထိုင်လို့ သမာဓိတွေ အားကောင်းလာတဲ့ အခါ ဘဝဟောင်းက အဖြစ် အပျက်တွေ တသီတတန်းကြီး ပြန်ပေါ်လာတာမျိုးလည်း ရှိပါ တယ်။

ဇာတိဿရဉာဏ်နဲ့ ဘဝဟောင်းတွေကို ပြန်လည် မှတ်မိကြတဲ့ အကြောင်းအရာတွေ ပိဋကတော်မှာလည်း အတော်များများ တွေ့ရ ပါတယ်။ အဲဒီထဲက မြတ်စွာဘုရားလက်ထက်နဲ့ သီဟိုဠ် ဒုဋ္ဌဂါမဏိ မင်းလက်ထက်က ဖြစ်ခဲ့တဲ့ ရဟန္တာထေရီမတစ်ပါးရဲ့ အကြောင်းကို သံဝေဂဖြစ်ဖို့ အတွက် ဖော်ပြပါမယ်။

## ဝက်မလေးကို တွေ့ပြီး မြတ်စွာဘုရား ပြုံးတော်မူ

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ ရဟန်းတော်တွေနဲ့အတူ ရာဇဂြိုဟ်မြို့ထဲ ဆွမ်းခံ ကြွတော်မူပါတယ်။ လမ်းမှာ ဝက်မလေး

တစ်ကောင်ကို တွေ့မြင်လိုက်တဲ့ အခါ မြတ်စွာဘုရားရှင် ပြုံးတော်မူပါတယ်။ ဒီအခါ အရှင်အာနန္ဒာက မြတ်စွာဘုရားရှင် ပြုံးတော်မူရတဲ့ အကြောင်းကို မေးမြန်း လျှောက်ထားပါတယ်။

မြတ်စွာဘုရားရှင်က -

"အာနန္ဒာ… လမ်းဘေးက ဝက်မလေးကို မြင်တယ်ဟုတ်လား၊ အဲဒီ ဝက်မလေးဟာ ကကုသန်ဘုရားရှင်လက်ထက်တုန်းက တောရကျောင်းအနီးမှာ ကြက်မ ဖြစ်ခဲ့တယ်၊ အဲဒီ ကြက်မလေးဟာ တောရကျောင်းက ယောဂီရဟန်းတစ်ပါး ရွတ်ဆိုပွားများတဲ့ ဝိပဿနာ ကမ္မဋ္ဌာန်းနဲ့ ဆက်စပ်တဲ့ တရားသံကို မပြတ် ကြားနာခဲ့ရတယ်၊ ဒီကောင်းမှုကြောင့်ပဲ ကြက်မလေးဟာ အဲဒီ ဘဝကနေ ကွယ်လွန်တဲ့ အခါ ရာဇဂြိုဟ်ပြည်မှာ ဘုရင့်သမီးတော်လေး ဖြစ်လာခဲ့တယ်၊ အဲဒီ ဘဝမှာ အိမ်သာတက်ရင်း အိမ်သာတွင်းထဲက ပိုးလောက်တွေကို မြင်ပြီး အသုဘကမ္မဋ္ဌာန်း ရှုပွားတဲ့ အတွက် ပထမဈာန်ကို ရခဲ့တယ်၊ အဲဒီ ဈာန်ကုသိုလ်ကြောင့်ပဲ မင်းသမီးလေးဟာ ကွယ်လွန်တဲ့ အခါ ဗြဟ္မာပြည်ကို ရောက်ခဲ့တယ်၊ ဗြဟ္မာပြည်ကနေ ကွယ်လွန်တဲ့ အခါ လူ့ပြည်မှာ သူဌေးသမီး ဖြစ်ခဲ့ပြီး သူဌေးသမီးဘဝကနေ ကွယ်လွန်တဲ့ အခါမှာတော့ အကုသိုလ်ကံတစ်ခုကြောင့် ခု ဝက်မလေး ဖြစ်နေရရှာတာပဲ၊ ဒါကြောင့် ငါဘုရားပြုံးတော်မူတာပါ"လို့ မိန့်တော်မူပါတယ်။

အရှင်အာနန္ဒာနဲ့ နောက်ပါ ရဟန်းတော်များဟာ ဝက်မလေးအကြောင်းကို အခုလို ကြားသိလိုက်ရတဲ့ အခါ ဘဝသံသရာမှာ မြင့်တစ်လှည့်၊ နိမ့်တစ်လှည့် လည်နေရတဲ့ အပေါ် သံဝေဂဉာဏ်တွေ ကြီးမားစွာ ဖြစ်ခဲ့ကြတယ်။

မြတ်စွာဘုရားရှင်ကလည်း "သစ်ပင်ဟာ အမြစ်ပါမတူးထုတ်နိုင်ရင် နောက်ထပ် အတက်တွေ ထွက်လာပြီး စည်ပင်ဦးမှာ

ဖြစ်တယ်၊ ဒီ့အတူပဲ ဘဝ ဆိုတဲ့ သစ်ပင်ကြီးမှာလည်း တဏှာ ဆိုတဲ့ ရေသောက်မြစ်ကို မဂ်ဉာဏ်နဲ့ တူးမထုတ်နိုင်သရွေ့တော့ တစ်ဘဝပြီး တစ်ဘဝ မပြတ် လည်နေပြီး ဒုက္ခပင်လယ်တွေ ဝေနေဦးမှာ ဖြစ်တယ်၊ ဒါကြောင့် ဒုက္ခပင်လယ်တွေ မဝေချင်ကြရင်ဖြင့် သင်တို့တစ်တွေဟာ ဘဝ ဆိုတဲ့ သံသရာသစ်ပင်ကြီးရဲ့ တဏှာအမြစ်ကို မဂ်ဉာဏ်နဲ့ တူးထုတ်ရမှာ ဖြစ်တယ်''လို့ အစချီပြီး ဆွမ်းခံကြွရင်းနဲ့ပဲ တရားဒေသနာကို ဟောကြားတော်မူခဲ့ပါတယ်။

ဝက်မလေးဟာ အဲဒီ ဘဝကနေ သေတဲ့ အခါ သုဝဏ္ဏဘူမိ တိုင်းက မင်းနန်းတော်မှာ ဖြစ်ခဲ့ပါတယ်။ အဲဒီ ဘဝကနေ ကွယ်လွန်တဲ့ အခါ ဗာရာဏသီပြည်မှာ ဖြစ်ခဲ့တယ်။ အဲဒီ ဘဝကနေ သုပ္ပာရက သဘော်ဆိပ်က မြင်းကုန်သည်အိမ်မှာ၊ အဲဒီ ဘဝကနေ ကာဝီရ ဆိပ်ကမ်းက လှေသူကြီးအိမ်မှာ၊ အဲဒီကနေ သီဟိုဠ် အနုရာဓမြို့က မင်းမှုထမ်းအရာရှိအိမ်မှာ၊ အဲဒီကနေ အနုရာဓမြို့ရဲ့ တောင်ဘက်မှာ ရှိတဲ့ ရွာလေးတစ်ရွာက သူကြွယ်ရဲ့ သမီး ဖြစ်လာခဲ့ပါတယ်။ အရွယ် ရောက်တဲ့အခါ ဒုဋ္ဌဂါမဏိမင်းကြီးရဲ့ အမတ်ချုပ်ကြီးနဲ့ အကြောင်း ပါပြီး အမတ်ချုပ်ကတော် ဖြစ်ခဲ့ပါတယ်။

တစ်နေ့မှာတော့ မဟာအနုရုဒ္ဓမထေရ်ဟာ ရဟန်းတော်တွေနဲ့ အတူ ဆွမ်းခံကြွရင်းက အမတ်ချုပ်ကြီးရဲ့ အိမ်ပေါက်ဝ ရောက်ခဲ့ ပါတယ်။ မဟာအနုရုဒ္ဓမထေရ်ဟာ ဆွမ်းလောင်းလာတဲ့ အမတ်ချုပ် ကတော်ကို မြင်လိုက်တာနဲ့ အတူပါလာတဲ့ ရဟန်းတွေကို ''ငါ့ရှင် တို့၊. ဘုရားရှင် လက်ထက်တော်က ဝက်မလေးဟာ ခုတော့ အမတ်ချုပ်ကတော် ဖြစ်နေပါပေါ့လား၊ ဩော်၊ ဘဝ ဖြစ်စဉ်တွေဟာ တော်တော်လေး အံ့ဩစရာ ကောင်းပါလား''လို့ မိန့်တော်မူလိုက် ပါတယ်။

**အမတ်ချုပ်ကတော် ဇာတိဿရဉာဏ်နဲ့ အတိတ်ဘဝတွေကို မြင်ပြီး သံဝေဂဖြစ်**

မဟာအနုရုဒ္ဓမထေရ် မိန့်လိုက်တဲ့ ဒီစကားကို အမတ်ချုပ်ကတော် ကြားလိုက်တာနဲ့ သူမရဲ့ အတိတ်ဘဝ ဖြစ်စဉ်တွေကို ဇာတိဿရဉာဏ်နဲ့ အမှတ်ရခဲ့ပါတော့တယ်။ ဒီအခါ အမတ်ချုပ်ကတော်ဟာ သံဝေဂဉာဏ်တွေ ဖြစ်လာခဲ့တဲ့ အတွက် ခင်ပွန်းသည် အမတ်ချုပ်ကြီးထံ ခွင့်တောင်းပြီး အမျိုးသမီး ရဟန်းဘဝကို ခံယူလိုက်ပါတော့တယ်။ ဘိက္ခုနီရဟန်းမ ဖြစ်ပြီးတဲ့နောက် မဟာသတိပဋ္ဌာန သုတ္တန်ကို နာယူရတဲ့ အခါ သောတာပန် ဖြစ်ခဲ့ပါတယ်။ အာသီဝိသောပမသုတ္တန်ကို နာယူရတဲ့ အခါမှာတော့ အရဟတ္တဖိုလ်ရပြီး ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

ဒီ ရဟန္တာထေရီမ ပရိနိဗ္ဗာန်စံမယ့်နေ့မှာတော့ ထေရီမက စုဝေးရောက်ရှိလာတဲ့ ရဟန်းတော်တွေ၊ ရဟန်းမတွေ မေးတဲ့ မေးခွန်းတွေကို ဖြေကြားပြီး ဇာတိဿရဉာဏ်နဲ့ သူ မြင်ခဲ့ရတဲ့ ကြက်မဘဝကနေ အမတ်ချုပ်ကတော်ဖြစ်တဲ့ ဘဝအထိ ဘဝတွေရဲ့ အနိမ့်အမြင့် မညီညာခဲ့ဘဲ သံသရာလည်ရတဲ့ အပေါ် သံဝေဂဉာဏ်တွေ ဖြစ်ခဲ့ပုံ၊ အဲဒီနောက် ရဟန်းမ ပြုကာ တရားဘာဝနာ အားထုတ်ခဲ့ပုံ၊ နောက်ဆုံး ကိလေသာ အာသဝေါ ကုန်ခန်းပြီး ရဟန္တာထေရီမ ဖြစ်ခဲ့ပုံတွေကို အကျယ်တဝင့် သံဝေဂဉာဏ်ဖြစ်ဖွယ် လျှောက်ထားခဲ့ပါတယ်။

ဒီနောက်မှာတော့ ရဟန္တာထေရီမကြီးဟာ "အရှင်မြတ်တို့ အနေနဲ့ သံသရာ မပြတ်လည်နေရတဲ့အပေါ် သံဝေဂဉာဏ် ဖြစ်ပွားပြီး အပ္ပမာဒတရား လက်ကိုင်ထားကာ တရားဘာဝနာ ပွားများ အားထုတ်တော်မူကြပါ ဘုရား" လို့ လျှောက်ထားပြီး ပရိနိဗ္ဗာန် ပြုတော်မူခဲ့ပါတယ်။

ဒါကတော့ ဇာတိဿရဉာဏ်နဲ့ အတိတ်ဘဝဟောင်း ဖြစ်စဉ်တွေ မြင်တွေ့ခဲ့ရတာကို အကြောင်းပြုပြီး အမြတ်ထွက်အောင် ကြိုးစားအားထုတ်သွားခဲ့တဲ့ အမတ်ချုပ်ကတော်ဟောင်း ရဟန္တာထေရီမရဲ့ အတုယူ ကျင့်သုံးဖွယ် ဘဝဖြစ်စဉ် ဖြစ်ပါတယ်။

## ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်အစွမ်း

လောကဖြစ်ရပ်တွေနဲ့ ပိဋကတ်တော်ထဲက ဖြစ်ရပ်အကြောင်းအရာတွေကို ကြည့်လိုက်ရင် ဇာတိဿရဉာဏ် ဆိုတာ ရိုးရိုးသာမန် အသိဉာဏ်နဲ့ အတိတ်ဘဝဟောင်းက အကြောင်းအရာတွေကို မှတ်မိတဲ့ သဘော ဖြစ်ပါတယ်။ ဇာတိဿရဉာဏ်ရဲ့ အစွမ်းဟာ ဘဝဟောင်းကို ဆယ်ဂဏန်းလောက်ပဲ အောက်မေ့အမှတ်ရနိုင်၊ သိနိုင်တာမျိုးလောက်ပဲ ရှိပါတယ်။

ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ် ဆိုတာကတော့ ဇာတိဿရဉာဏ်နဲ့ နှိုင်းစာလို့ မရပါဘူး။ ဇာတိဿရဉာဏ်ထက် အဆပေါင်းများစွာ သာလွန်ပါတယ်။ ဈာန်သမာပတ် ရှစ်ပါးကိုလည်း ရပါမှ၊ ရရုံတင်မက အဲဒီ ဈာန်သမာပတ်တွေကို အဝါးဝစွာ ဝင်စားနိုင်အောင် လေ့ကျက်ထားမှ ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်ကို ဝင်စားနိုင်တာပါ။ ဒီ ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်ကို ဝင်စားပြီး ရှေးကဖြစ်ခဲ့တဲ့ ဘဝဖြစ်စဉ်တွေကို ကမ္ဘာပေါင်း အသင်္ချေချီပြီး အောက်မေ့နိုင် သိမြင်နိုင်ပါတယ်။

ဈာန် အဘိညာဉ်ရ သာသနာပ တိတ္ထိတွေ ဆိုရင် ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်နဲ့ ကမ္ဘာပေါင်း ၄၀ အထိ မှတ်မိနိုင်ပါတယ်။ မြတ်စွာဘုရားတပည့် မဟာသာဝကကြီးတွေ ဆိုရင် သူတို့ ပါရမီဖြည့်ခဲ့တဲ့ ကမ္ဘာပေါင်းတစ်သိန်းကို မှတ်မိနိုင်ပါတယ်။ အဂ္ဂသာဝကတွေ ဖြစ်တော်မူတဲ့ အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန်

တို့ဆိုရင် တစ်သင်္ချေနဲ့ ကမ္ဘာတစ်သိန်း၊ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ ဆိုရင် နှစ်သင်္ချေနဲ့ ကမ္ဘာတစ်သိန်းအထိ မှတ်မိနိုင်ပါတယ်။ မြတ်စွာဘုရားရှင်တွေကတော့ ကမ္ဘာပေါင်း အကန့်အသတ်မရှိ အောက်မေ့တော်မူနိုင်ကြပါတယ်။

အခုလို ဇာတိဿရဉာဏ်ထက် အဆပေါင်းများစွာ သာလွန်တဲ့ ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်နဲ့ အတိတ်ဘဝ ဖြစ်စဉ်တွေကို အောက်မေ့နိုင်တဲ့ အရာ အသာဆုံးဧတဒဂ် ရတော်မူတဲ့ အရှင်သောဘိတ မထေရ်မြတ် အကြောင်းကို ကြည့်ညိုကြပါစို့။

## (က) အရှင်မြတ်ရတဲ့ ဧတဒဂ်အမိပ္ပာယ်

အရှင်သောဘိတမထေရ်ဟာ အတိတ်ဘဝတွေက ဖြစ်ခဲ့ဖူးတဲ့ ခန္ဓာ့ဖြစ်စဉ်တွေကို ပုဗ္ဗေနိဝါသာနုဿတိဉာဏ်နဲ့ အစဉ်အောက်မေ့ အမှတ်ရ သိမြင်နိုင်တဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ်ရသူ ဖြစ်ပါတယ်။ ဒီ ဧတဒဂ်ကို ‘ပုဗ္ဗေနိဝါသဉာဏလာဘီ ဧတဒဂ်’လို့ ခေါ်ပါတယ်။

သတ္တဝါတွေ ကျင်လည်ရတဲ့ ၃၁ ဘုံထဲမှာ စိတ်၊ စေတသိက်လို့ ခေါ်တဲ့ နာမ်တရား နာမ်ခန္ဓာ လုံးဝ မရှိဘဲ ရုပ်တရား ရုပ်ခန္ဓာ သက်သက်ပဲ ရှိတဲ့ အသညသတ်ဘုံ ဆိုတာ ရှိပါတယ်။ ရူပဗြဟ္မာ ၂၆ ဘုံထဲမှာ ပါဝင်ပါတယ်။ ဒီ အသညသတ်ဘုံရဲ့ သက်တမ်းဟာ မဟာကပ်ကမ္ဘာ ၅၀၀ အသက်ရှည်ပါတယ်။

အတိတ်ဘဝတွေက ဖြစ်ခဲ့ဖူးတဲ့ ခန္ဓာ့ဖြစ်စဉ်တွေကို ပြန်လည်အောက်မေ့ အမှတ်ရနိုင်တဲ့ ပုဗ္ဗေနိဝါသာနုဿတိဉာဏ်ဆိုတာ နာမ်ခန္ဓာ ဖြစ်စဉ်တွေကိုသာ အာရုံပြုပြီး အစဉ်အောက်မေ့ သိနိုင်မြင်နိုင်တဲ့ ဉာဏ် ဖြစ်ပါတယ်။ ဒီ နာမ်ခန္ဓာ လုံးဝ မရှိဘဲ ရုပ်ခန္ဓာသက်သက်ပဲ ရှိတဲ့ အသညသတ်ဘုံဘဝကို ပုဗ္ဗေနိဝါသာနုဿတိဉာဏ်နဲ့ တိုက်ရိုက်

မမြင်နိုင် မတွေ့နိုင်ပါဘူး။ အသညသတ်ဘုံ မရောက်ခင် ဘဝက နောက်ဆုံးဖြစ်ခဲ့တဲ့ စုတိစိတ်နဲ့ အသညသတ်ဘုံဘဝကနေ ဖြစ်လာတဲ့ ဘဝရဲ့ အစဆုံး ပဋိသန္ဓေစိတ်၊ ဒီစိတ်အစဉ် နှစ်မျိုးကိုပဲ ပုဗ္ဗေနိဝါသာ နုဿတိဉာဏ်နဲ့ သိနိုင် မြင်နိုင်တာမျိုးပါ။

ဒီစိတ်အစဉ် နှစ်မျိုးကို မြင်တွေ့ရတဲ့ အခါ စိတ်အစဉ် နှစ်ခုကြားမှာ ရုပ်ခန္ဓာသက်သက်နဲ့ပဲ ရှိခဲ့တဲ့ အသညသတ်ဘုံဘဝကို မြတ်စွာဘုရားပေးတဲ့ နည်းအရပဲ ဒီဘုံဘဝ ရှိတယ် ဆိုတာ သိရတာမျိုးပါ။ ဒီလို နာမ်ခန္ဓာ မရှိတဲ့ အသညသတ်ဘုံဘဝကို အစဉ်အောက်မေ့နိုင်၊ မြင်နိုင်၊ သိနိုင်တဲ့ ကိစ္စဟာ မြတ်စွာဘုရားရှင်တွေမှသာ ပိုင်နိုင်တဲ့ အရာမျိုး ဖြစ်ပါတယ်။ မြတ်စွာဘုရားရှင်တွေမှတစ်ပါး ကျန်တဲ့ ပုဂ္ဂိုလ်တွေ ပိုင်ပိုင်နိုင်နိုင် အောက်မေ့နိုင်၊ သိနိုင်၊ မြင်နိုင်ဖို့ ဆိုတာ မလွယ်ကူပါဘူး။

အခုလို ဘုရားရှင်တွေမှတစ်ပါး အခြား ပုဂ္ဂိုလ်တွေ သိဖို့ မလွယ်ကူတဲ့ အသညသတ်ဘုံဘဝမှာ သူကိုယ်တိုင် ကမ္ဘာ ၅၀၀ ဖြစ်ခဲ့ဖူးတာကို ဘုရားရှင်တွေ သိတဲ့ နည်းအတိုင်း အရှင်သောဘိတ မထေရ်ဟာ ပုဗ္ဗေနိဝါသာနုဿတိဉာဏ်နဲ့ အောက်မေ့နိုင်၊ သိနိုင်၊ မြင်နိုင်ခဲ့တာပါ။ သားမြီးဖျားတစ်ခုနဲ့ သားမြီးဖျားတစ်ခုကို မှန်အောင် ပစ်ရသလို၊ ခြေရာမထင်နိုင်တဲ့ ကောင်းကင်မှာ ခြေရာထင်အောင် ပြရသလို အလွန်တရာ ခက်ခဲလှပါတယ်။ ဒီလို အသိခက်လှတဲ့ အသညသတ်ဘုံဘဝမှာ သူ ဖြစ်ခဲ့တယ် ဆိုတာ အောက်မေ့ သိမြင်ခဲ့တဲ့ အတွက်ကြောင့် အရှင်မြတ်ဟာ အတိတ်ဘဝတွေကို အောက်မေ့နိုင်တဲ့အရာ အသာဆုံးဆိုတဲ့ 'ပုဗ္ဗေနိဝါသဉာဏလာဘီဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း

အရှင်မြတ် အလောင်းတော်လည်း ပဒုမုတ္တရာဘုရားရှင် လက်ထက်တော်အခါက ဟံသာဝတီ မင်းနေပြည်တော်မှာ ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့ အခါ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားတော် နာယူခဲ့ပါတယ်။ တရားနာနေတုန်းမှာပဲ ပဒုမုတ္တရ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို အတိတ်ဘဝ ခန္ဓာ့ဖြစ်စဉ်တွေကို အောက်မေ့နိုင်တဲ့အရာ အသာဆုံး ဆိုတဲ့ ပုဗ္ဗေနိဝါသ ဉာဏလာဘီဧတဒဂ်အရာထား ချီးမြှောက်တာကို ဖူးတွေ့ခဲ့ရပါတယ်။ ဒီအခါ အရှင်မြတ် အလောင်းတော်လည်း အားကျပြီး ကုသိုလ်ကောင်းမှု အကြီးအကျယ် ပြုလုပ်ကာ ဒီ ဧတဒဂ်ဆုမျိုး ရလိုပါကြောင်း မြတ်စွာဘုရားထံ ဆုပန် ဆုတောင်းခဲ့ပါတယ်။

## (ဂ) ပစ္ဆိမဘဝဇာတ်ကြောင်းနဲ့ ရဟန္တာဖြစ်ပုံ

အရှင်မြတ်လောင်း အမျိုးကောင်းသားဟာ အဲဒီ ဘဝ တစ်လျှောက်လုံး ဒါန၊ သီလ စတဲ့ ကောင်းမှုကုသိုလ်ပြုလုပ်ခဲ့ပြီးနောက် နတ်ပြည်၊ လူ့ပြည်တွေမှာ အကြိမ်ကြိမ် အခါခါ ဖြစ်ကာ သံသရာ ကျင်လည်ခဲ့တယ်။ သံသရာကျင်လည်ရင်းက အကျွန်ုပ်တို့ ဂေါတမ ဘုရားရှင် လက်ထက်မှာတော့ ဗြာဟ္မဏပုဏ္ဏားမျိုးမှာ ဖြစ်လာခဲ့ပါတယ်။ သူ့ရဲ့ နာမည်ကို 'သောဘိတ' လို့ မှည့်ခေါ်ခဲ့ကြတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ အရှင်မြတ်လောင်းဟာ မြတ်စွာဘုရားတရားတော် နာယူပြီး သဒ္ဓါတရား ဖြစ်လာတဲ့ အတွက် ရဟန်းပြုခဲ့ပါတယ်။ ရဟန်းပြုပြီးနောက် ဝိပဿနာ ဘာဝနာတရား ကြိုးစားပွားများအားထုတ်ခဲ့တယ်။ မကြာခင်မှာပဲ အရဟတ္တဖိုလ်ရရှိပြီး ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်ခဲ့ပါတယ်။ အရှင်မြတ်ဟာ ရဟန္တာဖြစ်တဲ့ အခါ အတိတ်ဘဝခန္ဓာ့ဖြစ်စဉ်တွေကို အောက်မေ့သိမြင်

နိုင်တဲ့ ပုဗ္ဗေနိဝါသဉာဏ်အရာမှာ အထူးလေ့လာ ပွားများတဲ့ အလေ့ ရှိခဲ့ပါတယ်။ ဒါကြောင့် ပုဗ္ဗေနိဝါသဉာဏ်အရာမှာ အထူးနိုင်နင်းတော် မူခဲ့ပါတယ်။

**(ဃ) ပုဗ္ဗေနိဝါသဉာဏလာဘီဧတဒဂ် ရခြင်း အနီးကပ်အကြောင်းရင်း**

အရှင်မြတ်လောင်းဟာ လွန်ခဲ့တဲ့ မဟာကပ်ကမ္ဘာ ၅၀၀ အထက်ဆီတုန်းက သာသနာပြင်ပ တိတ္ထိတွေထံမှာ ရဟန်းပြုခဲ့တယ်။ အဲဒီ ဘဝမှာ ဝါယောကသိုဏ်း ရှုပွားပြီး ရူပါဝစရ စတုတ္ထဈာန်ကို ရခဲ့တယ်။ ပြီးတော့ ဒုက္ခတွေ ဖြစ်နေတာတွေဟာ စိတ်၊ စေတသိက် နာမ်တရားတွေကြောင့် ဖြစ်ရတာ ဖြစ်တယ်လို့ တွေးထင်ပြီး နာမ် တရားတွေ အပေါ်မှာ စက်ဆုပ်ရွံမုန်းတဲ့ သညာဝိရာဂဘာဝနာတွေလည်း သူ့ရဲ့ စိတ်အစဉ်မှာ မပြတ် ဖြစ်ပွားနေခဲ့တယ်။ ဒီလို သညာဝိရာဂ ဘာဝနာ လွှမ်းမိုးနေတဲ့ စတုတ္ထဈာန်ကို ရခဲ့တာကြောင့် အဲဒီ ဘဝကနေ ကွယ်လွန်တဲ့ အခါ သူ့ရဲ့ စိတ်ဆန္ဒအတိုင်း နာမ်တရား နာမ်ခန္ဓာ လုံးဝ မရှိဘဲ ရုပ်တရား ရုပ်ခန္ဓာသက်သက်ပဲ ရှိတဲ့ အသညသတ်ဘုံမှာ ဖြစ်ခဲ့ပါတယ်။

အရှင်မြတ်လောင်းဟာ အသညသတ် ဗြဟ္မာ့ဘုံမှာ မဟာကပ် ကမ္ဘာ ၅၀၀ ကြာအောင် ရုပ်တုံး ရုပ်ခဲကြီးအဖြစ်နဲ့ နေခဲ့ရတယ်။ မဟာကပ်ကမ္ဘာ ၅၀၀ ပြည့်တဲ့အခါ အသညသတ်ဘုံကနေ ဒီ လူ့ပြည် ဘုရားသာသနာမှာ ဖြစ်လာခဲ့ပါတယ်။ ဝိပဿနာတရား ပွားများ အားထုတ်တဲ့ အတွက် ပုဗ္ဗေနိဝါသာနုဿတိဉာဏ်၊ ဒိဗ္ဗစက္ခုဉာဏ်၊ အာသဝက္ခယဉာဏ်လို့ ခေါ်တဲ့ 'ပု-ဒိ-အာ' နဲ့ ပြည့်စုံတဲ့ တေဝိဇ္ဇရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။

တစ်နေ့မှာတော့ အရှင်မြတ်ဟာ သူ့ရဲ့ အတိတ်ဘဝ ခန္ဓာ့ ဖြစ်စဉ်တွေကို အောက်မေ့ဆင်ခြင်တဲ့ အခါ ယခု နောက်ဆုံးဘဝရဲ့

ပဋိသန္ဓေစိတ်နဲ့ တတိယဘဝရဲ့ စုတိစိတ်တွေကိုပဲ မြင်တော်မူခဲ့ပါတယ်။ ဒုတိယဘဝဖြစ်တဲ့ အသညသတ်ဘဝကို မြင်တော်မမူခဲ့ပါဘူး။ ဘာလို့လဲဆိုတော့ အတိတ်ဘဝ ခန္ဓာ့ဖြစ်စဉ်တွေကို အောက့်မေ့သိမြင်နိုင်တဲ့ ပုဗ္ဗေနိဝါသဉာဏ် ဆိုတာ နာမ်တရား ဖြစ်စဉ်တွေကို လိုက်ကြည့်ပြီးတော့ပဲ သိနိုင် မြင်နိုင်တာမျိုးပါ။ အသညတ်သတ်ဘဝ ဆိုတာက ရုပ်ခန္ဓာ သက်သက်နဲ့ပဲ ဖြစ်နေတာကြောင့် အဲဒီဒုတိယဘဝဖြစ်တဲ့ အသညသတ်ဘဝကို မမြင်ဘဲ ဖြစ်နေရတာပါ။

အရှင်မြတ်ဟာ အခုလို ယခု နောက်ဆုံးဘဝ ပဋိသန္ဓေစိတ်နဲ့ တတိယဘဝရဲ့ စုတိစိတ်ကိုသာ မြင်ပြီး ကြားထဲက ဒုတိယဘဝကို မမြင်နိုင် ဖြစ်နေတဲ့ အခါ 'သြော်၊ သံသရာမှာ ကျင်လည်နေရတဲ့ သတ္တဝါတွေအဖို့ရာ ခန္ဓာမဖြစ်တဲ့ အချိန်ကာလဆိုတာ တကယ်တော့ မရှိနိုင်ဘူး၊ အသညသတ်ဘုံမှာ ဖြစ်ကြတဲ့ သတ္တဝါတွေပဲ စိတ်၊ စေတသိက် ဆိုတဲ့ နာမ်တရားတွေ မရှိဘဲ မဟာကပ်ကမ္ဘာ ငါးရာ ကြာအောင် ဖြစ်ကြရတာ ဖြစ်တယ်၊ ဒါကြောင့် ငါဟာ တကယ်စင်စစ်တော့ ဒီဘဝနဲ့ တတိယဘဝ နှစ်ဘဝအကြားမှာ အသညသတ်ဘုံမှာ ကမ္ဘာ ငါးရာ ကြာအောင် ဖြစ်ခဲ့တာပဲ'လို့ မြတ်စွာဘုရားများ သိတော်မူတဲ့ နည်းအတိုင်း မှတ်ယူ ဆုံးဖြတ်ချက်ချ သိနိုင်ခဲ့တယ်။

ဒါကြောင့်ပဲ မြတ်စွာဘုရားက နောက်ပိုင်းကာလတစ်ချိန် ရဟန်းပရိသတ်တွေ စုံညီတဲ့ အခါမှာ "ရဟန်းတို့၊ ရှေးအတိတ်ဘဝတွေမှာ ဖြစ်ခဲ့ဖူးတဲ့ ခန္ဓာ့ဖြစ်စဉ်တွေကို အစဉ်အောက်မေ့ သိမြင်နိုင်ကြတဲ့ ရဟန်းတော်တွေထဲမှာ သောဘိတ အမည်ရှိတဲ့ ဒီရဟန်းဟာ အမြတ်ဆုံး အသာဆုံး ဖြစ်ပါပေတယ်"လို့ အရှင်သောဘိတမထေရ်ကို ပုဗ္ဗေနိဝါသအဘိညာဉ်အရာ အသာဆုံး ဖြစ်တဲ့ ပုဗ္ဗေနိဝါသဉာဏ လာဘီဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်တော်မူခဲ့ပါတယ်။

## ( င) အရှင်မြတ်ကျူးရင့်တော်မူတဲ့ ဥဒါန်း

၁။ ခိုင်မြဲတဲ့ သတိ၊ ထက်မြက်တဲ့ ဉာဏ်ပညာ၊ အားကောင်းတဲ့ သဒ္ဓါ၊ တည်ကြည်တဲ့ သမာဓိ၊ ထက်သန်တဲ့ ဝီရိယ၊ ဒီ ဗိုလ်အားအစွမ်း ငါးမျိုးနဲ့ ပြည့်စုံတဲ့ ရဟန်းဖြစ်တဲ့ ငါဟာ ကမ္ဘာ ငါးရာကို တစ်ညတာလောက်လို့ပဲ အောက်မေ့နိုင်ခဲ့တယ်။

၂။ အခုလို ကမ္ဘာ ငါးရာကို တစ်ညတာလောက်လို့ အောက်မေ့နိုင်၊ သိနိုင်ခဲ့တာဟာ သတိပဋ္ဌာန် လေးပါး၊ ဗောဇ္ဈင် ခုနစ်ပါး၊ မဂ္ဂင် ရှစ်ပါး တရားတွေကို ပွားများအားထုတ်ခဲ့တဲ့ အတွက်ကြောင့်ပဲ ဖြစ်ပါတယ်။



အရှင်သောဘိတမထေရ်ဟာ ပု-ဒိ-အာ ဆိုတဲ့ ဝိဇ္ဇာဉာဏ် သုံးပါးနဲ့ ပြည့်စုံတဲ့ ရဟန္တာမထေရ် ဖြစ်ပါတယ်။ ဝိဇ္ဇာဉာဏ် သုံးပါးကြောင့် သံသရာစက်ရဟတ် အလည်ရပ်ပြီး ဘဝဇာတ်ချုပ်ငြိမ်းကာ သန္တိသုခ အငြိမ်းဓာတ်ပိုင်ရှင် ဖြစ်သွားတဲ့ မထေရ်လို့ ဆိုနိုင်ပါတယ်။

## ပု-ဒိ-အာ

'ပု' ဆိုတဲ့ ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ် အသိဉာဏ်နဲ့ အတိတ်ဘဝတွေကို မြင်နိုင်တဲ့ အတွက် သံသရာ့ ဒုက္ခ၊ ဘဝဒုက္ခ၊ ခန္ဓာ့ဒုက္ခ ဆိုတဲ့ ဒုက္ခမျိုးစုံ ဒုက္ခသစ္စာသဘောကို ထင်ထင်ရှားရှား သိမြင်နိုင်ပါတယ်။

'ဒိ' ဆိုတဲ့ ဒိဗ္ဗစက္ခုအဘိညာဉ် အသိဉာဏ်နဲ့ 'ဒီလိုမျိုး ဘဝခန္ဓာသံသရာလည်ရမှုနဲ့ ဆက်စပ်တဲ့ ဒုက္ခတွေဆိုတာ ကုသိုလ်ကံနဲ့ အကုသိုလ်ကံကြောင့် ဖြစ်ရတာပဲ၊ ကုသိုလ်ကံကြောင့် ကောင်းမြတ်တဲ့ သုဂတိ ဘုံဘဝတွေမှာ ဖြစ်ရတယ်၊ အကုသိုလ်ကံတွေကြောင့် နိမ့်ကျတဲ့ ဒုဂ္ဂတိ ဘုံဘဝတွေမှာ ဖြစ်ရတယ်၊ ဘဝတွေ၊ ဘဝနဲ့ ဆက်စပ်တဲ့ ဒုက္ခတွေ ဆိုတာ 'ဘဝပစ္စယာ ဇာတိ' ဆိုတဲ့ ပဋိစ္စသမုပ္ပာဒ် ဒေသနာ အရ ကမ္မဘဝ ဆိုတဲ့ ကံဇာတ်ဆရာ စီမံတဲ့ အတိုင်း ဖြစ်ရနေရတာပါလား၊ တန်ခိုးရှင်၊ ဘုရားသခင် ဆိုတဲ့ ဖန်ဆင်းရှင်တွေက ဖန်ဆင်းထားလို့ ဖြစ်တာမှ မဟုတ်ဘဲကိုး'လို့ ဒုက္ခဖြစ်ကြောင်း လက်သည်တရားခံဖြစ်တဲ့ ကံ သမုဒယသစ္စာ အကြောင်းတရားကို ပြတ်ပြတ်သားသား မြင်နိုင်ပါတယ်။

'အာ' ဆိုတဲ့ အာသဝက္ခယအဘိညာဉ် အသိဉာဏ်နဲ့ကတော့ 'ကံ ဇာတ်ဆရာဆိုတာ 'ဥပါဒါန ပစ္စယာ ဘဝေါ' ဆိုတဲ့ ပဋိစ္စသမုပ္ပာဒ်ဒေသနာအရ ဘဝတွေအပေါ် စွဲလမ်းတဲ့ ဥပါဒါန်ကြောင့် ဖြစ်ရတာပဲ၊ ဥပါဒါန်ဆိုတာလည်း 'တဏှာပစ္စယာ ဥပါဒါနံ' ဆိုတဲ့ ဒေသနာအရ ဘဝတွေအပေါ် လိုချင်တပ်မက်တဲ့ တဏှာကြောင့် ဖြစ်ရတာပဲ၊ ဒီတော့ ကံဇာတ်ဆရာ စီမံနိုင်တယ် ဆိုတာ တဏှာ၊ ဥပါဒါန်တွေ အပေါ်မှာ ရပ်တည်ခွင့်ရလို့ ဖြစ်ရတာ။ တဏှာ၊ ဥပါဒါန်ကို ပယ်သတ်နိုင်ရင် ကံဇာတ်ဆရာ မစီမံနိုင်တော့၊ ဒါဆိုရင် ဘဝအလည်ရပ်ပြီး ဘဝနဲ့ ဆက်စပ်တဲ့ ဒုက္ခတွေ အကုန်လုံး ငြိမ်းပြီ'လို့ ဘဝချုပ်ကြောင်း မဂ္ဂသစ္စာဉာဏ်အလင်းတွေ ဖြစ်လာစေပါတယ်။

ဝိပဿနာဉာဏ်နဲ့ ဒုက္ခသစ္စာ ဘဝခန္ဓာတွေရဲ့ မမြဲ၊ ဆင်းရဲ၊ အစိုးမရတဲ့ သဘောတွေကို မပြတ် နှလုံးသွင်းတဲ့ ဒီမဂ္ဂသစ္စာ လမ်းကြောင်းအတိုင်း လျှောက်သွားတဲ့ အခါ မဂ်ဉာဏ်လေးရပ် ဖြစ်ပေါ်

လာပြီး တဏှာ၊ ဥပါဒါန် ဆိုတဲ့ ကိလေသာ အာသဝေါတရားတွေ အကုန်ရှင်းသွားတာ ဖြစ်ပါတယ်။ ဒါဟာ အာသဝက္ခယအဘိညာဉ်ရဲ့ စွမ်းဆောင်နိုင်ချက် ဖြစ်ပါတယ်။

## ကံဇာတ်ဆရာနဲ့ ဉာဏ်ဇာတ်ဆရာ

ဒီ ပု-ဒိ-အာ ဆိုတဲ့ ဝိဇ္ဇာဉာဏ် သုံးပါးရဲ့ စွမ်းဆောင်ချက်တွေကို ကြည့်လိုက်တဲ့ အခါ 'ဘဝဇာတ်လမ်း သံသရာလည်လမ်းကို ဖန်တီးတဲ့ နေရာမှာ 'ကံဇာတ်ဆရာ' က ဇကရာဇ်သဖွယ် ကြီးစိုးနေတယ်၊ ဘဝပြတ်လမ်း သံသရာအလည်ရပ်လမ်းကို ဖန်တီးတဲ့ နေရာမှာ 'ဉာဏ်ဇာတ်ဆရာ' က ဧကရာဇ်သဖွယ် ကြီးစိုးနေတယ်' ဆိုတာ တွေ့မြင်ရမှာ ဖြစ်ပါတယ်။

ဟုတ်ပါတယ်၊ မိမိတို့ သတ္တဝါတစ်တွေဟာ ကံကို ဇာတ်ဆရာအဖြစ် တင်ပြီး သံသရာ ကျင်လည်ခဲ့ကြတာမို့ ကံဇာတ်ဆရာ ဇာတ်ညွှန်းရေးတဲ့အတိုင်း သံသရာဇာတ်ခုံပေါ်မှာ လူအဖြစ်နဲ့လည်း ကပြရတယ်၊ နတ်အဖြစ်နဲ့လည်း ကပြရတယ်၊ ဗြဟ္မာအဖြစ်နဲ့လည်း ကပြရတယ်၊ ငရဲသားပုံစံ၊ တိရစ္ဆာန်ပုံစံ၊ ပြိတ္တာ တစ္ဆေသရဲပုံစံတွေနဲ့လည်း ကပြရတယ်။ မိမိတို့တစ်တွေ မကပြခဲ့ရတဲ့ ဇာတ်ရုပ် ဆိုတာ သံသရာတစ်ခွင်မှာ မရှိခဲ့အောင်ကို စုံလှပါတယ်။ ဒီလို ကပြတဲ့ နေရာမှာလည်း ကိုယ်ကချင်တဲ့ ဇာတ်ရုပ်ကို ကိုယ့်ဘာသာရွေးပြီး ကပြပိုင်ခွင့် မရှိပါဘူး။ ကံဇာတ်ဆရာ ဇာတ်ညွှန်းရေးတဲ့ အတိုင်း ကပြကြရတာကလည်း သိသာ ထင်ရှားလှပါတယ်။

ဇာတ်ဆရာ ဇာတ်ညွှန်းအတိုင်း ကပြရတဲ့ ဇာတ်မင်းသမီးဘဝ ဆိုတာ ပွဲကြည့်ပရိသတ်အနေနဲ့ သာယာဖွယ်ဖြစ်ပေမယ့် ကျရာဇာတ်ရုပ် အတိုင်း ငိုပြလိုက်၊ ရယ်ပြလိုက်နဲ့ မျိုးစုံအောင် ကပြရတဲ့ အတွက်

ပင်ပန်းလွန်းလှပါတယ်၊ ဆင်းရဲလွန်းလှပါတယ်။ ဇာတ်သိမ်းခန်း ရောက်ပြီး ပြည်ဖုံးကား ချလိုက်မှပဲ ဇာတ်မင်းသမီးလည်း ဒီဒုက္ခတွေ ကနေ လွတ်တာပါ။

ဒီလိုပါပဲ မိမိတို့တစ်တွေဟာလည်း ကံဘဝဇာတ်ဆရာအလိုကျ သံသရာဇာတ်ခုံပေါ်မှာ ဇာတ်ရုပ်မျိုးစုံနဲ့ ကရခုန်ရလွန်းလို့ ပင်ပန်း ဆင်းရဲလွန်းလှပါပြီ။ ဒီဆင်းရဲတွေက လွတ်ချင်တယ် ဆိုရင်တော့ 'ကမ္မနိရောဓာ ဘဝနိရောဓော' ဆိုတဲ့ ဒေသနာတော်အတိုင်း ကမ္မဘဝ ကို ချုပ်အောင်လုပ်တဲ့ နည်းနဲ့ ကံဇာတ်ဆရာ ဇာတ်ညွှန်းရေးခွင့် မရအောင် အားထုတ်ရမှာ ဖြစ်ပါတယ်။ ကံဇာတ်ဆရာ ဇာတ်ညွှန်း ရေးခွင့် ရနေတယ် ဆိုတာ တဏှာ၊ ဥပါဒါန်တွေ ခြံရံထားလို့သာပါ။ ဒီတော့ ကမ္မဘဝ ဆိုတဲ့ ကံကို ချုပ်အောင်လုပ်တယ် ဆိုတာ 'တဏှာ နိရောဓာ ဥပါဒါနနိရောဓော၊ ဥပါဒါနနိရောဓာ ဘဝနိရောဓော' ဆိုတဲ့ ဒေသနာတော်အတိုင်း လုပ်သမျှ ဒါနကုသိုလ်ကံ၊ သီလကုသိုလ်ကံ၊ ဘာဝနာကုသိုလ်ကံတိုင်းမှာ တဏှာ၊ ဥပါဒါန်တွေ ခြံရံမနေအောင် ကြိုးစားရမှာ ဖြစ်ပါတယ်။

ဆိုလိုတာကတော့ ကုသိုလ်ကံပြုတဲ့ နေရာတိုင်းမှာ လူ့ချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာ စတဲ့ လောကီချမ်းသာတွေကို ရလိုမှုတွေ၊ တောင့်တမှုတွေ မပါဝင်စေဖို့ပါ။

'ဣဒံ မေ ဒါနံ အာသဝက္ခယာ ဝဟံ ဟောတု - အကျွန်ုပ် ပြုရတဲ့ ဤဒါနကောင်းမှုသည် ကိလေသာ အာသဝေါတရားတွေ ချုပ်ငြိမ်းရာ ချုပ်ငြိမ်းကြောင်း ဖြစ်တဲ့ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်အတွက် ဖြစ်ပါစေ' ဆိုတဲ့ အသိဉာဏ်မျိုး ဦးစီးပြီး ဒါန၊ သီလ စတဲ့ ကုသိုလ်ကံတွေကို ပြုရမှာ ဖြစ်ပါတယ်။

အခုလို ကံပြုတဲ့ အခါတိုင်း တဏှာ၊ ဥပါဒါန် မပါဝင်တော့ရင် ကံဇာတ်ဆရာ ဇာတ်ညွှန်းရေးလို့ မရတော့ဘဲ ကံ ဆိုတဲ့ ကမ္မဘဝ ချုပ်တော့တာပါ။ ကံချုပ်မှတော့ ဘဝဇာတ်လည်း ချုပ်ပြီးသား ဖြစ်တော့တာပါ။ ဘဝဇာတ်ချုပ်ပြီဆိုရင် စစ်မှန်တဲ့ သန္တိသုခ အငြိမ်းဓာတ် ရပြီး သံသရာဇာတ်ကောင်အဖြစ်ကနေ လွတ်တော့တာပါ။ ဒါကတော့ ကံကို ဇာတ်ဆရာအဖြစ်ကနေ ဖယ်ရှားပြီး ဉာဏ်ကို ဇာတ်ဆရာအဖြစ် တင်နိုင်ခဲ့တဲ့ အတွက်ကြောင့်ပါပဲ။

အရှင်သောဘိတမထေရ် စတဲ့ အရှင်မြတ်တွေကတော့ ဉာဏ်ကို ဇာတ်ဆရာအဖြစ် တင်နိုင်ခဲ့ကြတဲ့ အတွက် သံသရာ ဇာတ်ဆောင်အဖြစ်ကနေ လွတ်ငြိမ်းတော်မူခဲ့ကြပါပြီ။

မိမိတို့တစ်တွေလည်း ဇာတ်သိမ်းခန်းရောက်ပြီး သံသရာ့ ဇာတ်ကောင်အဖြစ်ကနေ လွတ်လိုလှတယ် ဆိုရင်ဖြင့် ‘ကံ ဆိုတဲ့ ဘဝဇာတ်ဆရာကို ဇာတ်ညွှန်းတွေ ဆက်လက်ရေးသားခွင့် မရအောင်၊ ကံဇာတ်ဆရာနေရာမှာ ဉာဏ်ဇာတ်ဆရာ အစားထိုးဖို့ ကြိုးစား အားထုတ်ရုံမှတစ်ပါး အခြား ဘာများ ရှိဦးမှာလဲ’ လို့ပဲ တွေးနေမိပါ တော့တယ်။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၄၀။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၁၉။
၃။ ပါရာဇိကဏ်ပါဠိတော်၊ ၁၅၀။
၄။ ပါရာဇိကဏ်အဋ္ဌကထာ၊ ၁။ ၁၃၀။
၅။ ပါရာဇိကဏ်အဋ္ဌကထာ၊ ၂။ ၁၀၂။
၆။ သာရတ္ထဒီပနီဋီကာ၊ ၂။ ၂၉၇။

၇။ ထေရဂါထာပါဠိ၊ ၂၅၃။

၈။ ထေရဂါထာအဋ္ဌကထာ၊ ၁။ ၃၆၇။

၉။ နိဒါနဝဂ္ဂ သံယုတ်အဋ္ဌကထာ၊ ၁၈။

၁၀။ ဓမ္မပဒအဋ္ဌကထာ၊ ၂။ ၃၃၅။

၁၁။ ဦးရွှေအောင်၏ အမြင်များ ပြောင်းလဲခြင်းနှင့် အတွေးအမြင် စာစုများ။



ဝိနည်းဆောင်တဲ့အရာ အထားဆုံး

## ဝိနယဓရဓေတဝ်ရ

# အရှင်ဥပါလိ မထေရ်

မြတ်စွာဘုရားက 'မနုဿတ္တဘာဝေါ ဒုလ္လဘော - လူ့အဖြစ်ဆိုတာ ရခဲတယ်' လို့ ဟောတော်မူခဲ့ပါတယ်။ ဗြဟ္မာ့ပြည်က ကျလာတဲ့ အပ်တစ်စင်းနဲ့ လူ့ပြည်က ထောင်ထားတဲ့ အပ်တစ်စင်း အပ်သွားချင်းသာ ထိဖွယ်ရာ ရှိတယ်။ လူ့ဘဝရဖို့ ဆိုတာက အဲဒီထက် ပိုပြီး ခက်ခဲပါတယ်တဲ့။



ဒီလို ရခဲလှတဲ့ လူ့ဘဝကို ကုသိုလ်ကံရှိလို့ ရလာခဲ့ကြတာ ဖြစ်ပါတယ်။ သူဌေးဖြစ်ဖြစ်၊ ဆင်းရဲသားဖြစ်ဖြစ်၊ ရှင်ဘုရင်ဖြစ်ဖြစ်၊ အလုပ်သမားဖြစ်ဖြစ် ဘယ်သူမဆို ကုသိုလ်ကံနဲ့ လူဖြစ်ခဲ့ရသူချည်း ပါပဲ။ ကွာခြားတာက အခြေခံ ပဋိသန္ဓေစိတ်မှာ ပညာ ပါတာနဲ့ မပါတာ ဒီလောက်ပဲ ကွာခြားပါတယ်။ သူဌေးဖြစ်ရတာ၊ ဆင်းရဲသား ဖြစ်ရတာ၊ ရှင်ဘုရင်ဖြစ်ရတာ၊ အလုပ်သမားဖြစ်ရတာတွေက ပဝတ္တိ အကျိုးဆက် ဖြစ်ပါတယ်။ ပဋိသန္ဓေကျိုးနဲ့ တိုက်ရိုက် မဆိုင်ပါဘူး။

ပဋိသန္ဓေကျိုးနဲ့ တိုက်ရိုက် ဆိုင်တာက မဂ်၊ ဖိုလ် ရာထူး တွေ ရရေး၊ မရရေးနဲ့ပဲ ဆိုင်ပါတယ်။ အခြေခံပဋိသန္ဓေမှာ ဉာဏ်ပညာ

ပါလို့ တိဟိတ်ပုဂ္ဂိုလ်ဖြစ်မယ် ဆိုရင် ဒီဘဝမှာ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်ကို ရနိုင်မှာ ဖြစ်ပါတယ်။ တိဟိတ်ပုဂ္ဂိုလ် မဟုတ်ရင်တော့ ဒီဘဝမှာ ဘယ်လောက်ပဲ အားထုတ် အားထုတ် မဂ်ဖိုလ်နိဗ္ဗာန်တရားထူးတွေ မရနိုင်ပါဘူး၊ ပါရမီမျိုးစေ့ ဖြစ်ရုံပါပဲ။

အခုလို တရားထူးတွေ ရရေး၊ မရရေးမှာ ဆင်းရဲတာတွေ၊ ချမ်းသာတာတွေ၊ ရာထူးရှိတာတွေ၊ ရာထူးမရှိတာတွေနဲ့ မဆိုင်ဘဲ အခြေခံ ပဋိသန္ဓေနဲ့ပဲ ဆိုင်တယ် ဆိုတာ အခု ကြည်ညိုကြမယ့် အရှင်ဥပါလိမထေရ်ရဲ့ ဖြစ်ရပ်က သက်သက်ထူလျက် ရှိပါတယ်။

ဟုတ်ပါတယ်၊ အရှင်ဥပါလိမထေရ်ဟာ ဒီ နောက်ဆုံးဘဝမှာ သူတစ်ပါးရဲ့ ဆံ၊ မုတ်ဆိတ်တွေကို ရိတ်ပယ်သုတ်သင် သန့်ရှင်းပေးရတဲ့ ယုတ်နိမ့်တဲ့ ဆတ္တာသည် ဖြစ်ခဲ့သူပါ။ ဒါပေမဲ့ ရခဲလှတဲ့ လူ့ဘဝကို တန်ဖိုးရှိရှိ အသုံးချခဲ့တော့ ဝိနည်းဆောင်အရာ အသာဆုံး ဧတဒဂ်ရတဲ့ လက်ရွေးစင် ထိပ်တန်း ရဟန္တာတစ်ပါး ဖြစ်လာခဲ့ပါတယ်။

ဒါကြောင့် 'တရားထူးရရေး၊ မရရေးဟာ ဆင်းရဲ၊ ချမ်းသာစတာတွေနဲ့ မဆိုင်၊ ကုသိုလ်ကံနဲ့ လူဖြစ်လာတဲ့ သူချည်း ဖြစ်တာမို့ အခြေခံ ပဋိသန္ဓေမှာ ဉာဏ်ပါခဲ့ရင် မည်သူမဆို ကြိုးစားအားထုတ်လို့ ရနိုင်တာပဲ' ဆိုတဲ့ အတွေးနဲ့ အရှင်ဥပါလိမထေရ်ကို အားကျပြီး ရခဲလှတဲ့ လူ့ဘဝကို တန်ဖိုးရှိအောင် အသုံးချဖို့ပဲ ဖြစ်ပါတယ်။

## (က) ဝိနယဓရဧတဒဂ် အဓိပ္ပာယ်

အရှင်ဥပါလိမထေရ်ဟာ ဝိနည်းဆောင် ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ်ရတဲ့ မထေရ် ဖြစ်ပါတယ်။ အရှင်မြတ်ဟာ မြတ်စွာဘုရားထံမှာ ရဟန်းပြုပြီး ကမ္မဋ္ဌာန်းအားထုတ်နည်း သင်ယူကာ ဝိပဿနာကမ္မဋ္ဌာန်း စီးဖြန်းအားထုတ်တဲ့ အတွက် ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။ ရဟန္တာ ဖြစ်ပြီးတဲ့နောက်မှာ မြတ်စွာဘုရားထံကနေ ဝိနည်း

ပိဋကကို အပြည့်အစုံ သင်ယူခဲ့ပါတယ်။ အရှင်မြတ်ဟာ ဝိနည်းပိဋက အရာ တစ်ဖက်ကမ်းခပ် ပါရဂူမြောက် တတ်မြောက်ပြီးတဲ့နောက် ဆုံးဖြတ်ရန် ခက်ခဲတဲ့ ဝိနည်းအဆုံးအဖြတ်ဆိုင်ရာ အမှုအခင်း သုံးခုကို မြတ်စွာဘုရားရဲ့ သဗ္ဗညုတဉာဏ်တော်နဲ့ နှီးနှောပြီး ဆုံးဖြတ်တော်မူခဲ့ပါတယ်။ ဒါကြောင့် အရှင်မြတ်ဟာ ဝိနည်းဆောင် ရဟန်းတော်တွေထဲမှာ အသာဆုံးလို့ အဓိပ္ပာယ်ရတဲ့ 'ဝိနယဓရဇတဒဂ်' ကို ရတော်မူခဲ့တာပါ။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း

အရှင်မြတ်အလောင်းဟာ ပဒုမုတ္တရာဘုရားရှင် လက်ထက်တော်အခါက ဟံသာဝတီ မင်းနေပြည်မှာ အမျိုးကောင်းသားတစ်ဦး ဖြစ်ခဲ့ပါတယ်။ တစ်နေ့မှာ မြတ်စွာဘုရားဟောတဲ့ တရားတော်ကို နာယူနေစဉ်မှာပဲ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို ဝိနည်းဆောင် ပုဂ္ဂိုလ်အရာ အသာဆုံး ဧတဒဂ်ပေးတာကို ဖူးမြင်ခဲ့ရပါတယ်။ ဒီအခါ အားကျစိတ်ဖြစ်ပြီး ကုသိုလ်ကောင်းမှု ပြုလုပ်ကာ ဒီဧတဒဂ်မျိုး ရဖို့ ဆုပန် ဆုတောင်းခဲ့ပါတယ်။

## (ဂ) ပစ္စုပ္ပန်ဘဝဇာတ်ကြောင်းနဲ့ ရဟန်းပြုပုံ

အရှင်မြတ်လောင်း အမျိုးကောင်းသားဟာ အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကုသိုလ်ကောင်းမှုတွေ ကြိုးစားအားထုတ် ပြုလုပ်ခဲ့ပြီး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ပါတယ်။ အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရားရှင် လက်ထက်တော်မှာတော့ မျိုးရိုးနိမ့်ပါးတဲ့ ဆတ္တာသည်မျိုးရိုးမှာ ဖြစ်ခဲ့ပါတယ်။

('ဆတ္တာသည်' ဆိုတာ ဆံပင်နဲ့ မုတ်ဆိတ် ကျင်စွယ်တွေကို ရိတ်ဖြတ် ပြုပြင်ပေးရတဲ့ သူကို ဆိုလိုတာပါ။) သူ့ရဲ့ အမည်ကို 'ဥပါလိသူငယ်'လို့ မှည့်ခေါ်ခဲ့ကြတယ်။

ဥပါလိသူငယ်ဟာ အရွယ်ရောက်တဲ့ အခါ ဘဒ္ဒိယ၊ အနုရုဒ္ဓ၊ ဘဂု၊ ကိမိလ၊ အာနန္ဒ၊ ဒေဝဒတ္တ ဆိုတဲ့ သာကီဝင်မင်းသား ၆ ယောက်တို့ရဲ့ ဆံ၊ မုတ်ဆိတ်တွေကို ရိတ်ဖြတ်ပြုပြင် တန်ဆာဆင် ပေးရတဲ့သူ ဖြစ်ခဲ့ပါတယ်။

တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ မလ္လာမင်းတွေရဲ့ အနုပိယမြို့အနီးက သရက်ဥယျာဉ်တောမှာ သီတင်းသုံး နေတော်မူပါတယ်။ ဒီအခါ ဘဒ္ဒိယသာကီဝင်မင်း အမှူးပြုတဲ့ သာကီဝင်မင်းသား ခြောက်ယောက်တို့ဟာ ဥပါလိဆတ္တာသည်ကိုပါ ခေါ်ဆောင်လာပြီး စစ်သည် ဗိုလ်ပါတွေနဲ့အတူ မြတ်စွာဘုရားထံ ရဟန်းပြုဖို့ ထွက်လာခဲ့ကြပါတယ်။ လမ်းခုလတ် အတော်လေး ခရီးရောက်လာတဲ့အခါ သာကီဝင် မင်းသား ခြောက်ယောက်တို့ဟာ စစ်သည်ဗိုလ်ပါတွေကို ပြန်လွှတ်လိုက်ပါတယ်။ နောက်ပြီး သူတို့ ခန္ဓာကိုယ်မှာ ဆင်မြန်း ဝတ်ဆင်လာတဲ့ အဖိုးတန် လက်ဝတ်ရတနာတွေကို ချွတ်၊ အဝတ်နဲ့ ထုပ်ပြီး ဥပါလိ ဆတ္တာသည်ကို "ကိုင်း… အချင်း ဥပါလိ၊ သင်လည်း ပြန်တော့၊ ဒီလောက်ဆို သင့်အတွက် အသက်မွေးဝမ်းကျောင်းပြုဖို့ လုံလောက်ပါပြီ"လို့ ပြောဆိုကာ ပေးလိုက်ပါတယ်။

ဒီအခါ ဥပါလိဟာ အပြန်ခရီး ပြန်သွားရင်းမှာပဲ 'သာကီဝင် မင်းတွေဟာ ခက်ထန်ကြမ်းတမ်းကြတယ်၊ 'ဒီ ဥပါလိက မင်းသား တွေကို ထွက်သွားစေခဲ့တာပဲ'လို့ ဆိုပြီး ငါ့ကို သတ်ချင် သတ်ကြမှာ၊ ဒီ သာကီဝင်မင်းသားတွေတောင် ရဟန်းပြုနိုင်ကြသေးတာပဲ၊ ငါက ဘာမို့လို့ ရဟန်း မပြုနိုင်ရမှာလဲ'လို့ အတွေးဝင်လာခဲ့ပါတယ်။ ဒါနဲ့ လက်ဝတ်ရတနာ ဘဏ္ဍာထုပ်ကို သစ်ပင်တစ်ပင်မှာ ချိတ်ဆွဲထား လိုက်ပြီး "မြင်တဲ့သူ ဒီ ဘဏ္ဍာထုပ်ကို ယူကြ"လို့ နှုတ်မြွက် ပြောဆိုလိုက်တယ်။ ပြီးတော့ သူဟာ သာကီဝင် မင်းသားတွေနောက် ပြန်လိုက်သွားခဲ့ပါတယ်။

သာကီဝင်မင်းသား ခြောက်ယောက်တို့လည်း ဉပါလိ ဆတ္တာသည် ပြန်လှည့်ပြီး အဝေးကနေ လာနေတာကို မြင်ခဲ့ကြတယ်။ အနား ရောက်လာတဲ့ အခါ “ဟဲ့… အချင်း ဉပါလိ၊ ဘယ့်နှယ် ကြောင့် ပြန်လှည့်လာရတာတုံး” လို့ မေးခဲ့ကြတယ်။

ဒီအခါ ဉပါလိ ဆတ္တာသည်ဟာ စောစောက သူ့စိတ်ထဲ တွေးမိတဲ့ အကြောင်းအရာတွေကို အပြည့်အစုံ ပြောပြလိုက်ပြီး၊ အသတ်ခံရမှာ ကြောက်တဲ့အတွက်ကြောင့် ခုလို မင်းသားတွေနောက် ပြန်လိုက်လာရတာ ဖြစ်တဲ့အကြောင်း ရှင်းပြပါတယ်။

သာကီဝင်မင်းသားတွေကလည်း “အချင်း ဉပါလိ… သင် တွေးတာ မှန်တယ်။ သင် ပြန်သွားရင် သာကီဝင်မင်းတွေက စိတ်ဆိုးပြီး သင့်ကို သတ်ချင် သတ်နေမှာ၊ သင် အခုလို ငါတို့ဆီ ပြန်လာတာ ကောင်းပါတယ်” လို့ ပြောကြတယ်။

အဲဒီ နောက်မှာတော့ သာကီဝင်မင်းသား ခြောက်ယောက်တို့ဟာ ဉပါလိ ဆတ္တာသည်ကို ခေါ်ပြီး မြတ်စွာဘုရားထံ သွားခဲ့ကြတယ်။ မြတ်စွာဘုရားထံ ရောက်ကြတဲ့ အခါ ရှိခိုး ကန်တော့ ဦးချပြီးနောက် -

“မြတ်စွာဘုရား၊ တပည့်တော်တို့ သာကီမျိုးတွေဟာ မာန သိပ်ကြီးကြပါတယ် ဘုရား။ ဒီ ဉပါလိ ဆတ္တာသည်ဟာ တပည့်တော် တို့ရဲ့ အစေအပါးအနေနဲ့ လုပ်ကျွေး ပြုစုလာခဲ့တာ အတော်လေး ကြာမြင့်ခဲ့ပါပြီ ဘုရား၊ ရှင်တော်ဘုရား အနေနဲ့ သူ့ကို တပည့်တော် တို့ရဲ့အရင် ရဟန်းပြုပေးတော်မူပါဘုရား။ တပည့်တော်တို့က သူ့ကို ရှိခိုးတာ၊ ခရီးဦးကြိုဆိုတာ၊ လက်အုပ် ချီတာ၊ အရိုအသေပေးတာ တွေကို ပြုကြပါမည် ဘုရား၊ ဒါမှ တပည့်တော်တို့ရဲ့ သာကီမျိုးဆိုတဲ့ မာန်မာနတွေ ကင်းသွားပါလိမ့်မယ် ဘုရား” လို့ လျှောက်ထားကာ ရဟန်းပြုခွင့် တောင်းခဲ့ကြပါတယ်။

မြတ်စွာဘုရားရှင်ကလည်း သာကီဝင်မင်းသားတွေ လျှောက် တဲ့အတိုင်း ဉပါလိ ဆတ္တာသည်ကို အရင်ဆုံး ရဟန်းပြုပေးတော်မူခဲ့

ပါတယ်။ ပြီးမှ သာကီဝင်မင်းသား ခြောက်ယောက်ကို ဆက်ပြီး ရဟန်းပြုပေးတော်မူခဲ့ပါတယ်။

## (ဃ) အရှင်ဥပါလိမထေရ် ရဟန္တာဖြစ်၊ ဝိနည်းပိဋက သင်ယူ

အရှင်ဥပါလိဟာ ရဟန်းဖြစ်ပြီးတဲ့နောက် မြတ်စွာဘုရားထံ ကမ္မဋ္ဌာန်းတရား အားထုတ်နည်း သင်ယူခဲ့ပါတယ်။ ပြီးတဲ့ အခါ "မြတ်စွာဘုရား၊ တပည့်တော်ကို တောမှာ တောရ ဆောက်တည်ပြီး နေဖို့ ခွင့်ပြုတော်မူပါ ဘုရား" လို့လည်း ခွင့်ပန်လျှောက်ထားခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က "အို··· ရဟန်း၊ သင် တောရ ဆောက်တည်ပြီး နေမယ် ဆိုရင် ဝိပဿနာဓုရ ဆိုတဲ့ ကမ္မဋ္ဌာန်းဘာဝနာ စီးဖြန်း ပွားများတဲ့ အလုပ်တာဝန်တစ်ခုပဲ တိုးပွားပါလိမ့်မယ်၊ ငါဘုရားရဲ့ အနီးနားမှာ နေရင်တော့ ဝိပဿနာဓုရ ဆိုတဲ့ ကမ္မဋ္ဌာန်း ဘာဝနာပွားတဲ့ အလုပ်ရော၊ ဂန္ထဓုရ ဆိုတဲ့ ပရိယတ္တိသင်ယူတဲ့ အလုပ် ရော အလုပ်တာဝန် နှစ်ခုစလုံး ပြည့်စုံပါလိမ့်မယ်" လို့ မိန့်ကြားတော် မူခဲ့ပါတယ်။

အရှင်ဥပါလိဟာ မြတ်စွာဘုရားရှင်ရဲ့ အမိန့်တော်စကားကို ဝမ်းမြောက်ဝမ်းသာ လက်ခံတော်မူပြီး ဝိပဿနာကမ္မဋ္ဌာန်းတရားကို ကြိုးစားအားထုတ်ခဲ့တဲ့အတွက် မကြာခင်မှာပဲ ကိလေသာ အာသဝေါ ကုန်ခန်းကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။ ဒီနောက်မှာတော့ အရှင် ဥပါလိမထေရ်ကို မြတ်စွာဘုရားရှင်က ကိုယ်တော်တိုင်ပဲ ဝိနည်း ပိဋကတစ်ခုလုံးကို သင်ပေးတော်မူခဲ့ပါတယ်။

## အရှင်ဥပါလိမထေရ် ဆုံးဖြတ်ခဲ့တဲ့ ဝိနိစ္ဆယမှုခင်း သုံးမှု

အရှင်ဥပါလိမထေရ်ဟာ ဝိနည်းပိဋက ကျွမ်းကျင် တတ် မြောက်ပြီးတဲ့ အခါ ဝိနိစ္ဆယမှုခင်းကြီး သုံးမှုကို မြတ်စွာဘုရားရှင်ရဲ့

သဗ္ဗညုတဉာဏ်တော်ကြီးနဲ့ နှိုင်းညှိပြီး ဘုရားရှင် အလိုတော်ကျ ဆုံးဖြတ်တော်မူခဲ့ပါတယ်။

**ဘာရုကစ္ဆကဝတ္ထု**

ပထမတစ်မှုကတော့ ဘာရုကစ္ဆကရဟန်းရဲ့ အမှု ဖြစ်ပါတယ်။ တစ်ချိန်မှာတော့ ဘာရုကစ္ဆက အရပ်သား ရဟန်းတစ်ပါးဟာ အိပ်မက်ထဲမှာ မယားဟောင်းကို မေထုန်ကျင့်ရတယ်လို့ အိပ်မက်မက်ပါတယ်။ ဒါကြောင့် သူဟာ 'ငါ ရဟန်း မဟုတ်တော့ဘူး၊ လူထွက်တော့မယ်'လို့ တွေးကြံပြီး သူ့ရဲ့ ဇာတိဖြစ်တဲ့ ဘာရုကစ္ဆက အရပ်ဆီ ပြန်ခဲ့ပါတယ်။ လမ်းခရီးအကြားမှာ အရှင်ဥပါလိမထေရ်နဲ့ တွေ့လို့ အဲဒီ ရဟန်းက သူ့ရဲ့ဖြစ်ကြောင်းကို အရှင်မြတ်ထံ လျှောက်ထားခဲ့ပါတယ်။ ဒီအခါ အရှင်ဥပါလိ မထေရ်က ''ငါ့ရှင်၊ အိပ်မက်နဲ့တော့ အာပတ်မသင့်နိုင်''လို့ အဆုံးအဖြတ် ပေးခဲ့ပါတယ်။

အခုလို မှုခင်းမျိုးနဲ့ ပတ်သက်တဲ့ မြတ်စွာဘုရားရဲ့ အဆုံးအဖြတ် အရင်က မရှိခဲ့ဖူးပါဘူး။ ဒါပေမဲ့ ''အိပ်မက်ထဲမှာ သုက်လွှတ်ရင် အာပတ်မသင့်''လို့ ဆုံးဖြတ်ပေးထားတာတော့ ရှိခဲ့ဖူးပါတယ်။ ဒါကြောင့် အရှင်ဥပါလိမထေရ်ဟာ အဲဒီ အဆုံးအဖြတ်ကို နည်းယူပြီး အခု ဒီ ဘာရုကစ္ဆကရဟန်းရဲ့ အမှုမှာလည်း ''အိပ်မက်နဲ့တော့ အာပတ်မသင့်''လို့ ရဲရဲတောက် ဆုံးဖြတ်တော်မူခဲ့တာ ဖြစ်ပါတယ်။

ဒီအကြောင်းကို မြတ်စွာဘုရားရှင် ကြားသိတော်မူတဲ့ အခါ ''ရဟန်းတို့၊ ဥပါလိဟာ ခြေရာ မထင်နိုင်တဲ့ ကောင်းကင်မှာ ခြေရာပြသလိုမျိုး သာမန်ပုဂ္ဂိုလ်ဆုံးဖြတ်ဖို့ ခက်ခဲတဲ့ အမှုကိစ္စ ပြဿနာကို ကောင်းမွန်စွာ ဖြေရှင်းဆုံးဖြတ်နိုင်ခဲ့ပါပေတယ်''လို့ မိန့်ကြားပြီး သာဓုခေါ် ကောင်းချီးပေးတော်မူခဲ့ပါတယ်။

**အဇ္ဈုကဝတ္ထု**

ဒုတိယအမှုကတော့ အရှင်အဇ္ဈုကရဲ့ အမှု ဖြစ်ပါတယ်။ တစ်ခါမှာတော့ ဝေသာလီပြည်မှာ အရှင်အဇ္ဈုက ဆိုတဲ့ ရဟန်းတော် တစ်ပါး ရှိပါတယ်။ အဲဒီ အရှင်အဇ္ဈုကရဲ့ ပစ္စည်းလေးပါး ဒကာကြီးမှာ သားအရင်းရယ်၊ တူရယ် ကလေးနှစ်ယောက် ရှိပါတယ်။

တစ်နေ့မှာတော့ အဲဒီ ဒကာကြီးဟာ အရှင်အဇ္ဈုကကို "အရှင်ဘုရား၊ ဒီကလေး နှစ်ယောက်ထဲက ရတနာသုံးပါးကို ယုံကြည်တဲ့ သဒ္ဓါလည်းရှိ၊ ကြည်လည်း ကြည်ညိုတဲ့သူကို တပည့်တော်ရဲ့ ပစ္စည်း ဥစ္စာတွေ မြှုပ်နှံထားတဲ့ အရပ်ကို ပြောပြပေးပါ ဘုရား" လို့ လျှောက်ထား မှာကြားပြီး ကွယ်လွန်သွားခဲ့ပါတယ်။

အဲဒီအချိန်မှာ သဒ္ဓါတရားရှိပြီး ရတနာ သုံးပါးကို ကြည်ညို သူက အဲဒီဒကာကြီးရဲ့ တူဖြစ်နေပါတယ်။ ဒါနဲ့ အရှင်အဇ္ဈုကလည်း ဒကာကြီး မှာသွားတဲ့အတိုင်း ရတနာသုံးပါးအပေါ် သဒ္ဓါလည်းရှိ၊ ကြည်လည်း ကြည်ညိုတဲ့ ဒကာကြီးရဲ့ တူဖြစ်တဲ့ သူငယ်ကိုပဲ ပစ္စည်း ဥစ္စာ မြှုပ်နှံထားတဲ့ အရပ်ကို ပြောလိုက်ပါတယ်။ အဲဒီ သူငယ်ဟာ ပစ္စည်းဥစ္စာတွေ ဖော်ယူပြီး စီးပွားရေးလုပ်ငန်းတွေ ထူထောင်ခဲ့တယ်။ နောက်ပြီး အလှူအတန်းတွေလည်း လုပ်ခဲ့ပါတယ်။

ဒီအခါ သားဖြစ်တဲ့ သူငယ်က မကျေမနပ် ဖြစ်ပြီး အရှင် အာနန္ဒာထံ သွားရောက်ကာ "အရှင်ဘုရား အာနန္ဒာ… ဖခင်ရဲ့ အမွေပစ္စည်းဥစ္စာကို သားဖြစ်သူက ခံထိုက်သလား၊ ဒါမှမဟုတ် တူဖြစ်သူက ခံထိုက်ပါသလား ဘုရား"လို့ မေးမြန်း လျှောက်ထား ခဲ့ပါတယ်။ အရှင်အာနန္ဒာက သားဖြစ်သူကသာ ဖခင်ရဲ့ အမွေကို ခံထိုက်တဲ့ အကြောင်း ဖြေကြားပါတယ်။

"အရှင်အာနန္ဒာ… ဒီ အရှင်အဇ္ဈုကဟာ တပည့်တော်ဖခင်ရဲ့ ပစ္စည်းဥစ္စာတွေကို တူဖြစ်သူအား ညွှန်ပြ ပြောပြခဲ့ပါတယ် ဘုရား"လို့ သားဖြစ်တဲ့ သူငယ်က လျှောက်ထားပါတယ်။ ဒါနဲ့ အရှင်အာနန္ဒာက

အကြောင်းအခြင်းအရာကို သေချာစွာ မသိဘဲ "ဒီလို ဆိုရင် အရှင်အဇ္ဇုကဟာ ရဟန်း မဟုတ်တော့ဘူး" လို့ မိန့်လိုက်ပါတယ်။

ဒီလို အရှင်အာနန္ဒာမထေရ် မိန့်လိုက်တဲ့ အခါ အရှင်အဇ္ဇုကက "ငါ့ရှင် အာနန္ဒာ... တပည့်တော်အား ဝိနည်းအဆုံးအဖြတ် ပေးပါဘုရား" လို့ လျှောက်ထားခဲ့ပါတယ်။ အဲဒီ အချိန်မှာ အရှင်ဥပါလိမထေရ်က အရှင်အဇ္ဇုကဘက်မှာ ရှိနေပါတယ်။ အခုလို ရှိနေတာကလည်း အရှင်ဥပါလိမထေရ်က အဂတိလိုက်တဲ့ အနေနဲ့ ရှိနေတာ မဟုတ်ပါဘူး။ အရှင်အဇ္ဇုကမှာ အပြစ် မရှိဘူးဆိုတာ အတိအကျ သိတဲ့ အတွက် အပြစ် မရှိသူကို ချီးမြှောက်လိုတာရယ်၊ ဝိနည်းကို ချီးမြှောက်လိုတဲ့အတွက်ကြောင့်ရယ်၊ ဒီအကြောင်းတွေကြောင့် အရှင်အဇ္ဇုကဘက်မှာ ရှိနေတာပါ။

ဒီအခါ အရှင်ဥပါလိမထေရ်က အရှင်အာနန္ဒာမထေရ်ကို "ငါ့ရှင် အာနန္ဒာ... ပစ္စည်းပိုင်ရှင်က သူ ပစ္စည်းထားတဲ့ အရပ်ကို ဘယ်လို ပုဂ္ဂိုလ်ကို ပြောပေးပါလို့ မှာထားခံရတဲ့ ရဟန်းက ပစ္စည်းရှင် မှာတဲ့ အတိုင်း ပြောရင် အဘယ် အာပတ် သင့်ပါသလဲ" လို့ မေးခဲ့ပါတယ်။ အရှင်အာနန္ဒာက "ဘယ်အာပတ်မှ မသင့်ပါကြောင်း၊ ယုတ်စွအဆုံး ဒုက္ကဋ်အာပတ်ပင် မသင့်ပါကြောင်း" ပြန်လည် ဖြေကြားခဲ့ပါတယ်။ ဒီအခါ အရှင်ဥပါလိမထေရ်က "ငါ့ရှင် အာနန္ဒာ... ဒီ အရှင်အဇ္ဇုကဟာ ပစ္စည်းရှင် သူ့ဒကာ မှာခဲ့တဲ့ အတိုင်း ပြောကြားခဲ့တာ ဖြစ်တဲ့ အတွက် အာပတ်မသင့်ပါ" လို့ အဆုံးအဖြတ်ပေးတော်မူခဲ့ပါတယ်။ ဒီအကြောင်းကို မြတ်စွာဘုရားရှင် သိတော်မူတဲ့ အခါမှာလည်း သာဓုခေါ် ကောင်းချီးပေးတော်မူခဲ့ပါတယ်။

**ကုမာရကဿပမာတာဝတ္ထု**

တတိယမူခင်းကတော့ တရားအဆန်းတကြယ် ဟောတဲ့အရာ အသာဆုံး ဧတဒဂ်ရ အရှင်ကုမာရကဿပမထေရ်ရဲ့ မယ်တော်အမှု

ဖြစ်ပါတယ်။ အရှင်ကုမာရကဿပရဲ့ မယ်တော်ဟာ အိမ်ထောင် မကျခင် အပျိုစင်ဘဝမှာကတည်းက ရဟန်းပြုဖို့အတွက် မိဘတွေကို ခွင့်ပန် ခွင့်တောင်းခဲ့ပေမယ့် မိဘတွေက ခွင့်မပြုခဲ့ပါဘူး။

အိမ်ထောင် ကျပြီးလို့ ခင်ပွန်းသည်ထံ ခွင့်တောင်းတဲ့ အခါမှာ တော့ ခွင့်ပြုချက် ရခဲ့တာနဲ့ အရှင်ဒေဝဒတ်ရဲ့ ဘက်တော်သား ရဟန်းမ တွေ အထံမှာ ရဟန်းမ ဝတ်ခဲ့ပါတယ်။ ဒါပေမဲ့ ကိုယ်ဝန်ရှိနေတယ် ဆိုတာ သတိ မထားမိခဲ့ပါဘူး။ ရဟန်းမ ဝတ်ပြီးလို့ တော်တော်လေး ကြာတဲ့ အခါမှ ကိုယ်ဝန်က အထင်အရှား ဖြစ်လာခဲ့ပါတယ်။ ဒီအခါ ရဟန်းမတွေက အရှင်ဒေဝဒတ်ထံ လျှောက်ထားတဲ့ အခါ အရှင်ဒေဝဒတ်က "ရဟန်းမ မဟုတ်တော့ဘူး" လို့ ဆုံးဖြတ်ချက်ပေးပြီး နှင်ထုတ်ခဲ့ ပါတယ်။

ဒီအခါ အဲဒီ ရဟန်းမလေးဟာ မြတ်စွာဘုရားရဲ့ တပည့်မ တွေဖြစ်တဲ့ ရဟန်းမတွေထံ သွားရောက်ခိုလှုံပြီး အကျိုးအကြောင်း လျှောက်ထားခဲ့ပါတယ်။ ရဟန်းမတွေက မြတ်စွာဘုရားထံ ဆက် လက်ပြီး လျှောက်ထားတဲ့အခါ မြတ်စွာဘုရားက ဒီအမှုကို ဆုံးဖြတ်ဖို့ အတွက် အရှင်ဥပါလိမထေရ်ကို တာဝန်ပေးခဲ့ပါတယ်။

အရှင်ဥပါလိမထေရ်ဟာ သာဝတ္ထိပြည်မှာရှိတဲ့ ကျောင်းအမ ကြီး ဝိသာခါနဲ့တကွ ထင်ရှားတဲ့ အမျိုးသမီးကြီးတွေကို ခေါ်လိုက် ပါတယ်။ ပြီးတော့ ဒီ ရဟန်းမလေးရဲ့ ကိုယ်ဝန်ဟာ လူ့ဘဝက ရခဲ့တဲ့ ကိုယ်ဝန်လား၊ ရဟန်းမ ဖြစ်ပြီးမှ ရတဲ့ ကိုယ်ဝန်လား ဆိုတာကို အဲဒီ အမျိုးသမီးကြီးတွေကို စစ်ဆေး မေးမြန်းစေခဲ့ပါတယ်။ ဒီအခါ ဝိသာခါ အမှူးပြုတဲ့ အမျိုးသမီးကြီးတွေက လူ့ဘဝတုန်းက ရခဲ့တဲ့ ကိုယ်ဝန်ဖြစ်တဲ့အကြောင်း ထွက်ဆိုခဲ့ကြပါတယ်။

ဒီထွက်ဆိုချက်ကို အထောက်အထားပြုပြီး အရှင်ဥပါလိ မထေရ်ဟာ "ဒီ ရဟန်းမလေးရဲ့ ရဟန်းအဖြစ်ဟာ အပြစ်မရှိ" လို့

ပြတ်ပြတ်သားသား စီရင် ဆုံးဖြတ်တော်မူခဲ့ပါတယ်။ ဒီအခါမှာလည်း မြတ်စွာဘုရားက အရှင်ဥပါလိမထေရ်ရဲ့ ဆုံးဖြတ်ချက်ကို သာခုခေါ် ကောင်းချီးပေးတော်မူခဲ့ပါတယ်။

## (င) ဝိနယဓရဧတဒဂ် အပ်နှင်း

အရှင်ဥပါလိမထေရ်ရဲ့ ဒီ ဝိနည်းအဆုံးအဖြတ် သုံးရပ်ကို အကြောင်းပြုပြီး မြတ်စွာဘုရားရှင်ဟာ နောင်တစ်ချိန် အရိယာသံဃာတွေ စုံညီတဲ့ သံဃာ့ပရိသတ်အလယ်မှာ "ရဟန်းတို့၊· ဝိနည်းပိဋကကို ဆောင်ကြတဲ့ ငါဘုရားရဲ့ တပည့်ရဟန်းတွေထဲမှာ ဥပါလိ ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်" လို့ ချီးကျူးစကား မိန့်ကြားတော်မူပြီး အရှင်ဥပါလိမထေရ်ကို ဝိနည်းပိဋကဆောင်တဲ့ အရာ အသာဆုံး ဝိနယဓရဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်တော်မူခဲ့ပါတယ်။

## (စ) အရှင်မြတ်ကိုယ်တိုင်ဟောတဲ့ သူ့ဘဝဇာတ်ကြောင်း

အရှင်ဥပါလိမထေရ်ဟာ သူ့ဘဝဇာတ်ကြောင်းကို ဂါထာပေါင်း ၁၅၄ ဂါထာနဲ့ ပြန်လည် ဟောပြခဲ့ပါတယ်။ ဒီဂါထာတွေကို အရှင်မြတ်ကိုယ်တိုင်ရေးခဲ့တဲ့ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိလို့ ဆိုမယ်ဆို ဆိုနိုင်ပါတယ်။ ဒီဂါထာတွေကို ထေရာပဒါနပါဠိတော်မှာ မှတ်တမ်းတင်ထားပါတယ်။ အဲဒီထဲက ကောက်နုတ်ပြီး အချက်အလက်အချို့ကို ဖော်ပြချင်ပါတယ်။

## ဝိနည်းအရာ သူ့ထက်သာသူ မရှိ

မြတ်စွာဘုရားရှင်ဟာ အရှင်မဟာကဿပ၊ အရှင်အာနန္ဒာ စတဲ့ အခြား ရဟန်းတော်တွေကို ကျော်လွန်ပြီး အကျွန်ုပ်ကိုပဲ ဝိနည်းအရာ အလေးထား ပမာဏပြုတော်မူခဲ့ပါတယ်။ ပညာရှင်တွေမှ စိစစ်

ဆုံးဖြတ်နိုင်တဲ့ ဝိနည်းအဆုံးအဖြတ် ကိစ္စရပ်တွေကိုလည်း အကျွန်ုပ်ကိုပဲ အပ်နှင်းတော်မူခဲ့ပါတယ်။

တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်က ဝိနည်းနဲ့ ပတ်သက်တဲ့ အကြောင်းအရာ မေးခွန်းပြဿနာ မေးလာခဲ့မယ် ဆိုရင် အကျွန်ုပ်ဟာ အဲဒီ မေးခွန်းပြဿနာကို ကြံစည်တွေးတောမနေဘဲ တစ်ခဏချင်း တိကျမှန်ကန်စွာ ဖြေဆိုနိုင်ပါတယ်။

မြတ်စွာဘုရား သာသနာတော်မှာ မြတ်စွာဘုရားကလွဲရင် ဝိနည်းနဲ့ ပတ်သက်ပြီး အကျွန်ုပ်နဲ့ တန်းတူရည်တူ ပုဂ္ဂိုလ်ဆိုတာတောင် မရှိပါ၊ သာလွန်တဲ့ ပုဂ္ဂိုလ် ဆိုတာ ဘယ်မှာ ရှိပါ့မလဲ။

ဒါကြောင့် မြတ်စွာဘုရားက အကျွန်ုပ်ကို ဝိနည်းအရာ အသာဆုံး ဧတဒဂ်ကို ပေးတော်မူခဲ့တာ ဖြစ်ပါတယ်။

## ဆတ္တာသည် ဖြစ်ရခြင်းရဲ့ ရှေးမကောင်းမှု အကုသိုလ်ကံ

အကျွန်ုပ်ဟာ ဒီ ဝိနည်းအရာ အသာဆုံး ဧတဒဂ်ကို လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကတည်းက တောင့်တခဲ့တာ ဖြစ်ပါတယ်။ ခုတော့ အကျွန်ုပ်ရဲ့ ဆုတောင်း ပြည့်ခဲ့ပါပြီ။ ဒါပေမဲ့ အကျွန်ုပ်ဟာ ခု နောက်ဆုံးဘဝရောက်တဲ့ အခါ သာကီဝင်မင်းသားတွေရဲ့ ဆံ၊ မုတ်ဆိတ်တွေ ရိတ်ပေးရတဲ့၊ စိတ်ကျေနပ်အောင် ပြုစုပေးရတဲ့ အစေအပါး ဆတ္တာသည်မျိုးမှာ ဖြစ်ခဲ့ရပါတယ်။ ဒီလို ဖြစ်ရတာကလည်း ရှေးအကြောင်းရှိလို့ ဖြစ်ခဲ့ရတာပါ။

ဒီကမ္ဘာကနေ နောက်ပြန်ရေလိုက်ရင် လွန်ခဲ့တဲ့ နှစ်ကမ္ဘာထက်ဆီတုန်းက အဉ္စသမင်း ဆိုတဲ့ မင်းတစ်ပါး ရှိခဲ့ပါတယ်။ အဲဒီမင်းက ဘုန်းတန်ခိုးကြီးမားတယ်။ အခြွေအရံရော ပစ္စည်းဓနအင်အားပါ တောင့်တင်းပါတယ်။ အကျွန်ုပ်ဟာ အဲဒီမင်းရဲ့ သား ဖြစ်ခဲ့ပါတယ်။ ‘စန္ဒနမင်းသား’လို့ ခေါ်ပါတယ်။ စန္ဒနမင်းသားဟာ မျိုးရိုးကောင်း

တာ၊ အခြွေအရံပေါတာ၊ ပစ္စည်းဥစ္စာ ပြည့်စုံကြွယ်ဝတာတွေကို အကြောင်းပြုပြီး မာန်ကြီး ခက်ထန် ကြမ်းတမ်းသူ ဖြစ်ခဲ့ပါတယ်။

စန္ဒနမင်းသားဟာ တစ်နေ့မှာတော့ အခြွေအရံတွေနဲ့အတူ စီးတော်ဆင်စီးပြီး ဥယျာဉ်ဆီ ထွက်ခဲ့ပါတယ်။ လမ်းမှာ ဒေဝလ ပစ္စေကဗုဒ္ဓါ ဆွမ်းခံကြွလာတာနဲ့ ဆုံတွေ့ခဲ့ပါတယ်။ ဒီအခါ မင်းသားဟာ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို တိုက်ခိုက်ဖို့အတွက် သူ့ရဲ့ စီးတော်ဆင်ကို အတင်းအကျပ် ခိုင်းစေခဲ့ပါတယ်။ စီးတော်ဆင်က အတင်းအကျပ် ခိုင်းစေတဲ့ မင်းသားကို စိတ်ဆိုးအမျက်ထွက်ပြီး သူ့ရဲ့ ခြေထောက်တွေ မြှောက်ထားလိုက်ပါတယ်။ ဒီအခါ မင်းသားဟာ ပစ္စေကဗုဒ္ဓါအပေါ် ပိုလို့တောင် စိတ်ဆိုး အမျက်ထွက်ပြီး အမျိုးမျိုး ညှဉ်းဆဲခဲ့ပါတယ်။

စန္ဒနမင်းသားဟာ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို စိတ်ကျေနပ်အားရတဲ့အထိ ညှဉ်းပန်းနှိပ်စက်ပြီးနောက် ဥယျာဉ်တော်ဆီ ဆက်လက်ထွက်ခွာသွားခဲ့ပါတယ်။ ဥယျာဉ်ထဲ ရောက်တဲ့ အခါ သူ့ရဲ့စိတ်တွေ ပျော်ရွှင်မနေပါဘူး။ ဦးခေါင်းမှာ မီးလောင်နေသလိုမျိုး၊ ငါးမျှားချိတ်ကို မျိုထားရတဲ့ ငါးလိုမျိုး ပူလောင်မှုတွေနဲ့ လောင်မြိုက်နေခဲ့ပါတယ်။ မြေတစ်ပြင်လုံး မီးဟုန်းဟုန်း တောက်လောင်သလိုမျိုး သူ့မှာ ပူလောင်မှုတွေ ဖြစ်နေခဲ့ပါတယ်။

ဒီအခါ ဖခမည်းတော် အဒ္ဒသဘုရင်ကြီးဆီ သွားပြီး "အရှင်မင်းကြီး… အကျွန်ုပ်ဟာ အမျက်ထွက်နေတဲ့ မြွေဟောက်ကို ထိပါးမိသလိုမျိုး၊ အပြင်းအထန် တောက်လောင်နေတဲ့ မီးကို ထိပါးမိသလိုမျိုး၊ မုန်ယိုနေတဲ့ စွယ်စုံဆင်ကြီးကို ထိပါးမိသလိုမျိုး ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ထိပါးပြစ်မှားမိခဲ့ပါတယ်။ အကျင့်သီလ ပြည့်စုံတော်မူတဲ့ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို အကျွန်ုပ် ပြစ်မှားမိခဲ့ပါတယ်၊ အကျွန်ုပ်တို့အားလုံး မပျက်စီးသေးခင်မှာပဲ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို ကန်တော့ပါ့မယ်"လို့ သံတော်ဦးတင် လျှောက်ထားခဲ့ပါတယ်။

သီလ၊ သမာဓိ၊ ပညာ ပြည့်စုံတော်မူကြတဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေကို မကန်တော့ခဲ့ဘူး ဆိုရင် တိုင်းပြည်တစ်ပြည်လုံး ပျက်စီးသွားနိုင်ပါတယ်။ သုမေခလမင်း၊ ကောသိယမင်း၊ သိဂ္ဂဝမင်း၊ သတ္တကမင်း၊ ဒီမင်းလေးပါးတို့ဟာ ရသေ့ရဟန်းတွေကို ညှဉ်းဆဲခဲ့ကြတဲ့အတွက် တိုင်းသူ ပြည်သားတွေနဲ့အတူ ဒီမင်းလေးပါးလုံး ပျက်စီးခဲ့ဖူးတာ ရှိပါတယ်။

ဒါကြောင့် စန္ဒနမင်းသားဟာ အခြွေအရံ ပရိသတ်တွေနဲ့အတူ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ထံ သွားခဲ့ပြီး ပစ္စေကဗုဒ္ဓါအရှင်မြတ်ရဲ့ ခြေတော်ကို ဦးတိုက်ကာ "ကြီးသောလုံ့လ ရှိတော်မူသော အရှင်မြတ်ဘုရား၊ သည်းခံ ခွင့်လွှတ်တော်မူပါ ဘုရား၊ တပည့်တော်တို့ တောင်းပန်ပါကုန်၏၊ တပည့်တော်တို့၏ ပူပန်ခြင်းကို ပယ်ဖျောက်ပေးတော်မူပါ၊ တပည့်တော်တို့၏ တိုင်းပြည်ကို မပျက်စီးစေပါလင့် ဘုရား"လို့ တောင်းပန်လျှောက်ထားခဲ့ပါတယ်။

ဒီအခါ ပစ္စေကဗုဒ္ဓါ အရှင်မြတ်က "အသုရာတွေ၊ ရက္ခိုသ်တွေ၊ နတ်တွေနဲ့တကွ ရှိသမျှ လူအားလုံးက သံတူတွေနဲ့ ငါ့ဦးခေါင်းကို အခါခါ ရိုက်ခွဲဦးတော့ ရေထဲမှာ မီးမတည်နိုင်သလို၊ ကျောက်ဆောင်ပေါ်မှာ မျိုးစေ့ အပင်မပေါက်နိုင်သလို၊ ဆေးထဲမှာ ပိုးမနေနိုင်သလို ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေမှာ အမျက်ထွက်တယ်၊ စိတ်ဆိုးတယ်ဆိုတာ မရှိပါဘူး။ ရှင်ရဟန်းတွေ ဆိုတာ ဘယ်ခါမဆို သည်းခံတတ်ပါတယ်"လို့ သည်းခံ ခွင့်လွှတ်ကြောင်းစကား မိန့်ကြားတော်မူပြီး လူတွေရဲ့ စိုးရိမ်ပူပန်မှုကို ပယ်ဖျောက်ကာ ကောင်းကင်ပေါ် ပျံတက်သွားတော်မူခဲ့ပါတယ်။

အခုလို စန္ဒနမင်းသား ဖြစ်စဉ်က ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို ပြစ်မှားခဲ့ဖူးတဲ့ အတွက်ကြောင့် အကျွန်ုပ်ဟာ ခု နောက်ဆုံးဘဝမှာ မျိုးရိုးယုတ်နိမ့်တဲ့ ဆတ္တာသည်မျိုးရိုးမှာ ဖြစ်ခဲ့ရပါတယ်။ ခုတော့

အကျွန်ုပ်ဟာ ယုတ်ညံ့တဲ့ ဆတ္တာသည်ဘဝကို လွန်မြောက်ပြီး ဘေးကင်းရာ နိဗ္ဗာန် ဝင်စံခဲ့ရပါပြီ။

ဆက်ပြီးတော့ အရှင်ဥပါလိမထေရ်ဟာ သီတင်းသုံးဖော် သံဃာတော်များကို ခုလိုလည်း တိုက်တွန်းစကားတွေ မိန့်တော်မူခဲ့ပါသေးတယ်။

* ငါဟာ တည်ကြည်တဲ့ သမာဓိ ရှိတော်မူတဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို ပြစ်မှားခဲ့တဲ့ အကုသိုလ်ကံကြောင့် ယခု နောက်ဆုံးဘဝမှာ ယုတ်ညံ့တဲ့ ဆတ္တာသည် မျိုးရိုးမှာ ဖြစ်ခဲ့ရတယ်။
* သင်တို့ဟာ ဘုရားပွင့်ရာ အခွင့်ကောင်း အခါကောင်းကို မလွဲချော်ကြပါစေနဲ့။ အခွင့်ကောင်း အခါကောင်းကို အချည်းအနှီး ကုန်လွန်စေကြတဲ့သူတွေဟာ နောင်ခါကျမှ စိုးရိမ်ပူပန်မှုတွေ ဖြစ်နေရတတ်တယ်။ ဒါကြောင့် မိမိရဲ့ အကျိုးစီးပွားတွေ အပေါ်မှာ တိုးတက်အောင် ကြိုးစားအားထုတ်ကြ။ ဘုရားပွင့်ရာ ခေတ်အခါကောင်းကို အကျိုးရှိအောင် အသုံးချကြ။
* မြတ်စွာဘုရားရှင်ရဲ့ အဆုံးအမ သာသနာတော်ဆိုတာ-

- မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်တွေအတွက်တော့ ကိလေသာအဆိပ်တွေကို အန်ထုတ်စေတဲ့ ပျို့အန်ဆေး ဖြစ်တယ်။

- ဖလဋ္ဌာန်ပုဂ္ဂိုလ်တွေအတွက်တော့ ကိလေသာအပူတွေကို ထပ်ဆင့်လျှောကျစေတဲ့ ဝမ်းလျှောဆေး ဖြစ်တယ်။

- ကောင်းကျိုးလိုလား ကောင်းမှုရှာနေသူတွေ အတွက်တော့ နိဗ္ဗာန်ဆေးသဖွယ် ဖြစ်တယ်။

- သာသနာ့ဆန့်ကျင်ဘက် ပုဂ္ဂိုလ်တွေ အတွက်တော့ လတ်တလော သေစေတတ်တဲ့ အဆိပ်သဖွယ် ဖြစ်ပါတယ်။

* တစ်ကြိမ်သောက်တဲ့ အဆိပ်ဟာ အသက်ကို တစ်ခါပဲ သေစေနိုင်တယ်။ ဘုရားသာသနာတော်ကို ဆန့်ကျင်ဘက် ပြုရင်တော့ ကမ္ဘာကုဋေပေတ်လုံး လောင်မြိုက်ရတတ်တယ်။
* မြတ်စွာဘုရားဆိုတာ သည်းခံခြင်း၊ မညှဉ်းဆဲခြင်း၊ မေတ္တာထားခြင်းတွေနဲ့ သတ္တဝါတွေကို ကယ်တင်တော်မူတယ်။ ဒါကြောင့် မြတ်စွာဘုရားအပေါ် ဆန့်ကျင်ဘက် မပြုသင့်ပါ။
* မြတ်စွာဘုရား ဆိုတာ လာဘ်ရမှု၊ မရမှုအပေါ်မှာ ကပ်ငြိမှု မရှိပါ။ မြတ်နိုးမှု၊ မမြတ်နိုးမှုအပေါ်မှာလည်း ကပ်ငြိမှု မရှိပါ။ ဒါကြောင့် မြတ်စွာဘုရားအပေါ် ဆန့်ကျင်ဘက် မပြုသင့်ပါ။
* မြတ်စွာဘုရားရှင်ဟာ သတ်ဖြတ်ညှဉ်းဆဲတတ်တဲ့ ဒေဝဒတ်အပေါ်မှာရော၊ ခိုးသူကြီး အင်္ဂုလိမာလအပေါ်မှာရော၊ သားတော် ရာဟုလာအပေါ်မှာရော၊ တိုက်ခိုက်ဖို့လာတဲ့ နာဠာဂိရိ ဆင်ကြီးအပေါ်မှာရော၊ သတ္တဝါတွေ အားလုံး အပေါ်မှာ တူမျှတဲ့ မေတ္တာစိတ် ထားရှိတော်မူပါတယ်။



တကယ်တော့ သံသရာ ကျင်လည်နေရတဲ့ မိမိတို့တစ်တွေဟာ သံသရာမှာ မိမိတို့ ဖြစ်စေချင်တဲ့ ရုပ်ပုံလွှာကို စိတ်ကြိုက်ဖန်တီး ရေးဆွဲခွင့် ရနေတဲ့ ဘဝပန်းချီဆရာတွေပဲ ဖြစ်ပါတယ်။ ကိုယ်ရေးဆွဲတဲ့ အတိုင်း ဘဝရုပ်ပုံတွေက ထွက်နေမှာပါ။ ဘယ်သူကမှ ကိုယ့်ဘဝ ရုပ်ပုံကို ဝင်ရေးပေးလို့ မရပါဘူး။

အရှင်ဥပါလိမထေရ်ဟာ မင်းသားဘဝဖြစ်စဉ်က ဇာတိမာန်၊ ယသမာန်၊ ခေမာန်တွေ မောက်ပြီး ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို

မထီမဲ့မြင် လုပ်ခဲ့တဲ့ ပန်းချီစုတ်ချက်ကြောင့် အခုနောက်ဆုံး ဘဝမှာ သူတစ်ပါးရဲ့ အစေအပါး ဘဝရုပ်ပုံ ထွက်လာခဲ့ပါတယ်။

* သူ့ကို သတ်ဖြတ် သက်တိုတတ်၊ မသတ် အသက်ရှည်။
* ညှဉ်းဆဲသူကား အနာများ၊ သနား ကျန်းမာသည်။
* ဒေါသမီးလျှံ အကျည်းတန်၊ သည်းခံ လှပသည်။
* မရှိမသေ မျိုးယုတ်ချေ၊ ရှိသေ မျိုးမြတ်သည်။
* မနာလိုမှာ ခြွေရံကွာ၊ ကြည်သာ ခြွေရံစည်။
* မပေးလှူက မွဲပြာကျ၊ လှူမှ ပေါကြွယ်သည်။
* မမေးမမြန်း ဉာဏ်မြင်ကန်း၊ စုံစမ်း ဉာဏ်ကြီးသည်။
* ဆိုးတာပြုက ဆိုးတာရ၊ ကောင်းမှ ကောင်းစားမည်။
* ဆိုး ကောင်း နှစ်တန် ကံစီမံ၊ ခံစံကြရမည်။

ဒီလင်္ကာတွေကတော့ မြတ်ဗုဒ္ဓကိုယ်တော်တိုင် ဟောတော်မူခဲ့တဲ့ ဘဝရုပ်ပုံ ပန်းချီဆွဲတဲ့ နေရာမှာ လိုက်နာ၊ ရှောင်ကြဉ်ရမယ့် စည်းကမ်းဥပဒေသတွေပဲ ဖြစ်ပါတယ်။ မဟာစည်ဆရာတော်ကြီးက မှတ်လို့လွယ်အောင် ဆောင်ပုဒ်လင်္ကာ သီကုံးပေးထားတာပါ။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၄၁။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၂၂။
၃။ အပဒါန်ပါဠိတော်၊ ၁။ ၄၀။
၄။ အပဒါန်အဋ္ဌကထာ၊ ၁။ ၃၀၈။
၅။ ပါရာဇိကဏ်ပါဠိတော်၊ ၄၉။ ၈၄။
၆။ ပါရာဇိကဏ်အဋ္ဌကထာ၊ ၁။ ၂၄၆။ ၃၄၄။
၇။ စူဠဝါပါဠိတော်၊ ၃၃၈။
၈။ ဦးရွှေအောင်၏ အမြင်များ ပြောင်းလဲခြင်းနှင့် အတွေးအမြင်စာစုများ။

သက္ကာယဒိဋ္ဌိ မကင်းသေးတဲ့ ပုထုဇဉ်တွေမှာ ‘ခံစားတယ် ဆိုတာ ငါပဲ၊ ငါဟာ ခံစားတတ်တယ်’လို့ ဝေဒနာနဲ့ အတ္တ၊ အတ္တနဲ့ ဝေဒနာ အတူတူပဲ ဆိုတဲ့ အမြင် ရှိနေတတ်ကြပါတယ်။ ဒီအမြင် ရှိနေတဲ့ အတွက် ‘ခံစားမှု ဝေဒနာဟာ မြဲတယ်၊ ခိုင်ခံ့တယ်၊ ထာဝရ ရှိတယ်၊ ဘယ်တော့မှ မပျက်စီး မဖောက်ပြန်ဘူး’ လို့ ထင်နေကြပါတယ်။





ဘိက္ခုနီများကို တရားဟောဆုံးမတဲ့အရာ အသာဆုံး

# ဘိက္ခုနောဝါဒကဧတဒဂ်ရ

# အရှင်နန္ဒက မထေရ်

တကယ်တော့ ဝေဒနာဟာ ကိုယ်ထင်သလို မြဲတဲ့ အရာ မဟုတ်ပါဘူး။ သူ့သဘော သူဆောင်ပြီး ပျက်ချိန်တန်လို့ ပျက်သွားတဲ့အခါ ထာဝရ တည်ရှိနေတယ်၊ မြဲနေတယ်လို့ ထင်ထားတဲ့ မိမိတို့မှာ သောက ပရိဒေဝ အပူမီးတွေ အဆက်မပြတ် တောက်လောင်တာ ခံရပါတယ်။

မိမိတို့ ငယ်စဉ်တုန်းက မီးထွန်းထားတဲ့ ဖယောင်းတိုင်ရဲ့ အလင်းရောင်ကို တစ်သမတ်တည်း အမြဲ ရှိနေတဲ့ အရောင်ပဲလို့ ထင်ခဲ့ဖူးတယ်၊ မန်ကျည်းပင်အောက် ထိုင်ပြီးတော့လည်း ဒီမန်ကျည်းပင်ရဲ့ အရိပ်ဟာ မပျက်တဲ့ အရာတစ်ခုပဲလို့ တွေးခဲ့ဖူးပါတယ်။

အခု ကြည်ညိုကြမယ့် အရှင်နန္ဒကမထေရ်ရဲ့ ဘိက္ခုနီမတွေကို ဟောတဲ့ တရားကို သင်ရတဲ့ အခါမှ ကိုယ်ထင်သလို မဟုတ်ပါဘဲလား ဆိုတာ ရှင်းရှင်းကြီး ဉာဏ်အမြင် လင်းခဲ့ရပါတယ်။

အရှင်မြတ်က "တကယ်တော့ ဝေဒနာဆိုတာ ရုပ်နာမ်တရားတို့ရဲ့ အရိပ်၊ အရောင် သက်သက်လေးပါပဲ" တဲ့။ "အရိပ်၊ အရောင် ဆိုတာ တည်မှီရာရှိမှ ဖြစ်လာရတာပါ၊ ဆီမီးတိုင်မှာရှိတဲ့ ဆီရယ်၊ မီးစာရယ်၊ မီးတောက်ရယ်ကို မှီပြီးမှ 'အရောင်'ဆိုတာ ဖြစ်ပေါ်လာတာပါ၊ ဆီ၊ မီးစာ၊ မီးတောက်တွေ မပြတ်ကုန်ခန်းနေတာကို ကြည့်လိုက်ရင် 'အရောင်'ရဲ့ မတည်မြဲတဲ့ သဘောကို သိနိုင်မှာ ဖြစ်ပါတယ်၊ သစ်မြစ်ရယ်၊ ပင်စည်ရယ်၊ အကိုင်းအခက်၊ အရွက်တွေရယ်ကို အမှီပြုပြီးမှ 'အရိပ်'ဆိုတာ ဖြစ်ရတာပါ၊ မှီရာဖြစ်တဲ့ သစ်မြစ်၊ ပင်စည်၊ အကိုင်းအခက်၊ အရွက်တွေ ပျက်စီးပြောင်းလဲတာကို သတိထားမိရင် 'အရိပ်'ရဲ့ တည်မြဲမှု မရှိတာကိုလည်း လက်ခံရမှာ ဖြစ်ပါတယ်"လို့ ဘိက္ခုနီမတွေကို ဆီမီးဥပမာ၊ သစ်ပင်ဥပမာတွေနဲ့ ရှင်းပြတော်မူခဲ့ပါတယ်။

ဒီဥပမာတွေ ပြရတာကလည်း မိမိတို့ ပုထုဇဉ်တွေ မြဲတယ်လို့ ထင်နေတဲ့ ဝေဒနာရဲ့ မမြဲတဲ့ သဘောကို ထင်ရှားစေဖို့အတွက် ပြရ

တာပါ။ ဝေဒနာ ဆိုတာ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ မနော အကြည် ဆိုတဲ့ အတွင်းအဇ္ဈတ္တိကာယတန ခြောက်ပါး၊ နောက်ပြီး အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့၊ အတွေးဓမ္မ ဆိုတဲ့ အပြင် ဗာဟိရာယတန ခြောက်ပါးနဲ့၊ မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ ထိစိတ်၊ ကြံသိစိတ် ဆိုတဲ့ ဝိညာဏ် ခြောက်ပါးတို့ရဲ့ အရိပ်၊ အရောင် အနေနဲ့ ဖြစ်လာတဲ့ သဘောပါ။

ဝေဒနာရဲ့ တည်ရာမှီရာ ဖြစ်တဲ့ ဒီအတွင်း အာယတန၊ အပြင်အာယတန၊ ဝိညာဏ်တွေ ဆိုတာ အကျဉ်းချုပ်လိုက်ရင် ရုပ်ဓာတ်၊ နာမ်ဓာတ်တွေပဲ ဖြစ်ပါတယ်။ ဒီ ရုပ်ဓာတ်၊ နာမ်ဓာတ် တွေရဲ့ ခဏတိုင်း ဖြစ်ပျက် ပြောင်းလဲနေတဲ့ သဘောကို ဉာဏ်နဲ့ သိမြင်ရင် ဒီရုပ်နာမ်တွေရဲ့ အရိပ်၊ အရောင်မျှသာ ဖြစ်တဲ့ ဝေဒနာရဲ့ မမြဲပုံ၊ ထာဝရ မတည်ရှိနိုင်ပုံကို တွေ့မြင်တော့တာပါ။

အခုလို ဝေဒနာရဲ့ မတည်မြဲပုံ ဝေဒနာနုပဿနာ ရှုပွားနည်း ကို သိလွယ်ထင်လွယ်အောင် ဥပမာတွေနဲ့ ဉာဏ်အလင်းရောင် ထွန်းညှိ ပေးတဲ့ အရှင်နန္ဒကမထေရ်မြတ်ရဲ့ အကြောင်းနဲ့ အရှင်မြတ် ဟောကြား ဆုံးမတဲ့ တရားတော်များကို ကြည်ညိုကြပါမယ်။

## (က) အရှင်မြတ် ရတဲ့ ဧတဒဂ်အဓိပ္ပာယ်

အရှင်နန္ဒကမထေရ်ဟာ သာကီဝင်မင်းသမီးတွေကနေ ရဟန်း ပြုလာကြတဲ့ ဘိက္ခုနီမ ငါးရာကို အားလုံး ရဟန္တာဖြစ်အောင် တရား ဟောနိုင်ခဲ့ပါတယ်။ အရှင်မြတ် ဟောကြားဆုံးမတဲ့ တရားတော်ကို နာယူပြီး ဒီ ဘိက္ခုနီမငါးရာ ရဟန္တာ ဖြစ်ခဲ့ကြတာပါ။ ဒါကြောင့် အရှင်မြတ်ဟာ ဘိက္ခုနီမတွေကို ဟောကြားဆုံးမ ဩဝါဒပေးတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံးလို့ အဓိပ္ပာယ်ရတဲ့ 'ဘိက္ခုနောဝါဒက ဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အရှင်မြတ်ရဲ့ အတိတ်ပါရမီနဲ့ ဆုတောင်း

အရှင်မြတ်အလောင်းဟာ ပဒုမုတ္တရဘုရားရှင် လက်ထက်တော်အခါဆီက ဟံသာဝတီမင်း နေပြည်မှာ စည်းစိမ်ဥစ္စာ ပြည့်စုံကြွယ်ဝတဲ့ သူဌေးသူကြွယ်မျိုးမှာ ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ မြတ်စွာဘုရားထံသွားပြီး တရားနာယူပါတယ်။ တစ်ခါမှာတော့ ပဒုမုတ္တရမြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို ဘိက္ခုနီမတွေကို ဆုံးမသြဝါဒပေးတဲ့ အရာ အသာဆုံး ဧတဒဂ် ချီးမြှင့်တော်မူပါတယ်။ ဒါကို အရှင်မြတ်လောင်း အမျိုးကောင်းသားက ဖူးတွေ့လိုက်ရပြီး အားကျစိတ်တွေ ဖြစ်ပေါ်လာတဲ့ အတွက် ကုသိုလ်ကောင်းမှု အကြီးအကျယ် ပြုလုပ်ကာ အဲဒီ ရဟန်းရတဲ့ ဧတဒဂ်မျိုး ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။

## (ဂ) ပစ္ဆိမဘဝဇာတ်ကြောင်း

အရှင်မြတ်လောင်းဟာ အဲဒီ ဘဝမှာရော ဘဝသံသရာ ကျင်လည်ရတဲ့ ထိုထိုဘဝတွေမှာပါ အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကုသိုလ်ကောင်းမှုတွေကို ကြိုးစား အားထုတ်ခဲ့တယ်။ ဒါကြောင့် သံသရာကျင်လည်တဲ့ အခါ လူ့ပြည်၊ နတ်ပြည်တွေမှာပဲ ကျင်လည်ခဲ့ရတယ်။ ဒီလို သံသရာကျင်လည်ရင်းက အကျွန်ုပ်တို့ ဂေါတမ မြတ်စွာဘုရားရှင် လက်ထက်တော် ရောက်လာတဲ့ အခါမှာတော့ သာဝတ္ထိပြည်မှာ အမျိုးကောင်းသား ဖြစ်လာခဲ့တယ်။ အရွယ်ရောက်တဲ့အခါ မြတ်စွာဘုရား တရားတော် နာရလို့ ကြည်ညိုသဒ္ဓါစိတ်တွေ ဖြစ်လာပြီး မြတ်စွာဘုရားထံမှာ ရဟန်းပြုလိုက်ပါတယ်။

ရဟန်းပြုပြီးတဲ့အခါ မြတ်စွာဘုရားထံကနေ ဝိပဿနာတရား အားထုတ်နည်း သင်ယူပြီး တရားအားထုတ်လိုက်တာ မကြာခင်မှာပဲ အရဟတ္တဖိုလ်ရရှိကာ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။ အရှင်နန္ဒကမထေရ်ဟာ အထူးအားဖြင့် အတိတ်ဘဝ

တွေကို ပြန်လည် မှတ်မိအောက်မေ့နိုင်တဲ့ ပုဗ္ဗေနိဝါသဉာဏ်အရာမှာ အလေ့အကျက် များခဲ့ပါတယ်။

ဒါအပြင် အရှင်မြတ်ဟာ ပရိသတ်တွေ သူ့ထံမှာ တရားနာ ရောက်လာတယ် ဆိုရင် ပရိသတ် အားလုံး စိတ်သဘောကျ ကျေနပ် အောင် ဟောနိုင်စွမ်း ရှိပါတယ်။ ဒီလို ပရိသတ်တွေရဲ့ စိတ်နှလုံးကို သိမ်းကျုံးပြီး အားလုံး နှစ်သက် သဘောကျအောင် ဟောနိုင်တဲ့ အတွက်ကြောင့် 'ဓမ္မကထိက အရှင်နန္ဒကမထေရ်'ရယ်လို့လည်း ထင်ရှား ကျော်ကြားတော်မူပါတယ်။

## အမျိုးသမီး ငါးရာ ရဟန်းဘဝ ရောက်ရှိပုံ

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ ရောဟိဏီမြစ်ရေကို အကြောင်းပြုပြီး ရန်ဖြစ်နေကြတဲ့ ကောလိယသားနဲ့ ကပိလဝတ် သားတွေ ရန်ပြေငြိမ်းအောင် ကြွရောက်ပြီး တရားဟောပါတယ်။ အဲဒီ ကောလိယသားနဲ့ ကပိလဝတ်သားတွေဆိုတာ မြတ်စွာဘုရားရှင်ရဲ့ ဆွေတော်မျိုးတော် သာကီဝင်တွေချည်းပါပဲ။ မြတ်စွာဘုရားရှင်ရဲ့ ဟောပြောမှုကြောင့် နှစ်ဖက် ရန်ပြေငြိမ်းသွားကြတဲ့ အခါ ကောလိယ တွေဘက်က သာကီဝင်မင်းသား ၂၅၀၊ ကပိလဝတ်တွေဘက်က သာကီဝင်မင်းသား ၂၅၀၊ စုစုပေါင်း သာကီဝင်မင်းသား ၅၀၀ တို့ဟာ မြတ်စွာဘုရားထံ ရဟန်းပြုခဲ့ကြပါတယ်။ ဒီ သာကီဝင်မင်းသား ရဟန်းငါးရာကို မြတ်စွာဘုရားရှင်က ကုဏာလဇာတ်ကို ဟောပြီး သောတာပန်၊ မဟာသမယသုတ်ကို ဟောပြီး အရဟတ္တဖိုလ် တည်စေ တော်မူခဲ့ပါတယ်။

ဒီလို သာကီဝင်မင်းသားတွေ ရဟန်းပြုသွားကြတာကို သူတို့ရဲ့ ဇနီးသည်တွေ ကြားသိခဲ့ကြတယ်။ ပြန်လာနိုး၊ ပြန်လာနိုး မျှော်နေခဲ့ကြတယ်။ ဒါပေမဲ့ ရဟန္တာဖြစ်သွားကြပြီ ပြန်မလာတော့ဘူး ဆိုတာ သိတာနဲ့ ဇနီးသည် သာကီဝင်မင်းသမီး ငါးရာတို့ဟာ "ငါတို့

လည်း ဒီနန်းတော်ထဲမှာ နေလို့ ဘာထူးတော့မလဲ””ဆိုပြီး အားလုံး စိတ်တူကိုယ်တူ မိထွေးတော် မဟာပဇာပတိ ဂေါတမီထံ သွားကာ ရှင်ရဟန်းပြုဖို့ တောင်းပန်ခဲ့ကြတယ်။ မင်းသမီးငါးရာလုံး မိထွေးတော် မဟာပဇာပတိ ဂေါတမီ ထေရီမကြီးထံမှာ ရှင်ရဟန်းမ အဖြစ်ကို ရခဲ့ကြတယ်။ တကယ်တော့ အရှင်နန္ဒက မထေရ်ဟာ အရင်ဘဝက ရှင်ဘုရင်ဖြစ်ခဲ့သူပါ။ ဒီ သာကီဝင်မင်းသမီးတွေက အဲဒီ ရှင်ဘုရင်ရဲ့ မိဖုရားငါးရာ ဖြစ်ခဲ့ဖူးကြတဲ့ သူတွေပါ။

## သာကီဝင်မင်းသမီး ငါးရာ သောတာပန်ဖြစ်

သာကီဝင်မင်းသမီးတွေ ဘိက္ခုနီရဟန်းမ ဖြစ်ပြီးကြတဲ့ အခါ မြတ်စွာဘုရားက ““အမျိုးသား ရဟန်းတွေက အမျိုးသမီးရဟန်းမ တွေကို ဆုံးမဩဝါဒ အလှည့်ကျ ပေးကြရမယ်””လို့ မိန့်တော်မူခဲ့ ပါတယ်။ အရှင်နန္ဒကမထေရ်ဟာ မိမိ အလှည့်ကျတဲ့ အခါ အရင်ဘဝ တုန်းက ဒီသာကီဝင်ရဟန်းမတွေဟာ မိမိရဲ့ မိဖုရားတွေ ဖြစ်ခဲ့တာကို ပုဗ္ဗေနိဝါသဉာဏ်နဲ့ မြင်တော်မူခဲ့ပါတယ်။ ဒါကြောင့် ‘ဒီရဟန်းမ တွေရဲ့ အလယ်ကောင်မှာ ထိုင်ပြီး ဥပမာ ဥပမေယျတွေ၊ အကြောင်း အကျိုးတွေနဲ့ ဆုံးမဩဝါဒပေးနေတဲ့ ငါ့ကို အခြား ပုဗ္ဗေနိဝါသ အဘိညာဉ်ရတဲ့သူတွေက ဆင်ခြင်ကြည့်လိုက်လို့ မြင်သွားခဲ့ရင် ‘ဩော်၊ အရှင်နန္ဒကဟာ ဒီနေ့အထိ မိဖုရားဟောင်းတွေကို မစွန့်လွှတ်နိုင်သေး ဘဲကိုး’လို့ ပြောဆိုကဲ့ရဲ့စရာ ဖြစ်သွားနိုင်တယ်’ ဆိုတဲ့ အကြောင်း ဆင်ခြင်တွေးတောမိခဲ့တယ်။

ဒါကြောင့် အရှင်နန္ဒကမထေရ်ဟာ သူ့အလှည့်မှာ သူ ကိုယ်တိုင် မသွားဘဲ အခြား ရဟန်းတစ်ပါးကို စေလွှတ်ခဲ့ပါတယ်။ ဒါပေမဲ့ သာကီဝင်မင်းသမီး ရဟန်းမ ငါးရာကတော့ အရှင်နန္ဒက ကိုယ်တိုင် ဟောကြားဆုံးမမယ့် ဩဝါဒတရားစကားကိုသာ မျှော်လင့် တောင့်တနေခဲ့ကြတယ်။ ဒီအကြောင်းကို မြတ်စွာဘုရား သိတော်မူတဲ့

အခါ "မိမိအလှည့်ကျလာရင် အခြားသူကို မစေလွှတ်ဘဲ မိမိကိုယ်တိုင်ပဲ သွားရောက်ပြီး ဘိက္ခုနီမတွေကို ဆုံးမဩဝါဒပေးရမယ်" လို့ အရှင်နန္ဒက မထေရ်ကို မိန့်တော်မူခဲ့ပါတယ်။ ဒီအခါ အရှင်နန္ဒကမထေရ်ဟာ မြတ်စွာဘုရားရှင်ရဲ့ အမိန့်တော်စကားကို မဖယ်ရှားဝံ့တော့ဘဲ သူ့ အလှည့်ကျတဲ့ လဆန်း ၁၄ ရက်နေ့မှာ ဘိက္ခုနီသံဃာတွေကို ဆုံးမ ဩဝါဒ ပေးတော်မူခဲ့ပါတယ်။ အရှင်မြတ်ရဲ့ အာယတန ခြောက်ပါးနဲ့ တန်ဆာဆင်ပြီး ဟောကြားဆုံးမတဲ့ တရားဒေသနာ အဆုံးမှာ သာကီဝင်မင်းသမီး ရဟန်းမငါးရာတို့ဟာ သောတာပန် ဖြစ်ခဲ့ကြ ပါတယ်။

## သာကီဝင်မင်းသမီး ရဟန်းမ ငါးရာ ရဟန္တာဖြစ်

ဒီသာကီဝင်မင်းသမီး ဘိက္ခုနီရဟန်းမတွေဟာ အရှင်နန္ဒက မထေရ်ရဲ့ ဆုံးမဩဝါဒ တရားဒေသနာတော်အပေါ် အားရနှစ်ခြိုက် ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ကြပြီး မြတ်စွာဘုရားထံ သွားရောက်ကြကာ မိမိတို့ ရရှိခဲ့တဲ့ လောကုတ္တရာ တရားထူးဂုဏ်ကို လျှောက်ထားခဲ့ကြ တယ်။ ဒီအခါ မြတ်စွာဘုရားက 'အဘယ်ပုဂ္ဂိုလ် တရားဟောရင် ဒီ သာကီဝင်မင်းသမီးတွေ အရဟတ္တဖိုလ် ရပါလိမ့်မလဲ' လို့ ဆင်ခြင် တော်မူပါတယ်။ ဆက်ပြီး 'နန္ဒကရဲ့ တရားကို နာပြီးတော့ပဲ ဒီသာကီဝင်မင်းသမီး ရဟန်းမတွေဟာ အရဟတ္တဖိုလ် ရကြမှာပဲ' လို့လည်း ဉာဏ်တော်နဲ့ မြင်တော်မူပါတယ်။ ဒါကြောင့် နောက်တစ်နေ့ လဆန်း ၁၅ ရက် လပြည့်နေ့မှာလည်း သာကီဝင်မင်းသမီး ရဟန်းမ တွေကို အရှင်နန္ဒကမထေရ်ဆီပဲ တရားနာဖို့ စေလွှတ်တော်မူခဲ့ပါတယ်။ သာကီဝင်မင်းသမီး ရဟန်းမတွေဟာ အရှင်နန္ဒကမထေရ် ဟောတဲ့ တရားကို နာယူပြီး အားလုံး ရဟန္တာထေရီမတွေ ဖြစ်ကုန်ကြတယ်။

## မြတ်စွာဘုရား သာဓုခေါ်ပြီး ဧတဒဂ် ချီးမြှင့်တော်မူ

အဲဒီ နောက်မှာလည်း သာကီဝင်မင်းသမီး ရဟန်းမတွေဟာ မြတ်စွာဘုရားထံ သွားရောက်ပြီး မိမိတို့အားလုံး အရဟတ္တဖိုလ် ရရှိကာ ရဟန္တာဖြစ်ခဲ့ကြပြီ ဖြစ်တဲ့အကြောင်း လျှောက်ထားခဲ့ကြပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က "မနေ့က ဟောတဲ့ နန္ဒကရဲ့ တရားဒေသနာဟာ ဆယ့်လေးရက်နေ့မှာ သာတဲ့ လလို ဘိက္ခုနီမတွေ အတွက် မပြည့်တပြည့် ဖြစ်ခဲ့တယ်၊ ဒီနေ့ ဟောတဲ့တရားဒေသနာ ကတော့ ဆယ့်ငါးရက် လပြည့်နေ့မှာ သာတဲ့ လပြည့်ဝန်းကြီးလို ဘိက္ခုနီမတွေအတွက် ပြည့်ပြည့်ဝဝ ဖြစ်ခဲ့ပါပြီ" လို့ မိန့်ကြားတော်မူပြီး အရှင်နန္ဒက မထေရ်ကို သာဓုခေါ် ကောင်းချီးပေးတော်မူခဲ့ပါတယ်။

အခုလို အမျိုးသမီး ဘိက္ခုနီရဟန်းမ ငါးရာကို အားလုံး တစ်ပြိုင်နက် ရဟန္တာဖြစ်အောင် ဟောကြားဆုံးမနိုင်ခဲ့တဲ့ အရှင်နန္ဒက မထေရ်ရဲ့ အတ္ထုပ္ပတ်ကို အကြောင်းပြုပြီး မြတ်စွာဘုရားရှင်ဟာ နောက်ပိုင်းကာလ တစ်ချိန်မှာ အရှင်နန္ဒကမထေရ်ကို ဘိက္ခုနီမတွေကို ဆုံးမဩဝါဒပေးတဲ့ အရာ အသာဆုံးဆိုတဲ့ 'ဘိက္ခုနောဝါဒကဧတဒဂ်' နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဃ) နန္ဒကောဝါဒသုတ် တရားတော်

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်မှာ သီတင်းသုံး နေတော်မူပါတယ်။ မိထွေးတော်ကြီး မဟာပဇာပတိဂေါတမီနဲ့ သာကီဝင်မင်းသမီး ဘိက္ခုနီရဟန်းမ ငါးရာ တို့ဟာ မြတ်စွာဘုရားထံ ရောက်လာပြီး ရဟန်းမတွေကို ဆုံးမဩဝါဒ ပေးတော်မူဖို့ တောင်းပန် လျှောက်ထားပါတယ်။ ဒီအခါ မြတ်စွာ ဘုရားက "ထေရ်ကြီးဝါကြီး ရဟန်းတွေက ဘိက္ခုနီမတွေကို အလှည့်

ကျ တရားဟော ဆုံးမသြဝါဒပေးရမယ်'' လို့ အမိန့်တော် ချမှတ်ခဲ့ပါတယ်။

အရှင်နန္ဒကမထေရ်ရဲ့ အလှည့်ကျတဲ့ အခါ အရှင်မြတ်မှာ ဘိက္ခုနီမတွေကို ဆုံးမသြဝါဒပေးလိုတဲ့ ဆန္ဒ မရှိ ဖြစ်နေခဲ့ပါတယ်။ ဒီအကြောင်းကို မြတ်စွာဘုရား သိတော်မူတဲ့ အခါ မြတ်စွာဘုရားရှင်က အရှင်နန္ဒကမထေရ်ကို ခေါ်ပြီး ဘိက္ခုနီမတွေကို ဆုံးမသြဝါဒပေးဖို့ အမိန့်တော်ချမှတ်ပါတယ်။ အရှင်မြတ်လည်း မြတ်စွာဘုရားရှင်ရဲ့ အမိန့်တော်ကို နာခံပြီး သာဝတ္ထိမြို့ထဲ ဆွမ်းခံကြွ၊ သင့်တော်တဲ့နေရာမှာ ဆွမ်းဘုဉ်းပေးကာ ဘိက္ခုနီမတွေနေတဲ့ ရာဇိကာရုံကျောင်းကို ကြွသွားတော်မူခဲ့ပါတယ်။

ရာဇိကာရုံကျောင်းရောက်တဲ့ အခါ ဘိက္ခုနီမတွေ ပြင်ထားတဲ့ နေရာမှာ သီတင်းသုံး ထိုင်တော်မူပြီး တရားဟောဖို့ အတွက် ''နှမတို့... အပြန်အလှန် မေးကြ ဖြေကြတဲ့နည်းနဲ့ တရားဟောပါမယ်၊ သိရင်လည်း သိတဲ့ အကြောင်း၊ မသိရင်လည်း မသိတဲ့ အကြောင်း ပွင့်ပွင့်လင်းလင်း ပြောကြပါ၊ မရှင်းလင်းတာတွေ၊ ယုံမှားသံသယ ဖြစ်တာတွေ ရှိခဲ့ရင်လည်း ရှင်းလင်းပြီး သံသယကင်းသွားအောင် ပြန်မေးနိုင်ပါတယ်'' လို့ အခုလို နိဒါန်းပျိုး ဖိတ်ခေါ်လိုက်ပါတယ်။

''အရှင်ဘုရား၊ အရှင်ဘုရားက အခုလို ဖိတ်ခေါ်တဲ့ စကားနဲ့ပင် တပည့်တော်တို့ အတော်လေး ဝန်းပမ်းတသာ ရှိလှပါပြီ ဘုရား'' လို့ ဘိက္ခုနီမတွေက အားရဝမ်းသာ ပြန်လည် လျှောက်ထားခဲ့ကြတယ်။

## အဇ္ဈတ္တိကာယတန ခြောက်ပါး အမေး အဖြေ တရား

ဆက်ပြီး အရှင်နန္ဒကမထေရ်က အမေး၊ အဖြေနဲ့ တရားဟောခဲ့ပါတယ်။

''နှမတို့၊ ခု ငါမေးမယ့် အကြောင်းအရာကို သင်တို့ ဘယ်လို သဘောရပါသလဲ။

မျက်စိအကြည်ရုပ်ဟာ မြဲသလား၊ မမြဲဘူးလား"

"မမြဲပါ ဘုရား"

"မမြဲတဲ့ ဒီမျက်စိအကြည်ရုပ်ဟာ ဆင်းရဲလား၊ ချမ်းသာလား"

"ဆင်းရဲပါ ဘုရား"

"မမြဲ၊ ဆင်းရဲ၊ ဖောက်ပြန်တတ်တဲ့ မျက်စိအကြည်ရုပ်ကို ဒီမျက်စိအကြည်ရုပ်ဟာ ငါ့ဥစ္စာပဲ၊ ငါပဲ၊ ငါရဲ့ အတ္တကောင်လေးပဲလို့ နှလုံးသွင်းထိုက်ပါသလား"

"မသွင်းထိုက်ပါ ဘုရား"

(အရှင်နန္ဒကမထေရ်ဟာ နားအကြည်ရုပ်၊ နှာခေါင်းအကြည်ရုပ်၊ လျှာအကြည်ရုပ်၊ ကိုယ်အကြည်ရုပ်၊ မနောဘဝင်တွေကိုလည်း မျက်စိအကြည်ရုပ် မေးသလို တစ်ခုချင်း ဆက်လက်ပြီး မေးမြန်းတော်မူခဲ့ပါတယ်။ မေးတဲ့ မေးခွန်းတိုင်းကိုလည်း ဘိက္ခုနီမတွေက မျက်စိအကြည်ရုပ်ကို ဖြေတဲ့ အတိုင်း ပြန်လည် ဖြေကြားခဲ့ကြပါတယ်။)

"နှမတို့၊ ဒီ မျက်စိအကြည်ရုပ်၊ နားအကြည်ရုပ်၊ နှာခေါင်းအကြည်ရုပ်၊ လျှာအကြည်ရုပ်၊ ကိုယ်အကြည်ရုပ်၊ ဘဝင်မနောအကြည်ဓာတ်တွေကို ဘာလို့ ငါ့ဥစ္စာပဲ၊ ငါပဲ၊ ငါ့အတ္တပဲလို့ နှလုံးမသွင်းထိုက်တာလဲ"

"အရှင်ဘုရား၊ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်နဲ့ ဘဝင်မနောအကြည်ဓာတ်တွေဟာ အတွင်း အဇ္ဈတ္တအကြောင်းတရားတွေ ဖြစ်တဲ့အတွက် အဇ္ဈတ္တိကာယတန ခြောက်ပါးလို့ ခေါ်ပါတယ် ဘုရား၊ တပည့်တော်တို့ဟာ ယခင်ကတည်းက 'ဒီ အဇ္ဈတ္တိကာယတန ခြောက်ပါးကို မမြဲတဲ့ တရားတွေ' လို့ ဝိပဿနာဉာဏ်နဲ့ ကောင်းစွာမြင်ခဲ့ပြီး ဖြစ်လို့ပါ ဘုရား"

"သာဓု သာဓု နှမတို့၊ နှမတို့၊ ဟုတ်တယ်၊ ဝိပဿနာဉာဏ်နဲ့ ဟုတ်တိုင်းမှန်စွာ ရှုမှတ်နေတဲ့ ယောဂီပုဂ္ဂိုလ်မှာ အဇ္ဈတ္တိ

ကာယတန ခြောက်ပါးဟာ သင်တို့ မြင်တဲ့ အတိုင်း မမြဲတဲ့ တရား တွေလို့ မြင်တွေ့ကြပါတယ်''

**ဗာဟိရာယတန ခြောက်ပါး အမေး အဖြေ တရား**

''နှမတို့၊ အဆင်းရူပါရုံတွေဟာ မြဲကြသလား၊ မမြဲကြ ဘူးလား''

''မမြဲကြပါ ဘုရား''

''မမြဲတဲ့ အဆင်းရူပါရုံတွေဟာ ဆင်းရဲတွေလား၊ ချမ်းသာ တွေလား''

''ဆင်းရဲတွေပါ ဘုရား''

''မမြဲ၊ ဆင်းရဲ၊ ဖောက်ပြန်ပျက်စီးတတ်တဲ့ အဆင်းရူပါရုံ တွေကို ဒီ အဆင်းရူပါရုံတွေဟာ ငါ့ဥစ္စာပဲ၊ ငါပဲ၊ ငါ့အတ္တပဲလို့ နှလုံးသွင်းထိုက်ပါသလား''

''မသွင်းထိုက်ပါ ဘုရား''

(ဆက်ပြီး အရှင်နန္ဒကမထေရ်က အသံသဒ္ဒါရုံ၊ အနံ့ဂန္ဓာရုံ၊ အရသာ ရသာရုံ၊ အတွေ့အထိ ဖောဋ္ဌဗ္ဗာရုံနဲ့ စိတ်ထဲထင်လာတဲ့ ဓမ္မသဘော အာရုံတွေကိုလည်း တစ်ခုချင်းစီ မေးခဲ့ပါတယ်။ မေးတဲ့ မေးခွန်းတိုင်းကိုလည်း ဘိက္ခုနီမတွေက ရူပါရုံတုန်းက ဖြေတဲ့အတိုင်း ဖြေခဲ့ကြတယ်။)

''နှမတို့၊ ဒီ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံနဲ့ စိတ်ထဲ ထင်လာတဲ့ ဓမ္မသဘော အာရုံတွေကို ဘာကြောင့် ငါ့ဥစ္စာပဲ၊ ငါပဲ၊ ငါ့အတ္တပဲလို့ နှလုံးမသွင်းထိုက်တာလဲ''

''အရှင်ဘုရား၊ ဒီ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံနဲ့ ဓမ္မသဘော အာရုံတွေကို အပြင်အကြောင်းတရားတွေ ဖြစ်တဲ့ အတွက် ဗာဟိရာယတန ခြောက်ပါးလို့ ခေါ်ပါတယ် ဘုရား၊ တပည့်တော်တို့ဟာ ယခင်ကတည်းက ဒီ ဗာဟိရာယတန ခြောက်ပါးကို

မမြဲတဲ့ တရားတွေလို့ ဝိပဿနာဉာဏ်နဲ့ ကောင်းစွာ မြင်ခဲ့ပြီး ဖြစ်လို့ပါ ဘုရား''

''သာဓု သာဓု နှမတို့၊ နှမတို့၊ ဟုတ်တယ်၊ ဝိပဿနာ ဉာဏ်နဲ့ ဟုတ်တိုင်းမှန်စွာ ရှုမှတ်နေတဲ့ ယောဂီပုဂ္ဂိုလ်မှာ ဗာဟိရာယတန ခြောက်ပါးဟာ သင်တို့ မြင်တဲ့ အတိုင်း မမြဲတဲ့ တရားတွေလို့ မြင်တွေ့ ကြပါတယ်''

## ဝိညာဏ် ခြောက်ပါး အမေး အဖြေ တရား

''နှမတို့၊ ခု ငါမေးမယ့် အကြောင်းအရာကို သင်တို့ ဘယ်လို သဘောရပါသလဲ။

မြင်စိတ်ဟာ မြဲသလား၊ မမြဲဘူးလား''

''မမြဲပါ ဘုရား''

''မမြဲတဲ့ မြင်စိတ်ဟာ ဆင်းရဲလား၊ ချမ်းသာလား''

''ဆင်းရဲပါ ဘုရား''

''မမြဲ၊ ဆင်းရဲ၊ ဖောက်ပြန်တတ်တဲ့ သဘောရှိတဲ့ ဒီ မြင်စိတ် ကို ဒီမြင်စိတ်ဟာ ငါ့ဥစ္စာပဲ၊ ငါပဲ၊ ငါ့အတ္တပဲလို့ နှလုံးသွင်း ထိုက်ပါသလား''

''မသွင်းထိုက်ပါ ဘုရား''

(ဆက်ပြီး အရှင်နန္ဒကမထေရ်က ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ ထိစိတ်နဲ့ ကြံသိစိတ်တွေကို တစ်ခုချင်းစီ မေးမြန်းခဲ့ပါတယ်။ မေးတဲ့ မေးခွန်းတိုင်းကို ဘိက္ခုနီမတွေက မြင်စိတ်တုန်းက အတိုင်း ဖြေဆိုခဲ့ကြ ပါတယ်။)

''နှမတို့… ဒီမြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ ထိစိတ်နဲ့ တွေးကြံသိစိတ်တွေကို ဘာလို့ ငါ့ဥစ္စာပဲ၊ ငါပဲ၊ ငါ့အတ္တပဲလို့ နှလုံးမသွင်းထိုက်တာလဲ''

"အရှင်ဘုရား... ဒီ မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ ထိစိတ်နဲ့ တွေးကြံသိစိတ်တွေကို ဝိညာဏ် ခြောက်ပါးလို့ ခေါ်ပါတယ် ဘုရား၊ တပည့်တော်တို့ဟာ ယခင်ကတည်းက ဒီဝိညာဏ် ခြောက်ပါးကို မမြဲတဲ့ တရားတွေလို့ ဝိပဿနာဉာဏ်နဲ့ ကောင်းစွာ မြင်ခဲ့ပြီး ဖြစ်လို့ပါ ဘုရား"

"သာဓု သာဓု နန္ဒမာတို့၊ နန္ဒမာတို့... ဟုတ်တယ်၊ ဝိပဿနာ ဉာဏ်နဲ့ ဟုတ်တိုင်းမှန်စွာ ရှုမှတ်နေတဲ့ ယောဂီပုဂ္ဂိုလ်မှာ ဝိညာဏ် ခြောက်ပါးဟာ သင်တို့ မြင်တဲ့ အတိုင်း မမြဲတဲ့တရားတွေလို့ မြင်တွေ့ ကြပါတယ်"

## ဆီမီး ဥပမာ

"နန္ဒမာတို့၊ ဥပမာ၊ မီးညှိထွန်းတဲ့ ဆီမီးမှာ ဆီလည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်၊ မီးစာလည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်၊ မီးတောက်လည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်၊ မီးရောင်လည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်။

ဒါကို တစ်စုံတစ်ယောက်က ဒီဆီမီးမှာ ဆီလည်း မမြဲဘူး၊ မီးစာလည်း မမြဲဘူး၊ မီးတောက် လည်း မမြဲဘူး၊ ဒါပေမဲ့ ဒီဆီမီးရဲ့ မီးရောင်ကတော့ မြဲတယ်၊ ခိုင်ခံ့တယ်၊ အမြဲရှိတယ်၊ ဖောက်ပြန်တဲ့ သဘော မရှိဘူးလို့ ပြောလာခဲ့မယ် ဆိုရင် အဲဒီ လူရဲ့ အပြောဟာ မှန်ကန်တဲ့ အပြော ဖြစ်နိုင်ပါ့မလား"

"အရှင်ဘုရား၊ မဖြစ်နိုင်ပါ ဘုရား"

"ဘာကြောင့်လဲ"

"အရှင်ဘုရား၊ ညှိထွန်းတဲ့ ဆီမီးမှာ ဆီလည်း မမြဲ၊ မီးစာလည်း မမြဲ၊ မီးတောက်လည်း မမြဲမှတော့ ဒီဆီမီးရဲ့ မီးရောင်ဟာ ဘယ်လိုလုပ် မြဲနိုင်မလဲ ဘုရား၊ ဒါကြောင့် အဲဒီလူရဲ့ အပြောဟာ မှန်တဲ့ အပြော မဖြစ်နိုင်ပါ ဘုရား"

“နှမတို့… ဒီအတူပဲ တစ်စုံတစ်ယောက်က မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်နဲ့ ဘဝင်မနောအကြည် ဆိုတဲ့ ဒီ အဇ္ဈတ္တိကာယတန ခြောက်မျိုးဟာ မမြဲဘူး၊ ဒီ မမြဲတဲ့ အဇ္ဈတ္တိကာယတန ခြောက်မျိုးကို အကြောင်းခံပြီး ဖြစ်လာရတဲ့ ခံစားမှု သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာတွေကတော့ မြဲတယ်၊ ခိုင်ခံ့တယ်၊ ထာဝရရှိတယ်၊ ဖောက်ပြန်ပြောင်းလဲမှု မရှိဘူးလို့ ပြောလာခဲ့မယ် ဆိုရင် အဲဒီ လူရဲ့ အပြောကရော မှန်ကန်တဲ့ အပြော ဖြစ်နိုင်ပါ့မလား”

“အရှင်ဘုရား… မဖြစ်နိုင်ပါ ဘုရား”

“ဘာကြောင့်လဲ”

“အရှင်ဘုရား၊ ခံစားမှု ဝေဒနာအမျိုးမျိုး ဆိုတာ ဆိုင်ရာ ဆိုင်ရာ အကြောင်းတရားတွေကို အကြောင်းခံပြီးမှ ဖြစ်လာကြတာပါ ဘုရား၊ ဆိုင်ရာ ဆိုင်ရာ အကြောင်းတရားတွေ ချုပ်ပျက်မှတော့ အကျိုးတရားအနေနဲ့ ပေါ်လာရတဲ့ ခံစားမှု ဝေဒနာတွေလည်း ချုပ်ပျက်ကြတာပါပဲ ဘုရား၊ ဒါကြောင့် အဲဒီ လူရဲ့ အပြောဟာ မှန်ကန်တဲ့ အပြော မဖြစ်နိုင်ပါ ဘုရား”

“သာဓု သာဓု နှမတို့၊ နှမတို့… ဟုတ်တယ်၊ ဝိပဿနာ ဉာဏ်နဲ့ ဟုတ်တိုင်းမှန်စွာ ရှုမှတ်နေတဲ့ ယောဂီပုဂ္ဂိုလ်မှာ အဇ္ဈတ္တိကာယတန ခြောက်ပါးကို မှီပြီး ဖြစ်ပေါ်လာတဲ့ ဝေဒနာတွေကို သင်တို့ မြင်တဲ့ အတိုင်း မမြဲတဲ့ တရားတွေလို့ မြင်တွေ့ကြပါတယ်”

## သစ်ပင် ဥပမာ

“နှမတို့၊ နောက်ထပ် ဥပမာတစ်ခု ပြောပြဦးမယ်”

“နှမတို့၊ အနှစ်လည်း ရှိ၊ ရှင်လည်း ရှင်သန်ဆဲ သစ်ပင်ကြီးမှာ အမြစ်လည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်၊ ပင်စည်လည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်၊ အခက်၊ အရွက်တွေလည်း

မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်၊ သစ်ပင်ရဲ့ အရိပ်ဟာလည်း မမြဲ၊ ဖောက်ပြန်တဲ့ သဘော ရှိတယ်။

ဒါကို တစ်စုံတစ်ယောက်က သစ်ပင်ကြီးမှာ အမြစ်လည်း မမြဲ၊ ပင်စည်လည်း မမြဲ၊ အခက်၊ အရွက်တွေလည်း မမြဲ၊ ဒါပေမဲ့ ဒီသစ်ပင်ကြီးရဲ့ အရိပ်ကတော့ မြဲတယ်၊ ခိုင်ခံ့တယ်၊ ထာဝရရှိတယ်၊ ဖောက်ပြန်တဲ့ သဘော မရှိဘူးလို့ ပြောလာခဲ့ရင်ရော သူ့ရဲ့ အပြောဟာ မှန်ကန်တဲ့ အပြော ဖြစ်နိုင်ပါ့မလား''

''အရှင်ဘုရား၊ မဖြစ်နိုင်ပါ ဘုရား''

''ဘာကြောင့်လဲ''

''အရှင်ဘုရား၊ ဒီသစ်ပင်ကြီးရဲ့ အမြစ်ကလည်း မမြဲ၊ ပင်စည်ကလည်း မမြဲ၊ အခက်၊ အရွက်တွေကလည်း မမြဲမှတော့ သူ့ရဲ့ အရိပ်က ဘယ်လိုလုပ် မြဲနိုင်မလဲ ဘုရား၊ ဒါကြောင့် အဲဒီ လူရဲ့ အပြောဟာ မှန်ကန်တဲ့ အပြော မဖြစ်နိုင်ပါ ဘုရား''

''နှမတို့၊ ဒီ့အတူပဲ တစ်စုံတစ်ယောက်က ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံနဲ့ အတွေးအကြံ ဓမ္မသဘောအာရုံ ဆိုတဲ့ အာရုံ ခြောက်မျိုးကို ဗာဟိရာယတန ခြောက်မျိုးလို့ ခေါ်တယ်၊ ဒီ ဗာဟိရာ ယတန ခြောက်မျိုးဟာ မမြဲတဲ့ အရာတွေ ဖြစ်တယ်၊ ဒီမမြဲတဲ့ ဗာဟိရာယတန ခြောက်မျိုးကို အကြောင်းခံပြီး ဖြစ်ပေါ်လာတဲ့ ခံစားမှု သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာတွေကတော့ မြဲတယ်၊ ခိုင်ခံ့တယ်၊ ထာဝရတည်ရှိတယ်၊ ဖောက်ပြန်တဲ့ သဘော မရှိဘူးလို့ ပြောလာခဲ့ရင်ရော သူ့ရဲ့ အပြောက မှန်ကန်တဲ့ အပြော ဖြစ်နိုင်ပါ့မလား''

''အရှင်ဘုရား၊ မဖြစ်နိုင်ပါ ဘုရား''

''ဘာကြောင့်လဲ''

''အရှင်ဘုရား၊ ခံစားမှု ဝေဒနာအမျိုးမျိုး ဆိုတာ ဆိုင်ရာ ဆိုင်ရာ အကြောင်းအမျိုးမျိုးကို အကြောင်းခံပြီးမှ ဖြစ်လာကြတာပါ ဘုရား၊ ဆိုင်ရာ ဆိုင်ရာ အကြောင်းတွေ ချုပ်ပျက်မှတော့ အကျိုး

တရားအနေနဲ့ ဖြစ်ပေါ်လာကြတဲ့ ခံစားမှု ဝေဒနာအမျိုးမျိုးဟာလည်း ချုပ်ပျက်တော့တာပါပဲ ဘုရား၊ ဒါကြောင့် အဲဒီ လူရဲ့ အပြောဟာ မှန်ကန်တဲ့ အပြော မဖြစ်နိုင်ပါ ဘုရား"

"သာဓု သာဓု နှမတို့၊ နှမတို့… ဟုတ်တယ်၊ ဝိပဿနာ ဉာဏ်နဲ့ ဟုတ်တိုင်းမှန်စွာ ရှုမှတ်နေတဲ့ ယောဂီပုဂ္ဂိုလ်မှာ ဗာဟိရာယတန ခြောက်ပါးကိုမှီပြီး ဖြစ်ပေါ်လာတဲ့ ဝေဒနာတွေကို သင်တို့ မြင်တဲ့ အတိုင်း မမြဲတဲ့ တရားတွေလို့ မြင်တွေ့ကြပါတယ်"

**နွားမ ဥပမာ**

"နှမတို့၊ နောက်ထပ် ဥပမာတစ်ခု ပြောပြပါဦးမယ်။

နှမတို့၊ ကျွမ်းကျင်တဲ့ နွားသတ်သမား၊ ဒါမှမဟုတ် နွားသတ်သမားရဲ့ တပည့်ဟာ နွားမကို သတ်လိုက်တယ်၊ ပြီးတဲ့ အခါ အလွန်ထက်တဲ့ သားလှီးဓားနဲ့ နွားမရဲ့ အတွင်းပိုင်းက အသားစိုင် တွေကိုလည်း ပုံမပျက် မထိခိုက်အောင်၊ အပေါ်က နွားသားရေကို လည်း ပင်ကိုအတိုင်း မပျက်စီး မထိခိုက်အောင် သတိထားပြီး အသားနဲ့ အရေခွံကြားမှာ ရှိနေတဲ့ အကြောတွေ၊ အမြွေးတွေကို လှီးထုတ်လိုက်တယ်၊ ပြီးတဲ့ အခါ လှီးထုတ်ထားတဲ့ အပေါ်အရေခွံနဲ့ နွားမကို ပြန်ဖုံးအုပ်လိုက်ပြီး 'ဒီနွားမဟာ ဒီအရေခွံနဲ့ အရင်တုန်းကလို ဆက်စပ်နေတုံးပဲ'လို့ ပြောလိုက်တယ်၊ နှမတို့၊ သူ့ရဲ့အပြောဟာ မှန်ကန်တဲ့ အပြော ဖြစ်နိုင်ပါ့မလား"

"အရှင်ဘုရား၊ မဖြစ်နိုင်ပါ"

"ဘာကြောင့်လဲ"

"အရှင်ဘုရား၊ ဒီနွားသတ်သမား၊ ဒါမှမဟုတ် နွားသတ် သမားရဲ့ တပည့်ဟာ နွားမကို သတ်ပြီး အသားနဲ့ အရေခွံကြားမှာ ရှိတဲ့ အကြောတွေ၊ အမြွေးတွေကို အကုန်လုံး သားလှီးဓားနဲ့ ဖြတ်တောက် လှီးထုတ်လိုက်မှတော့ ဘယ်လိုလုပ် ဒီနွားမဟာ သူ့ရဲ့

အပေါ်အရေခွံနဲ့ နဂိုတုန်းကလို ဆက်စပ်နေတုန်းပဲလို့ ပြောလို့ရမှာလဲ ဘုရား၊ ဒါကြောင့် သူ့ရဲ့ အပြောဟာ မှန်ကန်တဲ့ အပြော မဖြစ်နိုင်ပါ ဘုရား”

“နှမတို့၊ အဓိပ္ပာယ်ပေါ်လွင်စေချင်လို့ ဒီဥပမာကို ပြောတာပါ၊ ဆိုလိုချင်တဲ့ အဓိပ္ပာယ်ကတော့ အဇ္ဈတ္တိကာယတန ခြောက်မျိုးက နွားမရဲ့ အတွင်းပိုင်း အသားနဲ့ တူပါတယ်၊ ဗာဟိရာယတန ခြောက်မျိုးက နွားမရဲ့ အပေါ်အရေခွံနဲ့ တူပါတယ်၊ တဏှာရာဂကတော့ အတွင်းပိုင်း အသားနဲ့ အရေခွံကို ဆက်စပ်ထားတဲ့ အကြောတွေ၊ အမြှေးတွေနဲ့ တူပါတယ်။

အရိယာပုဂ္ဂိုလ်ဟာ ဝိပဿနာဉာဏ်နဲ့ အဇ္ဈတ္တိကာယတန ခြောက်ပါး၊ ဗာဟိရာယတန ခြောက်ပါးတို့ရဲ့ မမြဲ၊ ဆင်းရဲ၊ အစိုးမရပုံကို အမြဲ မပြတ် ရှုတ်မှတ်ပွားများ အားထုတ်နေရင် မဂ်ဉာဏ် ဖြစ်ပေါ်လာပါတယ်၊ အဲဒီ မဂ်ဉာဏ် ဖြစ်ပေါ်လာရင် အတွင်းအာယတန ခြောက်မျိုးနဲ့ အပြင်အာယတန ခြောက်မျိုးကို ဆက်စပ်ပြီး ဖြစ်နေတဲ့ တဏှာရာဂကို အကြွင်းမဲ့ ပယ်သတ်နိုင်ပါပြီ၊ ဒါကြောင့် မဂ်ဉာဏ်ဆိုတာ သားလှီးဓားနဲ့ တူပါတယ်။

နှမတို့… ဒီမဂ်ဉာဏ်နဲ့ တဏှာရာဂ စတဲ့ ကိလေသာတွေကို အမြစ်ပြတ် ပယ်သတ်ဖို့ ဆိုရင် ဉာဏ်တစ်မျိုးတည်းနဲ့ မစွမ်းဆောင်နိုင်ပါဘူး၊ သတိ၊ ဝီရိယ၊ ပီတိ၊ ပဿဒ္ဓိ၊ သမာဓိ၊ ဥပေက္ခာ ဆိုတဲ့ ကျန်တဲ့ ဗောဇ္ဈင်တွေ ဝန်းရံပေးမှ ရနိုင်တာမျိုးပါ၊ ဒါကြောင့် ပညာဉာဏ် ဆိုတဲ့ ဓမ္မဝိစယသမ္ဗောဇ္ဈင် ဖြစ်ပေါ်လာအောင် ကျန်တဲ့ ဗောဇ္ဈင်တွေနဲ့ ဝန်းရံပြီး ဗောဇ္ဈင် ခုနစ်ပါးလုံးကို အမြဲ မပြတ် ပွားနေရမှာ ဖြစ်ပါတယ်၊ အဲဒီလို ဗောဇ္ဈင် ခုနစ်ပါးကို အမြဲ မပြတ် ဖြစ်ပွားအောင် ပွားများအားထုတ်နေရင် မဂ်ဉာဏ်နဲ့ တဏှာရာဂ စတဲ့ ကိလေသာတွေကို အပြတ်ရှင်းထုတ်နိုင်ပြီး ဒီဘဝမှာတင် ကိလေသာ အာသဝေါကုန်ခန်းတဲ့ ရဟန္တာ ဖြစ်နိုင်ပါတယ်”

အရှင်နန္ဒကမထေရ်ဟာ အခုလို ဆီမီးဥပမာ၊ သစ်ပင် ဥပမာ၊ နွားမဥပမာတွေနဲ့ ဝေဝေဆာဆာ တန်ဆာဆင်ပြီး တရား ဒေသနာကို ဟောကြားခဲ့ပါတယ်။ ဒီအခါ မိထွေးတော် မဟာပဇာပတိ ဂေါတမီ အမှူးပြုတဲ့ သာကီဝင်မင်းသမီး ဘိက္ခုနီမ ငါးရာတို့ဟာ အရှင်မြတ်ရဲ့ တရားဒေသနာအပေါ် နှစ်သက် ဝမ်းမြောက်ခဲ့ကြတယ်။ မြတ်စွာဘုရား အထံလည်း သွားရောက်ကာ တရားနာရတာ နှစ်သက် သဘောကျ ကျေနပ်တဲ့ အကြောင်း လျှောက်ထားခဲ့ကြတယ်။

ဘိက္ခုနီမတွေ ပြန်သွားတဲ့ အခါ မြတ်စွာဘုရားက ရဟန်းတော်တွေကို "ရဟန်းတို့… ဆယ့်လေးရက်နေ့မှာ သာတဲ့ လဟာ ပြည့်ပြည့်ဝဝ ရှိသလား၊ မရှိဘူးလား ဆိုတာ လူတိုင်းမှာ သံသယ မရှိပါဘူး၊ ပြည့်ပြည့်ဝဝ မရှိသေးဘူး ဆိုတာ လူတိုင်း သိကြတာပဲ၊ ဒီဥပမာလိုပဲ ဒီဘိက္ခုနီမတွေဟာ နန္ဒကရဲ့ တရားဒေသနာ အပေါ်မှာ နှစ်သက်ဝမ်းမြောက်မှုတော့ ရှိခဲ့ကြတယ်၊ ဒါပေမဲ့ ပြည့်ပြည့်ဝဝ ကျေနပ်မှုတော့ မရှိသေးဘူး"လို့ မိန့်တော်မူခဲ့ပါတယ်။

အခုလို ဘိက္ခုနီတွေမှာ အရှင်နန္ဒကရဲ့ တရားဒေသနာကို နာရတာ အပြည့်အဝ နှစ်သက် ကျေနပ်မှု မရသေးတာကို သိရှိတော်မူတဲ့ အတွက် မြတ်စွာဘုရားရှင်ဟာ နောက် လဆန်း ၁၅ ရက် လပြည့်နေ့မှာလည်း ဘိက္ခုနီမတွေကို တရားဟော ဆုံးမဖို့ရန်အတွက် အရှင်နန္ဒကမထေရ်ကိုပဲ တာဝန်ပေးတော်မူခဲ့ပြန်ပါတယ်။

ဒီအခါ အရှင်နန္ဒကမထေရ်လည်း အရင် ၁၄ ရက်နေ့က ဟောတဲ့ တရားဒေသနာကိုပဲ ထပ်ပြီး ပြန်လည် ဟောကြားခဲ့ပါတယ်။ ဒီတစ်ကြိမ်မှာတော့ ဘိက္ခုနီမတွေဟာ အရှင်မြတ်ရဲ့ တရားတော် အပေါ် အပြည့်အဝ နှစ်သက်ကျေနပ်ခဲ့ကြပါတယ်။ သူတို့ လိုချင်တဲ့ လောကုတ္တရာ တရားထူး တရားမြတ်တွေလည်း အားလုံး ရကုန်ကြပါ တယ်။ တရားပွဲပြီးတဲ့ အခါမှာလည်း မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာရတာ အလွန် နှစ်သက် ဝမ်းမြောက်ဝမ်းသာ ဖြစ်ရတဲ့

အကြောင်းနဲ့ စိတ်ဆန္ဒ အကြံအစည်တွေ ပြည့်ဝခဲ့ပြီ ဖြစ်တဲ့အကြောင်း လျှောက်ထားခဲ့ကြပါတယ်။

ဘိက္ခုနီမတွေ ပြန်သွားပြီးတဲ့ အခါ မြတ်စွာဘုရားရှင်က ရဟန်းတော်များကို ‘‘ရဟန်းတို့… လဆန်း ဆယ့်ငါးရက် လပြည့်နေ့မှာ သာတဲ့ လဟာ ဝိုင်းစက်ပြည့်ဝနေတယ် ဆိုတာ လူတိုင်းမှာ သံသယ မရှိသလို ခုလည်းပဲ ဒီ ဘိက္ခုနီမတွေဟာ နန္ဒကရဲ့ တရားဒေသနာကို နာကြားရတဲ့ အတွက် သူတို့ရဲ့ စိတ်ဆန္ဒ အကြံအစည်တွေ ပြည့်ဝ သွားကြပြီ’’လို့ မိန့်ကြားတော်မူခဲ့ပါတယ်။

## အရှင်မြတ် မိန့်ကြားတဲ့ တရားဂါထာများ

တစ်နေ့မှာတော့ အရှင်နန္ဒကမထေရ်ဟာ သာဝတ္ထိမြို့ထဲ ဆွမ်းခံကြွပါတယ်။ ဒီအခါ လှူဘဝတုန်းက ဇနီးဟောင်း အမျိုးသမီးက ကိလေသာမကင်းတဲ့၊ တပ်မက်မောတဲ့ အမူအရာနဲ့ ကြည့်ပြီး ပြုံးရယ်ပြပါတယ်။ ဒီအခါ အရှင်မြတ်ဟာ ဒီအမျိုးသမီးရဲ့ အမူအရာကို ကြည့်ပြီး ခန္ဓာကိုယ်ရဲ့ စက်ဆုပ်ရွံရှာဖွယ်သဘောကို အဦးအစထား ဖော်ပြထားတဲ့ ဂါထာ လေးဂါထာနဲ့ တရားစကား မိန့်ကြားခဲ့ပါတယ်။

၁။ ‘‘ခန္ဓာကိုယ် ဆိုတာ အလွန် စက်ဆုပ်ရွံရှာဖွယ်ရာ ဖြစ်ပါတယ်၊ ခန္ဓာကိုယ်ဟာ စက်ဆုပ်ဖွယ် ပိုးအမျိုးမျိုးနဲ့ရော ရွံရှာဖွယ် မျိုးစုံနဲ့ပါ ပြည့်နေတာပါ၊ ဒီလို ရွံရှာဖွယ် အပုပ်တွေနဲ့ ပြည့်နေတဲ့ အတွက်ကြောင့် အနံ့ကလည်း လုံးဝ မကောင်းပါဘူး၊ ဉာဏ်အမြင် ကန်းနေတဲ့ အန္ဓပုထုဇဉ်တွေ အတွက် တပ်မက်မှု ကိလေသာ ဖြစ်စေနိုင်တာကြောင့် ကိလေသာ မာရ်ရဲ့ အသင်းဝင် ခန္ဓာလို့ ဆိုနိုင်ပါတယ်၊ နောက်ပြီး ကိလေသာမိုးရေတွေ အမြဲတမ်း စိုစွတ်နေတဲ့ ခန္ဓာ၊ ကိုးပေါက်ဒွါရ အမာဝတွေကနေ အပုပ်ရည်တွေလည်း အမြဲ ယိုစီးနေတဲ့ ခန္ဓာ ဖြစ်ပါတယ်။

၂။ သင်ဟာ ငါ့ကို အရင်တုန်းကလို ကိလေသာနဲ့ တပ်မက်တတ်သူလို့ မထင်ပါတော့နဲ့၊ အရိယာသူတော်ကောင်းတွေအပေါ်မှာ မထီမဲ့မြင် မတွေးကြံပါနဲ့၊ အရိယာပုဂ္ဂိုလ်တွေဆိုတာ နတ်တွေ၊ ဗြဟ္မာတွေရဲ့ ချမ်းသာကိုတောင် မမက်မောကြတော့ပါဘူး၊ မစင်စုနဲ့တူတဲ့ လူတွေရဲ့ ကာမဂုဏ်ချမ်းသာအပေါ်မှာတော့ ဘယ်မှာ မက်မောတပ်မက်ပါတော့မလဲ။

၃။ လောကမှာ မိုက်မဲတဲ့သူတွေ၊ အသိဉာဏ်ကင်းမဲ့သူတွေ၊ အသုဘကို သုဘလို့ တွေးကြံဆနေသူတွေ၊ မောဟအမိုက်မှောင် ဖုံးလွှမ်းနေသူတွေ ရှိကြပါတယ်၊ အဲဒီလိုလူတွေကသာ ဒီစက်ဆုပ်ဖွယ်ရာကောင်းတဲ့ ခန္ဓာကျော့ကွင်းမှာ မက်မက်မောမော ဖြစ်နေကြတာပါ။

၄။ ရာဂ၊ ဒေါသ၊ မောဟတွေကို မဂ်ဉာဏ်နဲ့ ပယ်သတ်ပြီးလို့ တဏှာအနှောင်အဖွဲ့ မရှိကြတော့တဲ့ အရိယာသူတော်စင်တွေကတော့ စက်ဆုပ်ဖွယ်ရာ ခန္ဓာကိုယ်အပေါ်မှာ မမက်မော မတပ်မက်ကြတော့ပါ”

အရှင်နန္ဒကမထေရ်ဟာ အခုလို တရားစကား မိန့်ကြားပြီး ဆွမ်းခံ ဆက်ကြွသွားပါတော့တယ်။



**ဘဝအမြင် နှစ်မျိုး**

ဘဝဆိုတာ ရုပ်နာမ် ခန္ဓာတွေနဲ့ ဖွဲ့စည်းထားတဲ့ ဓမ္မအစုအဝေး၊ ဓမ္မဖြစ်စဉ် သက်သက်ပဲ ဖြစ်ပါတယ်။ ဒါပေမဲ့ ဘဝကို ကြည့်တဲ့ အခါ ရုပ်နာမ် ခန္ဓာတွေရဲ့ အစုအဝေးလို့ မြင်တဲ့သူ ရှိသလို ပုဂ္ဂိုလ် သတ္တဝါအနေနဲ့ မြင်သူလည်း ရှိပါတယ်။

ဒီအမြင် နှစ်မျိုးထဲမှာ ရုပ်နာမ်ခန္ဓာတွေရဲ့ အစုအဝေးလို့ မြင်တဲ့ အမြင်က 'ပရမတ္ထသစ္စာ' အမြင် ဖြစ်ပြီး ပုဂ္ဂိုလ်သတ္တဝါလို့ မြင်တဲ့ အမြင်က 'သမုတိသစ္စာ' အမြင် ဖြစ်ပါတယ်။ မြင်စရာ မြင်ထောင့်အနေနဲ့ နှစ်မျိုးနှစ်စား ကွဲပြားနေပေမယ့် မြင်စရာကတော့ တစ်မျိုးတည်းပါပဲ။ အဲဒီ တစ်မျိုးတည်းဆိုတာ ဘဝဆိုတဲ့ ရုပ်နာမ် ခန္ဓာအစုအဝေးပဲ ဖြစ်ပါတယ်။

ဘဝကို သမုတိသစ္စာ မြင်ထောင့်ကနေ ကြည့်ရင် ပုဂ္ဂိုလ် သတ္တဝါအနေနဲ့ မြင်ပါတယ်၊ ရုပ် နာမ် ခန္ဓာလို့ မမြင်ပါဘူး။ ဒီအမြင် ကို 'ပညတ်' အမြင်လို့လည်း ခေါ်ကြတယ်။ 'ပပဉ္စမျက်စိ' လို့လည်း သတ်မှတ်ကြတယ်။ 'ပပဉ္စမျက်စိ' ဆိုတာ တဏှာမျက်စိ၊ မာနမျက်စိနဲ့ ဒိဋ္ဌိမျက်စိတွေ ဖြစ်ပါတယ်။ ဘဝကို တဏှာမျက်စိနဲ့ ကြည့်တဲ့ အခါ လိုချင်စရာ၊ တပ်မက်စရာ၊ နှစ်သက်စရာ၊ မြတ်နိုးစရာ ဖြစ်တယ်၊ မာနမျက်စိနဲ့ ကြည့်တဲ့ အခါ မာန်ဝင့်စရာ၊ မာန်တက်စရာ ဖြစ်တယ်၊ ဒိဋ္ဌိမျက်စိနဲ့ ကြည့်တဲ့ အခါ အားကိုးစရာ၊ ထာဝရတည်ရှိမယ့်အရာလို့ မြင်တယ်။ ဒါကြောင့် လူတွေဟာ ကိုယ့်ဘဝကို တပ်မက်နေကြတာပါ၊ ကိုယ့်ဘဝနဲ့ ပတ်သက်လာရင် မာန်တက်နေကြတာပါ၊ ကိုယ့်ဘဝကို အားကိုးနေကြတာပါ။

ပရမတ္ထသစ္စာမြင်ထောင့်နဲ့ ကြည့်လိုက်တဲ့ အခါမှာတော့ ဘဝဆိုတာ ပုဂ္ဂိုလ်သတ္တဝါအနေနဲ့ ရှာလို့ မတွေ့တော့ပါဘူး၊ ရုပ်နာမ် ခန္ဓာတွေရဲ့ အစုအဝေး၊ ကြောင်းကျိုးဆက် ဓမ္မဖြစ်စဉ်သက်သက် အနေနဲ့ပဲ တွေ့ရတော့တာပါ။ ဒီအမြင်ကို 'ပရမတ်အမြင်' လို့ အတိုချုပ် ခေါ်ပါတယ်၊ 'ယထာဘူတ အမြင်'၊ 'ဝိပဿနာအမြင်' လို့လည်း သတ်မှတ်ကြပါတယ်။ ဒီမြင်ထောင့်နဲ့ ကြည့်လိုက်တဲ့အခါ ရုပ်နာမ်ခန္ဓာ အနေနဲ့ပဲ မြင်တာမို့ အမြဲတစေ ခဏတိုင်း ခဏတိုင်း ဖြစ်ပြီး ပျက်နေတာတွေချည်း တွေ့ရမှာ ဖြစ်ပါတယ်။ သြော်… ဘဝ ဆိုတာ ထာဝရတည်မြဲတဲ့ အရာမှ မဟုတ်ဘဲ၊ ခဏတိုင်း ခဏတိုင်း ဖြစ်လိုက်

ပျက်လိုက် ဖြစ်နေတဲ့ ရုပ်နာမ်ခန္ဓာ ဖြစ်စဉ်သက်သက်ပဲ ဆိုတာ ကိုယ်တိုင် တွေ့လာမှာ ဖြစ်ပါတယ်။

ဒီလို မြင်လာတဲ့ အခါ ဘဝအပေါ်မှာ တဏှာနဲ့ 'မက်မောစရာ' လို့လည်း မစွဲလမ်းတော့ဘူး၊ မာနနဲ့ 'မာန်ဝင့်စရာ' လို့လည်း မထင်တော့ဘူး၊ ဒိဋ္ဌိနဲ့ 'အားကိုးစရာ' လို့လည်း မမြင်တော့ပါဘူး။ တဏှာ၊ မာန၊ ဒိဋ္ဌိ ဆိုတဲ့ ပပဉ္စတရားတွေ ကင်းနေလို့ပါပဲ။

ဒီ ပရမတ္ထသစ္စာအမြင်၊ ယထာဘူတအမြင်၊ ဝိပဿနာအမြင် ဆိုတာ မြတ်စွာဘုရားသာသနာနဲ့ ကြုံကြိုက်တဲ့ အခါမှသာ မြင်ခွင့်ရတဲ့ အမြင်များ ဖြစ်ပါတယ်။ ဘဝကို ဒီအမြင်နဲ့ မြင်အောင် ကြည့်နိုင်ပါမှ သံသရာနယ်ကို ချဲ့ထွင်တတ်တဲ့ ပပဉ္စတရားတွေ ကင်းပြီး သောက၊ ပရိဒေဝ မီးတွေ တောက်လောင်မှုကနေ လွတ်နိုင်မှာပါ။ လွတ်မြောက်ချမ်းသာ ဆိုတဲ့ ဝိမုတ္တိသုခကို ရနိုင်မှာပါ။

ဘဝကို သမုတိသစ္စာအမြင်၊ ပညတ်အမြင်၊ ပပဉ္စအမြင်တွေနဲ့ ကြည့်နေသရွေ့တော့ ချစ်စရာ၊ မုန်းစရာအဖြစ်တွေနဲ့ပဲ မပြတ်တွေ့နေရပြီး လောဘမီး၊ ဒေါသမီး စတဲ့ ကိလေသာအပူမီးတွေ နှိပ်စက်တာကိုပဲ ခေါင်းငုံ့ခံနေရမှာ ဖြစ်ပါတယ်။

အခု ကြည်ညိုခဲ့ကြရတဲ့ အရှင်နန္ဒကမထေရ်က "ဘဝဆိုတာ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဆိုတဲ့ အတွင်းအာယတန ခြောက်ပါး၊ အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့၊ ဓမ္မသဘော ဆိုတဲ့ အပြင်အာယတန ခြောက်ပါး၊ မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ ထိစိတ်၊ ကြံသိစိတ် ဆိုတဲ့ ဝိညာဏ် ခြောက်ပါး၊ ဒီ ရုပ်ဓမ္မ၊ နာမ်ဓမ္မတွေရဲ့ အစုအဝေး ဖြစ်စဉ်မျှသာပဲ၊ စိတ်ခံစားမှုဝေဒနာ ဆိုတာ ဒီရုပ်နာမ်တွေရဲ့ အရိပ်၊ အရောင် သဘောမျှသာပဲ" လို့ ဆီမီးဥပမာ၊ သစ်ပင်ဥပမာတွေနဲ့ ဘိက္ခုနီမတွေကို ပရမတ္ထသစ္စာ မြင်ထောင့်ကနေ မြင်တတ်အောင် ဟောပြ ဆုံးမတော်မူခဲ့ပါတယ်။

သာကီဝင်မင်းသမီး ဘိက္ခုနီမ ငါးရာတို့လည်း အရှင်မြတ် ထွန်းညှိပြတဲ့ ဓမ္မအလင်းကို အားကိုးပြုပြီး မိမိတို့ရဲ့ ဘဝဖြစ်တည်နေမှု အပေါ် ပရမတ္ထသစ္စာမြင်ထောင့်၊ ယထာဘူတမြင်ထောင့်၊ ဝိပဿနာ မြင်ထောင့်နဲ့ ရှုကြည့်ရင်း 'အရိယသစ္စာအမြင်' ဆိုတဲ့ 'မဂ်ဉာဏ် အလင်း'ကို ရရှိသွားပါတော့တယ်။ ဒုက္ခနဲ့ သမုဒယနယ်ကနေ အပြီးလွတ်မြောက်တဲ့ 'ဝိမုတ္တိသုခ'ကို ဉာဏ်လက်ဝယ်ပိုင်ပိုင် ရရှိပြီး ထာဝရ ငြိမ်းအေးသွားကြပါတော့တယ်။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။၂၄၂။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၂၇။
၃။ ထေရဂါထာပါဠိ၊ ၂၇၀။
၄။ ထေရဂါထာအဋ္ဌကထာ၊ ၂။ ၁၀။
၅။ ဥပရိပဏ္ဏာသပါဠိတော်၊ ၃၁၄။
၆။ ဥပရိပဏ္ဏာသအဋ္ဌကထာ၊ ၂၃၉။
၇။ ဦးရွှေအောင်၏ အမြင်များ ပြောင်းလဲခြင်းနှင့် အတွေးအမြင်စာစုများ။



ဗုဒ္ဓမြွေတို စောင့်ထိန်းတဲ့အရာ အထာဆုံး

ဗုဒ္ဓဿ ယဝတ္တဒ္ဒါရဒေတဝ်ရ

# အရှင်နန္ဒ မထေရ် ( ညီတော်မင်းနန် )



အခု ကြည်ညိုကြမယ့် 'အရှင်နန္ဒမထေရ်' ဆိုတာ မြတ်စွာဘုရားရဲ့ ဖတူ မိကွဲ ညီတော် ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာဝင်တွေ တော်တော်များများက အရှင်မြတ်ကို 'ညီတော် မင်းနန်' လို့ အသိများကြပါတယ်။ ဇနပဒကလျာဏီမင်းသမီးနဲ့ လက်ထပ်ထိမ်းမြားမယ့်နေ့မှာပဲ မြတ်စွာဘုရားက ကျောင်းတော် ခေါ်သွားပြီး ရဟန်းပြုပေးခံရတဲ့ နန္ဒမင်းသား ဖြစ်တာကြောင့်ပါ။

'မောင်တော် မြန်မြန်ပြန်လာခဲ့နော်' ဆိုတဲ့ ဇနပဒကလျာဏီရဲ့ အမှာစကားကို နားထဲက မထွက်၊ မြတ်စွာဘုရားရှင်ကို အရှင့် သပိတ် ပြန်ယူပါတော့လို့လည်း မလျှောက်ရဲ၊ မင်္ဂလာပွဲနဲ့ သတို့သမီးရဲ့ မျက်နှာကိုပဲ မြင်ယောင်နေရင်း မလိုက်ချင် လိုက်ချင် စိတ်ဆင်းရဲစွာနဲ့ မြတ်စွာဘုရားနောက်ကို သပိတ်တော်ထမ်းပြီး လိုက်သွားရရှာတဲ့ သတို့သား နန္ဒမင်းသား။

'မောင်တော် ပြန်မှ ပြန်လာပါဦးမလား၊ မြတ်စွာဘုရားက ရဟန်းပြုပေးလိုက်မှဖြင့်...' စတဲ့ စိုးရိမ်ကြောင့်ကြ သောကဗျာပါရ

တွေ ရင်မှာပိုက်ပြီး နန်းတော်လေသာပြတင်းကနေ မှာတမ်းခြွေစကား ပြောကာ ငေးကျန်ရစ်ရှာတဲ့ သတို့သမီး ဇနပဒကလျာဏီ။

သောကဋ္ဌာယီဘာဝ၊ ကရုဏာရသကို ပေးစွမ်းနိုင်တဲ့ လွမ်းမောဖွယ်ရာ ဘဝဇာတ် ဖြစ်ရပ်လေးပါ။ ဒီဖြစ်ရပ်ကြောင့်ပဲ 'ညီတော်မင်းနန်နဲ့ ဇနပဒကလျာဏီ' ရယ်လို့ လူသိများခဲ့ကြတယ်။ ရတု၊ ရကန်တွေ၊ တေးသီချင်းတွေ၊ ကဗျာ၊ ဝတ္ထုတွေလည်း များစွာ ဖွဲ့နွဲ့ခဲ့ကြတယ်။

မြတ်စွာဘုရားရှင်အပေါ်မှာတော့ 'ဩော်... မြတ်စွာဘုရား မညှာတာလိုက်တာ၊ လုပ်ရက်လိုက်လေခြင်း' ဆိုပြီး မချင့်မရဲ ဖြစ်ကြ သူတွေလည်း နည်းမှာ မဟုတ်ပါဘူး။ အဲဒီ အထဲ အမေရိကန်မှာ သီတင်းသုံး သာသနာပြုနေတဲ့ သူငယ်ချင်း ဆရာတော်တစ်ပါးတောင် ပါလိုက်သေးတော့တယ်။ အဲဒီ ဆရာတော်က 'ဒီနေရာမှာတော့ မြတ်စွာဘုရား အတော်လေးကို ကိုယ်ချင်းမစာတာပဲ' တဲ့။ ဒါလည်း သမုတိသစ္စာမြင်ထောင့်ကနေ ပြောတာမို့ အပြစ်ရယ်လို့တော့ မဆိုသာ။

မြတ်စွာဘုရားရှင်ကတော့ မဟာကရုဏာတော် အရင်းခံတဲ့ ပရမတ္ထသစ္စာ မြင်ထောင့်ကနေ ကြည့်ပြီး ဆောင်ရွက်တော်မူခဲ့ရတာ ဖြစ်ပါလိမ့်မယ်။

"အနည်းငယ် မပြောပလောက်တဲ့ ချမ်းသာကို စွန့်လိုက်ရတဲ့ အတွက် ကြီးကျယ်တဲ့ ချမ်းသာကို ရနိုင်မယ် ဆိုရင် မိမိအကျိုးစီးပွားကို သိမြင်တဲ့ ပညာရှိပုဂ္ဂိုလ်ဟာ အဲဒီ အနည်းငယ်မျှ မပြောပလောက်တဲ့ ချမ်းသာကို စွန့်လွှတ်ရမယ်"

ဒီစကားကတော့ ဓမ္မပဒမှာ မှတ်တမ်းတင်ထားတဲ့ မြတ်စွာ ဘုရားရဲ့ စကားတော်လေးပါ။ ဒီစကားတော်အတိုင်း မြတ်စွာဘုရားရှင် ဟာ နန္ဒမင်းသားနဲ့ ဇနပဒကလျာဏီတို့အတွက် အနှိုင်းမဲ့ လောကုတ္တရာ သန္တိသုခ နိဗ္ဗာန်ချမ်းသာ ရမယ့် အရေး မြင်တော်မူတာကြောင့် သောက၊

ပရိဒေဝမီးတွေ ဝန်းရံနေပြီး မစင်ရောနေတဲ့ ချမ်းသာသဖွယ်ဖြစ်တဲ့ ကာမသုခကို စွန့်လွှတ်စေတော်မူခဲ့တယ်ဆိုတာကတော့ ယုံမှားသံသယ ဖြစ်စရာ ရှိမယ် မထင်ပါ။ နှစ်ဦးစလုံး ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်ပြီး သံသရာ့ဒုက္ခ အနန္တကနေ လွတ်မြောက်ခဲ့ကြလို့ပါပဲ။

* ကြီးသောချမ်းသာ၊ တောင့်တပါ၊ ချမ်းသာငယ်ကို စွန့်ပါလေ။
* ကြီးသောဆင်းရဲ၊ ကြောက်လျှင်လည်း၊ ဆင်းရဲငယ်ကို သည်းခံလေ။

တိပိဋကယောဆရာတော် ဆုံးမထားတဲ့ အထက်ပါလင်္ကာ အတိုင်း 'အနှိုင်းမဲ့ အမြင့်ဆုံး ချမ်းသာကို ရမှာမို့ မပြောပလောက်တဲ့ ကာမချမ်းသာကို စွန့်စေတဲ့ သဘော၊ သံသရာရေလျဉ်ကြောမှာ အတောမသတ် မျောပါပြီး ကြီးမားတဲ့ ဆင်းရဲတွေ အဆက်မပြတ် ဝေနေမှာမို့ တစ်ခဏတာ ခွဲခွာရတဲ့ ဆင်းရဲကို သည်းခံစေတဲ့ သဘော လေးပါပဲလေ' လို့ အမြင်ကို ပြောင်းလဲ ကြည့်နိုင်မယ် ဆိုရင်တော့ မြတ်ဘုရားရဲ့ အနှိုင်းမဲ့ မဟာကရုဏာတော်ကို အကြိမ်ကြိမ် ကြည်ညို ဦးခိုက်နေမိမှာပါ။

နောက်ပြီး မြတ်စွာဘုရားနဲ့ အဘယကုမာရတို့ရဲ့ အမေး- အဖြေ စကားကို ထောက်ဆကြည့်ရင်လည်း မြတ်စွာဘုရားရဲ့ မဟာ ကရုဏာတော်နဲ့ ဆောင်ရွက်တော်မူခဲ့ရတယ် ဆိုတဲ့ အချက်က သိသာ လှပါတယ်။ မဇ္ဈိမပဏ္ဏာသပါဠိတော်ကနေ အကျဉ်းချုပ် ထုတ်နုတ် ဖော်ပြပါဦးမယ်။

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ ရာဇဂြိုဟ်မြို့က အဘယကုမာရရဲ့ အိမ်ကို ဆွမ်းစားကြွပါတယ်။ ဆွမ်းစားပြီးတဲ့ အခါ မြတ်စွာဘုရားနဲ့ အဘယကုမာရတို့ စကားပြောတာနဲ့ ပတ်သက်ပြီး အခုလို အမေး- အဖြေ ပြုလုပ်ခဲ့ကြပါတယ်။

“မြတ်စွာဘုရား… အရှင်ဘုရားဟာ သူတစ်ပါးတို့ မနှစ်မြို့တဲ့ စကား၊ သူတစ်ပါးတို့ မကြိုက်တဲ့ စကားမျိုးကို ပြောပါသလား”

“မင်းသား… ဒီအမေးမျိုးကို ငါဘုရား တထစ်ချ မဖြေနိုင်ဘူး”

အဲဒီ အချိန်မှာ လူမမည်အရွယ် သားလေးက အဘယကုမာရရဲ့ ရင်ခွင်ထဲမှာ ထိုင်နေပါတယ်။ မြတ်စွာဘုရားက အဲဒီ ကလေးကို ညွှန်ပြပြီး–

“မင်းသား… ငါ တစ်ခု မေးမယ်၊ သင့်ရဲ့ မေ့လျော့ပေါ့ဆမှုကြောင့် ဖြစ်ဖြစ်၊ ဒါမှမဟုတ် အထိန်းတော်ရဲ့ သတိပေါ့လျော့မှုကြောင့်ဖြစ်ဖြစ် သစ်သားစ တစ်ခုခု၊ အိုးခြမ်းကွဲတစ်ခုခုကို ကလေးက သူ့ပါးစပ်ထဲထည့်၊ မျိုလိုက်မိတယ် ဆိုရင် သင် ဘယ်လို လုပ်မလဲ”

“သားရဲ့ ပါးစပ်ထဲက အရာကို ထုတ်ယူရမှာပဲ ဘုရား”

“တကယ်လို့ လွယ်လွယ်ကူကူနဲ့ ထုတ်လို့ မရခဲ့ရင်ကော”

“ဘယ်ဘက်လက်နဲ့ သားလေးရဲ့ ဦးခေါင်းကို ခပ်တင်းတင်းလေး ကိုင်ပြီး၊ ညာဘက်လက်နဲ့ သားလေးရဲ့ ပါးစပ်ထဲက အရာကို အတင်းနှိုက်ယူရမှာပဲ ဘုရား”

“ဒီလို အတင်းနှိုက်ယူလို့ ကလေးမှာ နာကျင်မှု၊ သွေးထွက်မှု ဖြစ်ခဲ့ရင်ကော”

“နာချင် နာပါစေ၊ သွေးထွက်ချင် ထွက်ပါစေ မရ ရအောင်တော့ နှိုက်ယူပြီး ဖယ်ထုတ်ရမှာပါ ဘုရား”

“ဘာကြောင့် ဒီလို လုပ်ရတာလဲ”

“သားလေးကို သနားတဲ့ အတွက်၊ အန္တရာယ်ကင်းစေချင်တဲ့ အတွက်ကြောင့် လုပ်ရတာပါ ဘုရား”

“မင်းသား… ငါလည်း ဒီလိုပဲ၊ တချို့ စကားမျိုးဟာ ပြောလိုက်ရင် ဟုတ်လည်း ဟုတ်မယ်၊ မှန်လည်း မှန်မယ်၊ အကျိုး

လည်း ရှိမယ် ဆိုရင် အဲဒီ စကားမျိုးကို တစ်ဖက်သားက ကြိုက်သည် ဖြစ်စေ၊ မကြိုက်သည် ဖြစ်စေ အချိန်အခါ အခြေအနေ ကြည့်ပြီးတော့ ငါဘုရား ပြောဆိုတတ်ပါတယ်။

ဘာကြောင့်လဲလို့ မေးရင်... ငါဘုရားဟာ သတ္တဝါတွေ အပေါ်မှာ သနားတော်မူတဲ့ အတွက်ကြောင့်ပဲ ဖြစ်တယ်''

ဒီသုတ်တော်ပါ စကားကို ထောက်ဆကြည့်ရင်လည်း 'မြတ်စွာဘုရားဟာ နန္ဒမင်းသားနဲ့ ဇနပဒကလျာဏီမင်းသမီးတို့ကို သနားကြင်နာတော်မူတဲ့ အတွက် အနာဂတ်မှာ ရမယ့် လောကလွန် ကောင်းကျိုးကို ချင့်မျှော်ပြီး မင်္ဂလာဆောင်တဲ့နေ့မှာကိုပဲ နန္ဒမင်းသားကို ရဟန်းပြုပေးခဲ့ရတာ ဖြစ်တယ်' ဆိုတဲ့ ကျေနပ်ဖွယ် အဖြေတစ်ခု ရနိုင်လောက်ပါပြီ။

မြတ်ဘုရားရဲ့ အနှိုင်းမဲ့ မဟာကရုဏာတော်ကို အာရုံပြုပြီး အရှင်နန္ဒမထေရ်အကြောင်း ကြည်ညိုကြပါစို့။

## (က) အရှင်မြတ် ရတဲ့ ဧတဒဂ်အမိန့်ဟာယ်

အရှင်နန္ဒမထေရ်ဟာ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဆိုတဲ့ ဣန္ဒြေ ခြောက်ပါးနဲ့ ပတ်သက်ပြီး အကုသိုလ် မဖြစ်အောင် စောင့်ထိန်းတဲ့ အရာ အသာဆုံး ဧတဒဂ်ကို ရတော်မူခဲ့ပါတယ်။ ပါဠိလို 'ဣန္ဒြိယေသုဂုတ္တဒွါရတာဧတဒဂ်' လို့ ခေါ်ပါတယ်။ မြတ်စွာဘုရားရှင်ရဲ့ တပည့်သာဝကတွေဆိုတာ ဣန္ဒြေကို မစောင့်စည်းတဲ့ သူရယ်လို့ မရှိပါဘူး။ ဒါပေမဲ့ အရှင်နန္ဒမထေရ်ကတော့ အရပ်ဆယ် မျက်နှာမှာ ဘယ်အရပ်ကိုပဲ ကြည့်ကြည့် ဆင်ခြင်ဉာဏ် သမ္ပဇဉ် မပါဘဲ သတိလက်လွတ် ကြည့်လေ့ မရှိပါဘူး။ သတိသမ္ပဇဉ်နဲ့ ပိုင်းခြားပြီးမှ ကြည့်လေ့ ရှိပါတယ်။ ဒါကြောင့် အရှင်မြတ်ဟာ ဣန္ဒြေစောင့်စည်း ထိန်းသိမ်းတဲ့ အရာ အသာဆုံး ဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း

အရှင်မြတ်အလောင်းလည်း ပဒုမုတ္တရဘုရားရှင်လက်ထက်တော်က ဟံသာဝတီ မင်းနေပြည်မှာ အမျိုးကောင်းသား ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့ အခါ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားတော် နာယူခဲ့ပါတယ်။ တရားတော် နာယူနေတုန်းမှာပဲ ပဒုမုတ္တရမြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို ဣန္ဒြေစောင့်ထိန်းတဲ့ အရာအသာဆုံး ဧတဒဂ်နဲ့ ချီးမြှောက်တာကို ဖူးတွေ့လိုက်ရပါတယ်။ ဒီအခါ အရှင်မြတ်အလောင်း အမျိုးကောင်းသားဟာ အဲဒီ အရှင်မြတ်ကို အားကျပြီး ကုသိုလ်ကောင်းမှု အကြီးအကျယ်ပြုလုပ်ကာ အဲဒီ ဧတဒဂ်မျိုး ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။ အရှင်မြတ်အလောင်းဟာ အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကုသိုလ် ကောင်းမှုတွေကို ပြုလုပ်အားထုတ်ခဲ့ပြီး သံသရာကျင်လည်တဲ့ အခါ နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ရတယ်။

## (ဂ) ပစ္ဆိမဘဝအကြောင်း

ခု နောက်ဆုံးဘဝ ရောက်လာတဲ့ အခါမှာတော့ မိထွေးတော် မဟာပဇာပတိဂေါတမီရဲ့ ဝမ်းကြာတိုက်မှာ ပဋိသန္ဓေ နေလာခဲ့ပါတယ်။ မိထွေးတော် မဟာပဇာပတိဂေါတမီ ဆိုတာ မြတ်စွာဘုရားရဲ့ မယ်တော် မဟာမာယာဒေဝီရဲ့ ညီမအရင်း ဖြစ်ပါတယ်။ အစ်မဖြစ်တဲ့ မဟာမာယာဒေဝီက ဘုရားလောင်း သိဒ္ဓတ္ထမင်းသားကို သုံးရက် လောက်စောပြီး ဖွားမြင်ခဲ့ပါတယ်။ ပြီးမှ ညီမတော် မဟာပဇာပတိဂေါတမီက အရှင်နန္ဒအလောင်းကို ဖွားမြင်ခဲ့တာပါ။

(ဘုရားလောင်းရဲ့ မယ်တော် မဟာမာယာဒေဝီဟာ အလောင်းတော် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်ပြီး ခုနစ်ရက်မြောက်တဲ့ နေ့မှာ ဘုရားလောင်း မယ်တော်တွေရဲ့ ထုံးစံ ဓမ္မတာအတိုင်း နတ်ရွာစံခဲ့ပါတယ်။

ဒီအခါ ညီမဖြစ်တဲ့ မဟာပဇာပတိဂေါတမီက သူ့ရဲ့ သားအရင်း နန္ဒမင်းသားကို အထိန်းတော်တွေလက် အပ်နှံပြီး နို့ချိုတိုက် ကျွေးမွေးစောင့်ရှောက်စေခဲ့တယ်။ သူကိုယ်တိုင်ကတော့ ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားကို နို့ချိုတိုက်ကာ ကျွေးမွေးစောင့်ရှောက်ကြီးပြင်းစေခဲ့ပါတယ်။ ဒါကြောင့် မဟာပဇာပတိဂေါတမီကို 'မိထွေးတော် မဟာပဇာပတိဂေါတမီ' လို့ ခေါ်ဝေါ်ကြတာ ဖြစ်ပါတယ်။)

အရှင်မြတ်လောင်း မွေးဖွားတဲ့ နေ့မှာလည်း သာကီဝင်ဆွေတော်မျိုးတော်တွေဟာ နှစ်လိုအားရ ရွှင်ရွှင်လန်းလန်း ဝမ်းပန်းတသာ ဖြစ်ခဲ့ကြတယ်။ အခုလို ဆွေမျိုးတွေရဲ့ စိတ်နှလုံးကို နှစ်သက်ရွှင်လန်းစေတတ်သူ ဖြစ်တာကြောင့် အရှင်မြတ်လောင်းရဲ့ နာမည်ကို 'နန္ဒမင်းသား' လို့ မှည့်ခေါ်ခဲ့ကြတယ်။

## မြတ်စွာဘုရား ကပိလဝတ်နန်းတော်ကြွပြီး တရားဟော

ဘုရားအလောင်းတော်ဟာ ၂၉ နှစ်အရွယ်မှာ တောထွက်ခဲ့ပြီး တရားအားထုတ်ခဲ့တယ်။ ၃၅ နှစ်အရွယ်မှာ သဗ္ဗညုဘုရားအဖြစ်ရောက်တော်မူခဲ့ပါတယ်။ မြတ်စွာဘုရား ဘုရားဖြစ်ပြီးတဲ့နောက် တပေါင်းလပြည့်နေ့မှာ ကာဠုဒါယီမထေရ်ရဲ့ ပင့်လျှောက်ချက်အရ ရဟန္တာနှစ်သောင်းနဲ့အတူ မွေးရပ်မြေ ကပိလဝတ်ကို ကြွတော်မူခဲ့ပါတယ်။ ကပိလဝတ်ရောက်တဲ့ နေ့မှာပဲ မြတ်စွာဘုရားရှင်ဟာ ခမည်းတော် သုဒ္ဓေါဒနမင်းကြီး အမှူးပြုတဲ့ ဆွေတော်မျိုးတော်တွေကို တရားဟောတော်မူခဲ့ပါတယ်။ တရားပွဲအပြီးမှာ ခမည်းတော်ကြီး သောတာပန်တည်ခဲ့ပါတယ်။ နောက်တစ်နေ့မှာတော့ ရာဟုလာရဲ့ မယ်တော် ယသော်ဓရာရဲ့ ဂုဏ်ကျေးဇူးတွေကို ဖော်ပြတဲ့ အနေနဲ့ စန္ဒကိန္နရီဇာတ် ဟောတော်မူပါတယ်။

## ညီတော်နန္ဒမင်းသားကို ရဟန်းပြုပေးတော်မူ

တတိယမြောက်နေ့ ဖခမည်းတော်မင်းကြီးရဲ့ နန်းတော်ကို ဆွမ်းခံကြွတဲ့ အခါ ညီတော်နန္ဒမင်းသားနဲ့ ဇနပဒကလျာဏီမင်းသမီးတို့ရဲ့ လက်ထပ်မင်္ဂလာပွဲနဲ့ ကြုံတော်မူခဲ့ပါတယ်။ ဆွမ်းခံပြီးတဲ့ အခါ မြတ်စွာဘုရားရှင်က ညီတော်နန္ဒမင်းသားထံ သပိတ်ပေးလိုက်ပြီး ကျောင်းတော်ကို ပြန်ကြွတော်မူခဲ့ပါတယ်။ နန္ဒမင်းသားလည်း မြတ်စွာဘုရားအပေါ် ရိုသေလေးစားတဲ့ အနေနဲ့ သပိတ်ကိုင်ပြီး မြတ်စွာဘုရား နောက်တော်ပါးကနေ လိုက်ခဲ့ပါတယ်။ စောင်းတန်းလှေခါးထိပ် ရောက်တဲ့ အခါ မြတ်စွာဘုရား သပိတ်တော် ပြန်ယူမှာပဲ ဆိုတဲ့ အတွေးနဲ့ပါ။ ဒါပေမဲ့ အဲဒီ နေရာ ရောက်တဲ့ အခါမှာ မြတ်စွာဘုရားက သပိတ်တော်ကို ပြန်မယူခဲ့ပါဘူး။

နန္ဒမင်းသားလည်း 'စောင်းတန်းလှေကားခြေရင်း ရောက်တဲ့ အခါမှာတော့ သပိတ်တော်ကို ပြန်ယူတန်ကောင်းရဲ့' ဆိုတဲ့ အတွေးနဲ့ ဆက်လိုက်သွားပါတယ်။ အဲဒီ နေရာ ရောက်ပြန်တော့လည်း မြတ်စွာဘုရားက သပိတ်တော်ကို ယူတော်မမူခဲ့ပါဘူး။ ဒါနဲ့ 'နန်းရင်ပြင် ရောက်တဲ့ အခါ ဆိုရင်တော့ ယူတော်မူလောက်တယ်' ဆိုတဲ့ အတွေးနဲ့ နန္ဒမင်းသား ဆက်လိုက်သွားပြန်ပါတယ်။ နန်းရင်ပြင် ရောက်တဲ့ အခါမှာလည်း မြတ်စွာဘုရားက ယူတော်မမူသေးပါဘူး။

နန္ဒမင်းသားခမျာ မင်္ဂလာပွဲဆီကိုပဲ စိတ်က ရောက်နေပြီး ပြန်လှည့်သွားချင်နေခဲ့ပါတယ်။ စိတ်ဆန္ဒမပါဘဲ မြတ်စွာဘုရားနောက် သပိတ်တော်ပွေ့ပိုက်ပြီး လိုက်ပါနေခဲ့ရတယ်။ မြတ်စွာဘုရားကို လေးစားတဲ့ စိတ်ကြောင့် 'အရှင်ဘုရားသပိတ် ပြန်ယူပါတော့ဘုရား' လို့ကလည်း မလျှောက်ရဲ။ 'လမ်းရောက်ရင်တော့ ပြန်ယူလောက်မှာပါ၊ ကျောင်းမုခ်ပေါက် ရောက်ရင်တော့ ဧကန် ယူလောက်တယ်'

စတဲ့ ယူလိမ့်နိုးနိုး မျှော်ကိုးတဲ့ အတွေးနဲ့ မြတ်စွာဘုရားနောက်က လိုက်သွားနေရတာပါ။

ဒီအခြင်းအရာကို မြင်တွေ့လိုက်တဲ့ အထိန်းတော် အမျိုးသမီးတွေက ဇနပဒကလျာဏီမင်းသမီးကို “အရှင်မ၊ မြတ်စွာဘုရားရှင်က နန္ဒမင်းသားကို ခေါ်ပြီး ကြွသွားခဲ့ပြီ” လို့ အသိပေး ပြောဆိုခဲ့ကြတယ်။ ဒီအခါ ဇနပဒကလျာဏီဟာ ခေါင်းလျှော်နေဆဲမို့ ရေစက်ရေပေါက်တွေ ကျလျက်တန်းလန်း၊ ဆံပင်လည်း တစ်ဝက်တစ်ပျက်ဖြီးထားတဲ့ အနေအထားနဲ့ ကပျာကယာ အပြေးကလေး လိုက်သွားပြီး “မောင်တော်အရှင့်သား··· အမြန်ပြန်လာခဲ့ပါနော်” လို့ မှာရှာတယ်။ ဇနပဒကလျာဏီရဲ့ ဒီမှာတမ်းစကားလေးက နန္ဒမင်းသားရဲ့ နှလုံးအသည်းထဲ စွဲဝင်နေတော့တာပါ။

မြတ်စွာဘုရားရှင်လည်း နန္ဒမင်းသားရဲ့ လက်ထဲက သပိတ်ကို ယူတော်မမူဘဲ နန္ဒမင်းသားကို ကျောင်းတော်အရောက် ခေါ်သွားတော်မူခဲ့ပါတယ်။ ကျောင်းတော်ရောက်တဲ့ အခါ “ရဟန်းပြုမလား နန္ဒ” လို့ မေးတော်မူခဲ့ပါတယ်။ နန္ဒမင်းသားဟာ နောင်တော် မြတ်စွာဘုရားအပေါ် ရိုသေလေးစားတဲ့ အတွက် ‘ရဟန်းမပြုနိုင်ပါ’ လို့ မလျှောက်ထားဝံ့ပါဘူး။ စိတ်ထဲက အမှန်တကယ် ရဟန်းပြုလိုတဲ့ ဆန္ဒမရှိပေမဲ့ ‘ရဟန်းပြုပါမယ် ဘုရား’ လို့ပဲ လျှောက်ထားခဲ့ရရှာတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က ရဟန်းတွေကို “ရဟန်းတို့၊ နန္ဒမင်းသားကို ရဟန်းခံပေးလိုက်” လို့ မိန့်တော်မူခဲ့ပါတယ်။ အခုလို နန္ဒမင်းသားကို ရဟန်းဝတ်ပေးတာဟာ မြတ်စွာဘုရား ကပိလဝတ်ကို ရောက်ပြီး တတိယမြောက်တဲ့ နေ့မှာ ဖြစ်ပါတယ်။ မကြာခင်မှာပဲ အရှင်နန္ဒဟာ မြတ်စွာဘုရားနဲ့အတူ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်ကို ကြွတော်မူခဲ့ရပါတယ်။

(မြတ်စွာဘုရားရှင်က ခုလို မင်္ဂလာဆောင်တဲ့နေ့မှာပဲ နန္ဒမင်းသားကို ရဟန်းပြုပေးရတဲ့ အကြောင်းက ရဟန်းမပြုဘဲ တရားဟောရင် နန္ဒမင်းသား တရားရဖို့ မလွယ်ကူပါဘူး။ ရဟန်းဝတ်ပြီးမှ ဥပါယ်တံမျဉ်နဲ့ နတ်သမီးတွေပြပြီး တရားဟောလိုက်ရင် တရားထူး ရနိုင်မှာ ဖြစ်လို့ပါ။ ဒါကြောင့် ဝေနေယျသတ္တဝါတွေကို ဆုံးမတဲ့ နေရာမှာ ကျွမ်းကျင်တော်မူတဲ့ မြတ်စွာဘုရားက နန္ဒမင်းသားကို ရဟန်း ပြုပေးခဲ့တာ ဖြစ်ပါတယ်။) (ဥဒါန်းအဋ္ဌကထာ၊ ၁၅၂။)

အရှင်နန္ဒဟာ ရဟန်းဖြစ်တဲ့နေ့ကစပြီးတော့ ဇနပဒကလျာဏီ မှာလိုက်တဲ့ စကားကိုပဲ အမြဲတမ်း ကြားယောင် သတိရနေမိပါတော့ တယ်။ ဒီလို သတိရတဲ့ အခါ ဇနပဒကလျာဏီ ကိုယ်တိုင် အနား လာပြီး ရပ်နေသလိုတောင် စိတ်ထဲ ထင်နေမိပါသတဲ့။

အရှင်နန္ဒဟာ ရဟန်းဘောင်မှာ မပျော်ပိုက်တဲ့ စိတ်တွေက နှိပ်စက်နေတာမို့ ကျောင်းကနေတောင် ထွက်ပြေးသွားမိပါတယ်။ သစ်ပင် ချုံပုတ် တစ်ခု နှစ်ခုလောက် အလွန်ရောက်တဲ့ အခါ မြတ်စွာဘုရားက ရှေ့ကနေ ကာဆီးထားသလိုမျိုး ထင်ပြီး မီးပုံထဲ ထည့်လိုက်တဲ့ ကြက်တောင်ပမာ တွန့်ဆုတ်ကာ နောက်ရင်း ပြန်လှည့်ပြီး နေမြဲ ကျောင်းထဲကိုပဲ ပြန်ဝင်ခဲ့ရရှာတယ်။

## မျောက်မအိုနဲ့ နတ်သမီးတွေ ပြပြီး တရားဟောတော်မူ

ဒီအခါ မြတ်စွာဘုရားရှင်မှာ 'သြော်… နန္ဒဟာ အတော် လေးကို သတိလက်လွတ် မေ့လျော့မှုတွေ ဖြစ်နေတာပဲ၊ သာသနာ့ ဘောင်မှာ မပျော်ပိုက်တာကို ဖျောက်လို့ မရဘဲ ဖြစ်နေရှာပါလား၊ ငါဟာ သူ့ရဲ့ စိတ်ငြိမ်းချမ်းမှုရအောင် ပြုလုပ်ပေးမှ သင့်တော်မယ်'လို့ အကြံဖြစ်ခဲ့ပါတယ်။ ဒီနောက်မှာတော့ မြတ်စွာဘုရားက အရှင်နန္ဒကို "နန္ဒရေ… လာဟေ့၊ နတ်ပြည်ခရီး သွားကြစို့ရဲ့"လို့ မိန့်တော်မူလိုက်

ပါတယ်။ "မြတ်စွာဘုရား… တန်ခိုးရှင်တွေသာ သွားလို့ ရတဲ့ နတ်ပြည်ကို တပည့်တော်က ဘယ်လိုလုပ်ပြီး သွားနိုင်မလဲ ဘုရား" လို့ အရှင်နန္ဒက ပြန်လည် လျှောက်ထားပါတယ်။

မြတ်စွာဘုရားက "နန္ဒ… သင်က သွားချင်တဲ့ စိတ်ကလေးသာ ဖြစ်စေလိုက်ပါ၊ အဲဒီလို စိတ်ကလေး ဖြစ်လိုက်တာနဲ့ သင်ဟာ နတ်ပြည် ရောက်သွားပြီး နတ်အာရုံတွေကို သင် မြင်ရပါလိမ့်မယ်" လို့ အားပေးစကား မိန့်ကြားတော်မူပါတယ်။

ဒီနောက်မှာတော့ မြတ်စွာဘုရားရှင်က အရှင်နန္ဒမှာ ဖြစ်နေတဲ့ ရာဂမီးကို ဥပါယ်တံမျဉ်နဲ့ ငြိမ်းပေးလိုတာကြောင့် တန်ခိုးတော်နဲ့ အရှင်နန္ဒကို တာဝတိံသာနတ်ပြည် ခေါ်သွားတော်မူပါတော့တယ်။ ဒါပေမဲ့ မြတ်စွာဘုရားရှင်ဟာ တာဝတိံသာနတ်ပြည်ကို တိုက်ရိုက် မကြွသေးဘဲ လမ်းခုလတ် မီးလောင်ပြင် လယ်ကွင်းတစ်ခုဆီ အရင် ခေါ်သွားတော်မူပါတယ်။ အဲဒီ မီးလောင်ပြင် လယ်ကွက်ထဲက သစ်ပင်ငုတ်တို တစ်ခုပေါ်မှာ နားရွက်၊ နှာခေါင်းနဲ့ အမြီးတွေမှာ မီးသင့်ထားပြီး ရုပ်အဆင်း စုတ်စုတ်ပြတ်ပြတ်နဲ့ အတော်လေးကို ရွတ်တွအိုမင်းနေတဲ့ မျောက်မတစ်ကောင် ထိုင်နေတာကို ပြတော်မူပါတယ်။ ပြီးမှ တာဝတိံသာနတ်ပြည်ကို ဆက်လက် ကြွတော်မူခဲ့ပါတယ်။

(ဒီနေရာမှာ တကယ်တော့ မြတ်စွာဘုရားရှင်က အရှင်နန္ဒကို တာဝတိံသာနတ်ပြည် ရောက်ဖူးရုံသက်သက် ရည်ရွယ်တာ ဆိုရင် ဇေတဝန်ကျောင်းတော်မှာ ထိုင်နေရင်းကပဲ တန်ခိုးနဲ့ တာဝတိံသာ နတ်ပြည်ကို ပြလို့ရပါတယ်။ ဒါမှမဟုတ် တန်ခိုးနဲ့ အရှင်နန္ဒ တစ်ပါးတည်း နတ်ပြည်လွှတ်လိုက်လည်း ရတာပါပဲ။

ဒါပေမဲ့ မြတ်စွာဘုရားရှင်က အရှင်နန္ဒကို နတ်ခန္ဓာကိုယ်ထက် လူ့ခန္ဓာကိုယ်က အလွန် ယုတ်ညံ့ပြီး စက်ဆုပ်ရွံရှာဖွယ်ရာ ကောင်းပုံကို

နှိုင်းယှဉ် သိစေချင်တာပါ။ ဒါကြောင့် မီးလောင်ပြင်မှာ ရှိနေတဲ့ မျောက်အိုမကြီးကိုလည်း ပြတော်မူလို၊ နတ်သမီးတွေကိုလည်း ပြတော်မူလိုတာ ဖြစ်ပါတယ်။ ဒီလို ပြလိုက်မှလည်း အရှင်နန္ဒမှာ နတ်သမီး ရလိုစိတ်ဖြစ်ပြီး တရားကို စိတ်ပါ လက်ပါ ကျင့်မှာ ဖြစ်ပါတယ်။ ဒီလို တရားကို စိတ်ပါဝင်စားစွာ ကျင့်စေလိုတဲ့ အတွက် မြတ်စွာဘုရားရှင်ဟာ အရှင်နန္ဒကို ကိုယ်တော်တိုင် ခေါ်ဆောင်ပြီး တာဝတိံသာနတ်ပြည်ကို ကြွတော်မူရတာ ဖြစ်ပါတယ်။) (ဥဒါန်း အဋ္ဌကထာ၊ ၁၅၄။)

တာဝတိံသာနတ်ပြည် ရောက်တဲ့ အခါ သိကြာမင်းရဲ့ အခြွေအရံ နတ်သမီး ငါးရာက မြတ်စွာဘုရားကို လာရောက် ကန်တော့ကြပါတယ်။ ဒီအခါ မြတ်စွာဘုရားက အရှင်နန္ဒကို နတ်သမီးတွေ ပြတော်မူပါတယ်။ အဲဒီ နောက်မှာတော့ မြတ်စွာဘုရားနဲ့ အရှင်နန္ဒတို့ အခုလို အမေး အဖြေ ပြုလုပ်တော်မူခဲ့ကြပါတယ်။

"နန္ဒ… ခိုခြေထောက်လေးတွေလို အသားအသွေး နီတွေးတဲ့ အဆင်းရှိတဲ့ နတ်သမီး ငါးရာကို မြင်ပါရဲ့လား"

"မြင်ပါတယ် မြတ်စွာဘုရား"

"နန္ဒ… ခု ငါမေးမယ့် မေးခွန်းကို သင်သဘောကျတဲ့ အတိုင်း ဖြေပါ၊ သာကီဝင် မင်းသမီး ဇနပဒကလျာဏီနဲ့ ဒီ နတ်သမီး ငါးရာမှာ ဘယ်သူက ပိုပြီးတော့ ရုပ်အဆင်းလည်း လှ၊ ပိုပြီးတော့ ချစ်ခင် နှစ်သက် မြတ်နိုးဖွယ် ရှိပါသလဲ"

"မြတ်စွာဘုရား… နတ်သမီးငါးရာကို ထောက်ဆလိုက် တော့ သာကီဝင်မင်းသမီး ဇနပဒကလျာဏီဟာ နတ်သမီးတွေနဲ့ ဘယ်လိုမှ နှိုင်းစာလို့ မရပါ ဘုရား။ နတ်သမီးတွေရဲ့ အဆင်းကို ဘယ်လိုမှ မမီပါဘုရား၊ လမ်းမှာ တွေ့ခဲ့ရတဲ့ မျောက်အိုမကြီးလိုပါပဲ

ဘုရား၊ တကယ်တော့ ဒီနတ်သမီး ငါးရာကပဲ ပိုပြီး အဆင်းလည်းလှ၊ ပိုပြီး ရှုချင်ဖွယ်၊ နှစ်သက် မြတ်နိုးဖွယ် ရှိပါတယ် ဘုရား''

''နန္ဒ… ဒါဆိုရင် သင် သာသနာ့ဘောင်မှာ ပျော်ပျော်ကြီး နေပါတော့၊ သာသနာ့ဘောင်မှာ ပျော်ရွှင်စွာနဲ့ပဲ တရားဘာဝနာ ပွားများ အားထုတ်ပါတော့၊ နတ်သမီး ငါးရာ ရဖို့အတွက် ငါဘုရား တာဝန်ယူ အာမခံပါတယ်''

''မြတ်စွာဘုရား… အရှင်ဘုရားကသာ တပည့်တော်အတွက် နတ်သမီး ငါးရာရဖို့ အာမခံ တာဝန်ယူတယ် ဆိုရင် တပည့်တော် ရှင်တော်ဘုရားထံမှာ ပျော်ရွှင်စွာ နေပါတော့မယ် ဘုရား''

အခုလို အပေး အယူစကား မိန့်ကြားတော်မူပြီးနောက် မြတ်စွာဘုရားရှင်ဟာ အရှင်နန္ဒကို ခေါ်ပြီး တာဝတိံသာနတ်ပြည်ကနေ ဇေတဝန်ကျောင်းကို ပြန်ကြွတော်မူခဲ့ပါတယ်။

(ဒီနေရာမှာ ဘာလို့ မြတ်စွာဘုရားက ရာဂနှိပ်စက်ခံနေရတဲ့ အရှင်နန္ဒကို နတ်သမီးတွေ ပြရတာလဲလို့ မေးစရာ ရှိပါတယ်။ အဖြေကတော့… အရှင်နန္ဒရဲ့ သန္တာန်မှာ ဖြစ်နေတဲ့ ကိလေသာတွေကို အလွယ်တကူ ပယ်ဖျောက်ဖို့အတွက် နတ်သမီးတွေကို ပြတော်မူရ တာပါ။ ဥပမာ… လိမ္မာကျွမ်းကျင်တဲ့ ဆေးဆရာဟာ သလိပ်၊ သည်းခြေ၊ လေ ဆိုတဲ့ အပြစ်ဒေါသတွေ များနေတဲ့ လူနာကို အလွယ် တကူ ဆေးကုလိုတယ် ဆိုရင် အရင်ဆုံး ဆေးနဲ့ စီမံထားတဲ့ ဆီနဲ့ အဲဒီ အပြစ်ဒေါသတွေ ပွရှလာအောင် နူးနပ်စေရပါတယ်၊ ပြီးမှ အန်ဆေး၊ ဝမ်းသွားဆေးတွေနဲ့ ဆိုခဲ့တဲ့ အပြစ်ဒေါသတွေကို အလွယ်တကူ ထုတ်ရပါတယ်။

ဒီဥပမာလိုပဲ ဝေနေယျတွေကို ဆုံးမတဲ့ နေရာမှာ အတုမရှိ လိမ္မာတော်မူတဲ့ မြတ်စွာဘုရား ဆိုတဲ့ ဆေးသမားဟာ ရာဂအပြစ် ဒေါသတွေ ထူပြောနေတဲ့ အရှင်နန္ဒ ဆိုတဲ့ လူနာကို နတ်သမီးအာရုံ

ဆိုတဲ့ နှုးနှပ်ဆေးနဲ့ အရင်တိုက်ကျွေးတယ် ဆိုတာ အရိယမဂ်ဉာဏ် ဆိုတဲ့ အန်ဆေး၊ ဝမ်းသွားဆေးနဲ့ ကိလေသာဆိုတဲ့ အပြစ်ဒေါသတွေကို အကြွင်းမဲ့ ဖယ်ရှားပေးတော်မူလိုတဲ့ အတွက်ကြောင့် ဖြစ်ပါတယ်။

တစ်ခါ နောက်တစ်ခု မေးစရာ ရှိတာက "ဘာလို့ မြတ်စွာဘုရားရှင်က အရှင်နန္ဒအတွက် နတ်သမီးတွေရဖို့ အာမခံချက် ပေးတော်မူရတာလဲ" ဆိုတဲ့ မေးခွန်းပါ။ အဖြေကတော့ ဇနပဒကလျာဏီ ဆိုတဲ့ အာရုံအပေါ်မှာ ကာလတာရှည် အခိုင်အမာ စွဲလမ်းနေတဲ့ ရာဂကိလေသာကို အာဂန္တုကဖြစ်တဲ့ နတ်သမီးအာရုံအပေါ်မှာ ပြောင်းရွှေ့ပေးမှ အလွယ်တကူ စွန့်နိုင်မှာ ဖြစ်တာကြောင့် အာမခံချက် ပေးတော်မူရတာ ဖြစ်ပါတယ်။) (ဥဒါန်းအဋ္ဌကထာ၊ ၁၅၄၊ ၁၅၅။)

## အရှင်နန္ဒမထေရ် နတ်သမီးတွေ လိုချင်လို့ တရားအားထုတ်

ဇေတဝန်ကျောင်းကို ပြန်ရောက်တဲ့အချိန်ကစတင်ပြီး အရှင်နန္ဒ မထေရ်ဟာ နတ်သမီးတွေ ရလိုဇောနဲ့ ရဟန်းတရားကို နေ့ရောညပါ အပြင်းအထန် အားထုတ်ပါတော့တယ်။

ဒီအခါ မြတ်စွာဘုရားက ရဟန်းတွေကိုလည်း "ရဟန်းတို့၊ နန္ဒရဲ့ ကျောင်းအနီးနာမှာနေပြီး 'ရဟန်းတစ်ပါးဟာ မြတ်စွာဘုရားကို အာမခံထားပြီး နတ်သမီးတွေ ရလိုတဲ့အတွက် ရဟန်းတရား အပြင်းအထန် အားထုတ်နေသတဲ့' လို့ ပြောဆိုကာ လှည့်လည်ကြ" လို့ မိန့်တော်မူခဲ့ပါတယ်။

ရဟန်းတော်တွေလည်း မြတ်စွာဘုရား မိန့်တော်မူတဲ့အတိုင်း အရှင်နန္ဒ ကြားလောက်တဲ့ နေရာတိုင်းမှာ "အရှင်နန္ဒဟာ နတ်သမီးတွေ ရချင်လို့ တရားကျင့်နေတာတဲ့၊ အရှင်နန္ဒအတွက် နတ်သမီးငါးရာ ရဖို့ မြတ်စွာဘုရားက တာဝန်ယူတော်မူခဲ့ရတာတဲ့၊ ဒါကြောင့်

အရှင်နန္ဒဟာ အခစား၊ အဝယ်တော် ဖြစ်နေပေါ့ပဲ''လို့ ပြက်ရယ်ပြု၊ ကျီစယ်တဲ့ စကား ပြောဆိုခဲ့ကြတယ်။

ဒီစကား ကြားရတဲ့ အခါ အရှင်နန္ဒမထေရ်ဟာ 'သြော်… ဒီရဟန်းတွေဟာ အခြား သူတွေကို ပြောတာ မဟုတ်လောက်ဘူး၊ ငါ့ကို ပြောတာပဲ ဖြစ်ရမယ်၊ ငါ့ရဲ့ လုပ်ရပ်ဟာ အတော် နေရာမကျ တာပဲ' လို့ စိတ်ထဲမှာ ရှက်စနိုးတဲ့ အတွေးတွေ ပေါ်လာခဲ့ပါတယ်။ ဒါ့အပြင် 'ငါဟာ ဣန္ဒြေတွေ မစောင့်စည်းခဲ့လို့ ခုလို အဖော်ရဟန်း တွေရဲ့ ရှက်ဖွယ်ရာ ပြက်ရယ်ပြု ကျီစယ်တာကို ခံရတာ ဖြစ်တယ်၊ ဒီကနေ့တော့ ငါဟာ ဣန္ဒြေတွေကို ကောင်းကောင်းမွန်ပဲ စောင့်ထိန်း ပြီး နေတော့မယ်' လို့လည်း ဆုံးဖြတ်ချက် ချခဲ့ပါတယ်။

## ဣန္ဒြေစောင့်ထိန်းပြီး တရားအားထုတ်တဲ့အတွက် ရဟန္တာဖြစ်

အဲဒီ အချိန်ကစပြီး အရှင်နန္ဒမထေရ်ဟာ အရပ်ဆယ်မျက်နှာ ဘယ်ကိုပဲ ကြည့်ကြည့် လောဘ၊ ဒေါသ စတဲ့ အကုသိုလ်တွေ မဖြစ်ပွားအောင် သတိသမ္ပဇဉ် အမြဲယှဉ်ပြီး ကြည့်ရှုတော်မူခဲ့ပါတယ်။ သတိလက်လွတ် ကြည့်တယ် ဆိုတာ မရှိအောင်ကို အမြင့်ဆုံး စံနှုန်း တင်ပြီး ကျင့်တော်မူခဲ့ပါတယ်။ အခုလို ဣန္ဒြေစောင့်ထိန်းတာကို အမြင့်ဆုံးတင် ကျင့်တော်မူရင်း ရဟန်းတရား ပွားများအားထုတ် လိုက်တာ မကြာခင်မှာပဲ အာသဝေါကုန်ခန်း ရဟန္တာဖြစ်တော်မူခဲ့ ပါတယ်။

အဲဒီ အချိန်မှာ ရဟန္တာဗြဟ္မာကြီး တစ်ယောက်ဟာ မြတ်စွာ ဘုရားထံ လာရောက်ပြီး အရှင်နန္ဒမထေရ် ရဟန္တာဖြစ်သွားပြီ ဆိုတဲ့ အကြောင်း လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားရှင် ကိုယ်တော် တိုင်လည်း ဆင်ခြင်ကြည့်တဲ့ အခါ အရှင်နန္ဒမထေရ် ရဟန္တာဖြစ် ကြောင်း သိရှိတော်မူခဲ့ပါတယ်။

အရှင်နန္ဒမထေရ်ဟာ ရဟန္တာဖြစ်ပြီးတဲ့ နောက်နေ့မနက်စော မှာပဲ မြတ်စွာဘုရားထံ သွားရောက်ပြီး ရိုသေစွာ ရှိခိုးဦးချ ကန်တော့ ကာ "မြတ်စွာဘုရား··· ရှင်တော်ဘုရားဟာ တပည့်တော် အတွက် နတ်သမီး ငါးရာရဖို့ အာမခံ တာဝန်ယူတော်မူခဲ့ပါတယ် ဘုရား၊ ရှင်တော်မြတ်ဘုရားကို အဲဒီလို တာဝန်ယူထားမှုကနေ တပည့်တော် လွှတ်ပါတယ် ဘုရား" လို့ လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က "နန္ဒ··· သင် ရဟန္တာဖြစ်တာကို ငါဘုရား ဉာဏ်တော်နဲ့ ဆင်ခြင်ကြည့်လို့ သိခဲ့ပါတယ်၊ ဗြဟ္မာ တစ်ယောက်ကလည်း ငါဘုရားထံ လာရောက်လျှောက်ထားခဲ့တယ်၊ နန္ဒ··· သင် ရဟန္တာဖြစ်တဲ့အချိန်ကစပြီး ငါဘုရားဟာ အဲဒီ အာမခံချက် ကနေ လွတ်ပြီးခဲ့ပါပြီ၊ သင်က အထူးလွှတ်ရန် မလိုတော့ပါ" လို့ မိန့်တော်မူခဲ့ပါတယ်။

## ဣန္ဒြေစောင့်ထိန်းတဲ့ အရာ အသာဆုံး ဧတဒဂ်ရတော်မူ

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ ဇေတဝန်ကျောင်းတော်မှာ အရိယာသံဃာများအလယ် ထိုင်နေတော် မူပြီး "ရဟန်းတို့··· ဣန္ဒြေခြောက်ပါး တံခါးကို လုံခြုံအောင် စောင့်ထိန်းကြတဲ့ ငါဘုရားရဲ့ တပည့်ရဟန်းတွေထဲမှာ နန္ဒရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်"လို့ ချီးကျူးတော်မူကာ အရှင်နန္ဒမထေရ်ကို ဣန္ဒြေစောင့်ထိန်းတဲ့ အရာ အသာဆုံး ဧတဒဂ်နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

(အရှင်နန္ဒမထေရ် ဒီဧတဒဂ်ကို ရတယ် ဆိုတာ 'ငါဟာ ဣန္ဒြေကို မစောင့်ထိန်းခဲ့လို့ သာသနာမှာ မပျော်ပိုက်တာတွေ ဖြစ်ခဲ့ ရတယ်၊ ဒါကြောင့် ငါဟာ ဣန္ဒြေမစောင့်ထိန်းတာကို အဓိကထားပြီး

နှိပ်ကွပ်မယ်’ဆိုတဲ့ ထက်သန်တဲ့စိတ်နဲ့ ကြိုးစားခဲ့တဲ့အတွက်ကြောင့်ရယ်၊ အရှက်အကြောက်အားကြီးစွာနဲ့ ဣန္ဒြေတွေကို စောင့်ထိန်းခဲ့တဲ့အတွက်ကြောင့်ရယ်၊ လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းက ကုသိုလ်ပြုပြီး ဆုတောင်း ဆုပန်ခဲ့တဲ့ အတွက်ကြောင့်ရယ် ဒီအကြောင်းအချက်တွေကြောင့် ဖြစ်ပါတယ်။) (အပဒါန် အဋ္ဌကထာ၊ ၂။ ၆။)

## (ဃ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း

**အရှင်နန္ဒမထေရ်ကို အကြောင်းပြုပြီး မြတ်စွာဘုရားဟောတဲ့ ဂါထာနှစ်ပုဒ်**

**ကိလေသာမိုး မယိုအောင် ကျင့်ပါ**

၁။ “ရဟန်းတို့… အိမ်ကို ကောင်းမွန်စွာ မိုးမထားရင် မိုးရေယိုတယ်၊ ဒီ့အတူပဲ စိတ်မှာ သမထ၊ ဝိပဿနာ ဘာဝနာတွေကင်းနေရင် ရာဂမိုးတွေ ယိုတော့တာပဲ၊ ရာဂတင်မက ဒေါသ၊ မောဟ၊ မာန၊ ဣဿာ၊ မစ္ဆရိယ စတဲ့ ကိလေသာမိုးတွေပါ ယိုတော့တာပါ”

၂။ “အိမ်ကို ကောင်းမွန်စွာ မိုးထားရင်တော့ မိုးရေ မယိုနိုင်တော့ဘူး၊ ဒီ့အတူပဲ စိတ်အစဉ်ကို သမထ၊ ဝိပဿနာ ဘာဝနာတွေနဲ့ ထုံထားမယ်၊ ပွားများထားမယ် ဆိုရင်တော့ ရာဂ စတဲ့ ကိလေသာ မိုးရေတွေ မယိုနိုင်တော့ဘူး” (ဓမ္မပဒ အဋ္ဌကထာ၊ ၁။ ၇၈။)

**အရှင်နန္ဒမထေရ် ဟောကြားတော်မူတဲ့ ဂါထာ နှစ်ပုဒ်**

**ကာမဂုဏ် အနှိပ်စက်ခံရသူ**

၁။ “ငါဟာ နှလုံးသွင်း မမှန်ခဲ့တဲ့ အတွက်ကြောင့် ခန္ဓာကိုယ်လှဖို့ ပဖို့ တန်ဆာဆင်ဖို့ကိုပဲ အားထုတ်ခဲ့သူ၊ စိတ်မငြိမ်သူ၊

လျှပ်ပေါ်သူ ဖြစ်ခဲ့တယ်၊ ကာမဂုဏ်ငါးပါးအပေါ် တပ်မက်တဲ့ ဆန္ဒရာဂတွေ အနှိပ်အစက်ခံရသူ ဖြစ်ခဲ့တယ်”

## သံသရာညွန်မှ လွတ်ပြီ

၂။ “ဆုံးမတဲ့ နေရာမှာ ကျွမ်းကျင်တော်မူတဲ့ မြတ်စွာဘုရားကြောင့် ငါဟာ နှလုံးသွင်း မှန်ကန်ခဲ့ပြီး စင်ကြယ်တဲ့ သမထ ဝိပဿနာ အကျင့်တွေကို ကျင့်နိုင်ခဲ့တယ်၊ ဒါကြောင့် ငါဟာ သံသရာ ညွန်မှာ နစ်နေတဲ့ ငါ့ရဲ့ စိတ်ကို အရိယာမဂ် ဆိုတဲ့ လက်နဲ့ နိဗ္ဗာန် ဆိုတဲ့ ကြည်းကုန်းထက်ဆီ ထုတ်ဆောင်နိုင်ခဲ့ပေပြီ” (ထေရဂါထာပါဠိ၊ ၂၅၂။)



အကုသိုလ်တွေမှာ လောဘ၊ ဒေါသ၊ မောဟ ဆိုတဲ့ ရေသောက်မြစ်ကြီး သုံးခု ရှိတယ်။ ဒီရေသောက်မြစ်ကြီး သုံးခုက အကုသိုလ်စိတ်တွေ မပြတ် ဖြစ်ပွားနေအောင် ကျေးဇူးပြုပေးနေတယ် ဆိုတာ ပဋ္ဌာန်းဟေတုပစ္စယသတ္တိအရ သိသာထင်ရှားလှပါတယ်။

အရှင်နန္ဒမထေရ် ဣန္ဒြေ မစောင့်ထိန်းနိုင်စဉ်က အမိုးမလုံတဲ့ အိမ်မှာ မိုးရေ ယိုသလို အရှင်မြတ်ရဲ့ စိတ်အစဉ်မှာ ရာဂမိုးတွေ ယိုနေခဲ့တယ်။ ရာဂ ဆိုတာ တဏှာလောဘ ဖြစ်တာမို့ ဒီတဏှာ လောဘ ရေသောက်မြစ်ကြောင့် အရှင်မြတ်မှာ အကုသိုလ်စိတ်တွေ မပြတ် ဖြစ်ပွားပြီး အပြင်းအထန် ပူလောင်ခဲ့ရတယ်။ နောက်ပိုင်းမှာ မြတ်စွာဘုရားရဲ့ ဆုံးမမှုကြောင့် အရှင်မြတ်ရဲ့ စိတ်မှာ ကိလေသာ မိုးတွေ မယိုတော့အောင် သမထ၊ ဝိပဿနာဘာဝနာတွေကို ကျင့်သုံးနိုင်ခဲ့တယ်။ ဒါကြောင့် ရာဂ ဆိုတဲ့ တဏှာလောဘ ရေသောက်မြစ်ဟာ

မရှင်သန်နိုင်တော့ဘဲ ကျန်တဲ့ ကိလေသာ ရေသောက်မြစ်တွေကိုပါ မဂ်ဉာဏ်နဲ့ အပြီးတိုင် ပယ်သတ်နိုင်ခဲ့တာမို့ နိဗ္ဗာန် ဆိုတဲ့ သန္တိသုခ အငြိမ်းဓာတ်ကို ရရှိသွားပါတော့တယ်။

ဒီလို ဆိုရင် မိမိတို့ စိတ်အစဉ်မှာလည်း ကိလေသာမိုးတွေ ယိုမနေဖို့အတွက် အရှင်မြတ်လို မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဆိုတဲ့ ဣန္ဒြေတံခါး ခြောက်ပေါက်ကို ကျေနပ်မှု၊ မကျေနပ်မှု ဆိုတဲ့ အကုသိုလ်တွေ မဖြစ်အောင် သတိနဲ့ မပြတ်စောင့်ထိန်းပြီး၊ မိမိနဲ့ သင့်တော်တဲ့ သမထ၊ ဝိပဿနာ ဘာဝနာတစ်ခုခုကို လက်ကိုင်ထား ပွားများနေဖို့ပါပဲလေ။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၄၄။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၃၁။
၃။ ဥဒါန်းပါဠိတော်၊ ၁၀၁။ ဥဒါန်းအဋ္ဌကထာ၊ ၁၅၀။
၄။ အပဒါန်ပါဠိတော်၊ ၁။ ၆၂။ အပဒါန်အဋ္ဌကထာ၊ ၂။ ၅။
၅။ ထေရဂါထာပါဠိ၊ ၂၅၂။ ထေရဂါထာအဋ္ဌကထာ၊ ၁။ ၃၅၁။
၆။ ဓမ္မပဒအဋ္ဌကထာ၊ ၁။ ၇၃။

‘သစ္စဗလ မဝသာယ၊ သစ္စကိရိယ မကာသဟံ’ဆိုတဲ့ ဂါထာ နှစ်ပိုဒ်ကို တော်တော်များများ ရလည်း ရကြ၊ ကြားလည်း ကြားဖူးကြပါလိမ့်မယ်။ ‘ငါဟာ သစ္စာစွမ်းအားကို အားကိုးပြီး သစ္စာဆိုခဲ့တယ်’လို့ အလောင်းတော် ငုံးမင်းဖြစ်စဉ်က သစ္စာဆိုခဲ့တဲ့ အကြောင်း ပြန်လည် မိန့်ကြားတဲ့ မြတ်စွာဘုရားရဲ့ စကားတော်ပါ။





အမျိုးသားရဟန်းတွေကို ဆုံးမဩဝါဒပေးတဲ့အရာ အသာဆုံး

## ဘိက္ခုဩဝါဒဧတဒဂ်ရ

# အရှင်မဟာကပ္ပိန မထေရ်

လောကမှာ အရေးအကြောင်း ကြုံလာတဲ့ အခါ သစ္စာစွမ်းအားကို အားကိုးပြီး သစ္စာဆိုတာဟာ ရှေးသူတော်ကောင်းတွေရဲ့ အလေ့အကျင့်တစ်ခုပါ။ သုဝဏ္ဏသာမဇာတ်၊ ကဏှာဒီပါယနဇာတ် စတဲ့ ဇာတ်တော်တွေနဲ့ ရတနသုတ်၊ ဝဋ္ဋသုတ်၊ အင်္ဂုလိမာလသုတ် စတဲ့ ပရိတ်တော်တွေမှာ တွေ့နိုင်ပါတယ်။ မည်သူမဆို အခက်အခဲ အကျပ်အတည်းတွေနဲ့ ကြုံတွေ့ရတတ်ပါတယ်။ ကိုယ့်မှာ ရှိတဲ့ ကံ၊ ဉာဏ်၊ ဝီရိယ အစွမ်းတွေ ရှိသလောက်နဲ့ ကြိုးစားပြီး ပြေလည်အောင် ဖြေရှင်းကြရပါတယ်။ အဲဒီလို ကိုယ့်အစွမ်း ရှိသလောက်နဲ့ ဖြေရှင်းတာ ဘယ်လိုမှ မရနိုင်၊ မတတ်နိုင်တော့ဘူး ဆိုရင်တော့ သစ္စာစွမ်းအားကိုပဲ အားကိုးပြီး သစ္စာပြု၊ သစ္စာဆို ဖြေရှင်းကြရပါတယ်။ သစ္စာဆိုတဲ့ နေရာမှာ ကိုယ်ဆိုတဲ့ သစ္စာစကားက အကြောင်းအရာ ကောင်းမြတ်တာ၊ ယုတ်ညံ့တာက အဓိက မကျပါဘူး၊ မှန်တဲ့ သဘာဝဓမ္မ၊ မှန်ကန်တဲ့ စကား ဖြစ်ဖို့က အဓိက ဖြစ်တယ်လို့ ကျမ်းဂန်များမှာ ပြဆိုထားပါတယ်။

ဘုရားလောင်း ငုံးမင်းဖြစ်စဉ်က တောမီးလောင်တာ ကြုံတဲ့အခါ "ငါ့မှာ တောင်ပံတွေ ရှိတယ်၊ ဒါပေမဲ့ မပျံနိုင်သေးဘူး၊ ငါ့မှာ ခြေထောက်တွေ ရှိတယ်၊ ဒါပေမဲ့ ငါမသွားနိုင်သေးဘူး၊ ငါ့မိဘတွေလည်း အသက်ဘေးကြောင့် ထွက်ပြေးသွားကြကုန်ပြီ၊ အို… တောမီး၊ ပြန်လှည့်ကာ ရှောင်သွားပါလော့"လို့ သစ္စာဆိုလိုက်တာ တောမီးဟာ တစ်ခါတည်း အဝေးကြီး ပြန်လှည့်ပြီး ငြိမ်းသွားခဲ့ပါတယ်။ ဒါက ဝဋ္ဋသုတ်မှာ လာတဲ့ သစ္စာဆိုပုံပါ။

နောက်ပြီး အသောကမင်းကြီး ကြုံခဲ့တဲ့ ပြည့်တန်ဆာမတစ်ဦးရဲ့ သစ္စာပြုပုံကိုလည်း မိလိန္ဒပဉှာကျမ်းကနေ ဗဟုသုတအဖြစ် ဖော်ပြပါဦးမယ်။ တစ်ခါမှာတော့ အသောကမင်းကြီးဟာ မှူးမတ်တွေ၊ စစ်သည်ရဲမက်တွေနဲ့အတူ ဂင်္ဂါမြစ်ဆိပ် ရောက်ခဲ့ပါတယ်။

ဒီအခါ အသောကမင်းကြီးက "ဂင်္ဂါမြစ်ရေကို ပြောင်းပြန်စီးအောင် ဘယ်သူများ တတ်နိုင်တုန်း၊ စွမ်းနိုင်တဲ့သူများ ရှိသလား"လို့ မှူးမတ်တွေကို မေးခဲ့ပါတယ်။ မှူးမတ်တွေက မလွယ်ကူပါကြောင်း ပြန်လည် လျှောက်တင်ခဲ့ကြတယ်။ ဒီအခါ မလှမ်းမကမ်း ရေဆိပ်မှာ ရှိနေတဲ့ ပြည့်တန်ဆာမတစ်ယောက်က မင်းကြီးရဲ့စကား ကြားပြီး သစ္စာဆို လိုက်တာ ဂင်္ဂါမြစ်ရေတွေ ပြောင်းပြန် ဆန်တက်ကုန်ပါတယ်။

အသောကမင်းကြီးလည်း ရုတ်တရက် ထိတ်လန့်သွားပြီး အကြောင်းရင်း စူးစမ်းမေးမြန်းတဲ့ အခါ ပြည့်တန်ဆာမ သစ္စာဆို လိုက်လို့ ဂင်္ဂါမြစ်ကြီး ပြောင်းပြန်စီးသွားကြောင်း သိလိုက်ပါတယ်။ ဒါနဲ့ မင်းကြီးဟာ ပြည့်တန်ဆာမထံ သွားပြီး "သင်လို ဟိရီသြတ္တပ္ပ ကင်းမဲ့ပြီး လူတကာကို ဖြားယောင်းနေတဲ့ အကျင့်ပျက် ပြည့်တန်ဆာမ တစ်ယောက်က သစ္စာဆိုလို့ ဒီလို ဖြစ်ရတယ် ဆိုတာ ယုံနိုင်ဖွယ်ရာ မရှိကြောင်း" ပြောကြားပြီး ဘယ်ပုံ ဘယ်နည်း သစ္စာဆိုခဲ့သလဲလို့ မေးမြန်းပါတယ်။ ဒီအခါ ပြည့်တန်ဆာမက သူဟာ အရှင်မင်းကြီး ပြောသလို အောက်တန်းစား အမျိုးသမီး ဖြစ်ပေမယ့် တစ်လောကလုံးကို ပြောင်းပြန်လှန်ပစ်နိုင်တဲ့ သစ္စာတော့ သူ့မှာ ရှိတဲ့ အကြောင်း ခုလို ပြောပြခဲ့ပါတယ်။

"အရှင်မင်းကြီး... ကျွန်တော်မျိုးမကို ပိုက်ဆံပေးပြီး ပျော်ပါးတဲ့ သူက ရှင်ဘုရင်၊ ပညာရှိ၊ ကုန်သည်၊ ဆင်းရဲသား မည်သူပင် ဖြစ်ပါစေ သူတို့ အပေါ်မှာ တန်းတူထားပြီး ပြုစုပါတယ်၊ သူကတော့ ရှင်ဘုရင်မို့ ဆိုပြီး ပိုပြီး ထူးထူးခြားခြား မပြုမူ မဆက်ဆံ သလို သူကတော့ ဆင်းရဲသား ဆိုပြီး အထင်သေး အမြင်သေးနဲ့လည်း မဆက်ဆံပါဘူး၊ အားလုံးအပေါ်မှာ ချစ်ခြင်း၊ မုန်းခြင်း မပါ ကိုယ့်ရဲ့ ဥစ္စာရှင် ဆိုတဲ့ အနေနဲ့ပဲ အားလုံးကို တစ်ပြေးညီ ပြုမူဆက်ဆံ လုပ်ကျွေး ပြုစုပါတယ်၊ ဒါဟာ ကျွန်တော်မျိုးမရဲ့ သစ္စာတရားပါပဲ၊ ဒီ သစ္စာတရားနဲ့ ဂင်္ဂါမြစ်ကြီး ပြောင်းပြန်စီးအောင် သစ္စာဆိုခဲ့တာပါ"

ဒါကတော့ အရှင်နာဂသိန်က မိလိန္ဒမင်းကြီးကို ပြောပြတဲ့ အသောကမင်းကြီး ကြုံတွေ့ခဲ့ရပုံ ဖြစ်ရပ်လေးတစ်ခု ဖြစ်ပါတယ်။

ဘယ်လိုပဲ ဖြစ်ဖြစ် ရုတ်တရက် ကြုံလာတတ်တဲ့ အခက်အခဲတွေကို အလွယ်တကူ မဖြေရှင်းနိုင်တဲ့ အခါ သစ္စာစွမ်းအားကို အားကိုးကြရတာဟာ လောကဓမ္မတာပါ။ အခု ကြည်ညိုကြမယ့် အရှင်မဟာကပ္ပိနမထေရ်နဲ့ အနော်ဇာဒေဝီတို့လည်း ရဟန်းပြုဖို့ ရည်မှန်းပြီး မြတ်စွာဘုရားထံ လာတဲ့ အခါ မြစ်ကြီးသုံးစင်းကို ဖြတ်ကူးဖို့ရာ လှေတွေ၊ ဖောင်တွေကလည်း မရှိ၊ ဒါတွေ လုပ်နေပြန်ရင်လည်း ဘုရားထံ အရောက်နောက်ကျပြီး လောကုတ္တရာတရား သိနိုင်မယ့် အခွင့်အရေး နောက်မကျချင်ကြတာကြောင့် ကုန်သည်တွေထံက တစ်ဆင့်နာကြားခဲ့ရတဲ့ ရတနာသုံးပါးဂုဏ်ရည်တွေကို အာရုံပြုပြီး သစ္စာဆိုကာ သစ္စာစွမ်းအားနဲ့ မြစ်ကူးဖို့ ကြုံနေတဲ့ အခက်အခဲကို ဖြေရှင်းခဲ့ကြပါတယ်။ အရှင်မြတ် ဆိုခဲ့တဲ့ သစ္စာစွမ်းအားတွေကို ကြည်ညိုပြီး သစ္စာဓာတ်တွေ ကူးကြပါစို့။

## (က) အရှင်မြတ် ရတဲ့ ဧတဒဂ်အဓိပ္ပာယ်

အရှင်မဟာကပ္ပိနမထေရ်ကတော့ အမျိုးသားရဟန်းတွေကို ဆုံးမဩဝါဒပေး တရားဟောတဲ့ အရာမှာ အသာဆုံး ဧတဒဂ်ရမထေရ် ဖြစ်ပါတယ်။ ပါဠိလို 'ဘိက္ခုဩဝါဒကဧတဒဂ်' လို့ ခေါ်ပါတယ်။ အရှင်မြတ်ဟာ တရားတစ်ပွဲတည်းနဲ့ ရဟန်းတစ်ထောင်ကို ရဟန္တာ ဖြစ်အောင် ဆုံးမဩဝါဒပေး ဟောကြားနိုင်ခဲ့တာကြောင့် ဒီဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း

အရှင်မြတ်ဟာ ပဒုမုတ္တရာဘုရားရှင်လက်ထက်တော် အခါက ဟံသာဝတီမင်းနေပြည်မှာ အမျိုးကောင်းသား ဖြစ်ခဲ့တယ်။ အရွယ်

ရောက်တဲ့ အခါ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားတော် နာယူပါတယ်။ တစ်ခါမှာတော့ ပဒုမုတ္တရ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို 'ဘိက္ခုသြဝါဒကဧတဒဂ်'အရာထားပြီး ချီးမြှောက်တော်မူပါတယ်။ ဒီလို ချီးမြှောက်တာကို အရှင်မြတ်လောင်း အမျိုးကောင်းသား ဖူးတွေ့လိုက်ရတဲ့ အတွက် အားကျပြီး ကုသိုလ်ကောင်းမှု ပြုလုပ်ကာ ဒီဘိက္ခုသြဝါဒကဧတဒဂ်မျိုး ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။

အရှင်မြတ်လောင်း အမျိုးကောင်းသားဟာ အသက်ထက်ဆုံးကောင်းမှုကုသိုလ်တွေ ပြုလုပ်ခဲ့ပြီး သံသရာကျင်လည်ရင်းက ကဿပဘုရားရှင်လက်ထက်တော် ရောက်တဲ့ အခါမှာတော့ ဗာရာဏသီမြို့မှာ သူဌေးသူကြွယ် ဖြစ်ခဲ့ပါတယ်။ နောက်လိုက်နောက်ပါ အခြံအရံပရိသတ် တစ်ထောင် ရှိခဲ့ပြီး ကဿပဘုရားရှင်နဲ့ သံဃာတော်များသီတင်းသုံးဖို့ရန်အတွက် အခန်းပေါင်း တစ်ထောင်ပါတဲ့ ကျောင်းကြီးတစ်ဆောင်ကို နောက်လိုက်နောက်ပါ အခြွေအရံတွေ၊ မိသားစုတွေနဲ့အတူ ဆောက်လုပ်လှူဒါန်းခဲ့ပါတယ်။ အရှင်မြတ်လောင်းနဲ့တကွအလှူရှင်မိသားစုတွေ အားလုံးဟာ အဲဒီ ဘဝကနေ ကွယ်လွန်တဲ့အခါနတ်ပြည်မှာ ဖြစ်ခဲ့ကြတယ်။

## (ဂ) ပစ္ဆိမဘဝဇာတ်ကြောင်းနဲ့ ရဟန်းပြုပုံ

ကဿပဘုရားရှင်နဲ့ ဂေါတမဘုရားရှင် နှစ်ဆူအကြား ကာလတစ်လျှောက်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ကြပြီးအကျွန်ုပ်တို့ ဂေါတမဘုရားရှင် လက်ထက်တော် ရောက်လာတဲ့အခါမှာတော့ အရှင်မြတ်လောင်းက မဇ္ဈိမဒေသနဲ့ အတော်လေးဝေးတဲ့ကုက္ကုဋဝတီမြို့က ဘုရင့်နန်းတော်မှာ ဖြစ်ခဲ့ပါတယ်။ ကျန်တဲ့ အခြံအရံပရိသတ်တစ်ထောင်တို့လည်း အဲဒီမြို့က အမတ်တွေအိမ်မှာ အသီးသီးဖြစ်ခဲ့ကြပါတယ်။ ကပ္ပိနမင်းသားဟာ သူ့ရဲ့ ဖခမည်းတော်ဘုရင်ကြီး

နတ်ရွာစံသွားတဲ့ အခါ မဟာကပ္ပိနမင်း ဖြစ်လာခဲ့ပါတယ်။ အရင်ဘဝတွေက ကုသိုလ်ကောင်းမှု အတူပြုခဲ့တဲ့ အိမ်ရှင်မလည်း မင်းမျိုးမင်းနွယ်မှာ ဖြစ်ခဲ့ပြီး အရွယ်ရောက်တဲ့ အခါ မဟာကပ္ပိနမင်းရဲ့ မိဖုရားခေါင်ကြီး ဖြစ်လာခဲ့ပါတယ်။ အနော်ဇာပန်းလို့ခေါ်တဲ့ လိပ်ဆူးရွှေပန်းအဆင်းလို ဝါဝင်းနေတဲ့ အဆင်းရှိတာမို့ မိဖုရားခေါင်ကြီးကို 'အနော်ဇာမိဖုရား'လို့ ခေါ်ကြတယ်။

မဟာကပ္ပိနမင်းဟာ အကြားအမြင် ဗဟုသုတတွေကို အမြဲမပြတ် ဆည်းပူး လေ့လာလိုက်စားတဲ့ မင်းဖြစ်ပါတယ်။ ဒါကြောင့် မနက်အိပ်ရာထပြီးတာနဲ့ မြို့တံခါး လေးရပ်ကနေ အရပ်လေးမျက်နှာဆီ တမန်တော်တွေကို “အမောင်တို့၊ အကြားအမြင် ဗဟုသုတရှိတဲ့ ပုဂ္ဂိုလ်တွေကို လိုက်ရှာစုံစမ်းချေကြ၊ တွေ့ပြီ ဆိုရင် ငါ့ထံ သံတော်ဦးတင် အကြောင်းကြားလှည့်ကြ”လို့ မိန့်ကာ စေလွှတ်လေ့ ရှိပါတယ်။ အဲဒီ အချိန် အဲဒီ အခါက မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံး နေတော်မူနေပါတယ်။

## မဟာကပ္ပိနမင်းကြီး ရတနာသုံးပါး ပွင့်ထွန်းကြောင်း သိရှိ

တစ်နေ့မှာတော့ မဟာကပ္ပိနမင်းဟာ နောက်လိုက်နောက်ပါ အခြွေအရံပရိသတ် တစ်ထောင်နဲ့အတူ နန်းတော်ကနေ ထွက်ခဲ့ပြီး ဥယျာဉ်တော်မှာ အပန်းဖြေ အနားယူနေပါတယ်။ အဲဒီ အချိန်မှာ သာဝတ္ထိမြို့က ကုန်သည်တွေဟာ ရောင်းစရာ ကုန်စည်တွေနဲ့အတူ ကုက္ကုဋဝတီမြို့ကို ရောက်လာခဲ့ကြပါတယ်။ ကုန်သည်တွေဟာ လက်ဆောင်ပဏ္ဏာတွေ ယူဆောင်ပြီး မဟာကပ္ပိနမင်းကြီးနဲ့ တွေ့ဆုံဖူးမြော်ခွင့်ရဖို့ မင်းကြီး အပန်းဖြေနေတဲ့ ဥယျာဉ်တံခါးဝဆီ သွားရောက်ခဲ့ကြတယ်။ တံခါးမှူးတွေကနေတစ်ဆင့် မဟာကပ္ပိနမင်းကြီးထံ အကြောင်းကြားတဲ့အခါ မင်းကြီးက တွေ့ဆုံခွင့် ပြုခဲ့ပါတယ်။ ဒီအခါ ကုန်သည်တွေဟာ မဟာကပ္ပိနမင်းကြီး ရှေ့တော်မှောက် အခစား

ဝင်ရောက်ခဲ့ပြီး လက်ဆောင် ပဏ္ဏာတော်တွေ ဆက်သခဲ့ပါတယ်။ မဟာကပ္ပိနမင်းကြီးက ကုန်သည်တွေကို သူ သိလိုတာတွေ အခုလို မေးမြန်းခဲ့ပါတယ်။

"အမောင်တို့… ဘယ်မြို့က လာခဲ့ကြသလဲ"

"သာဝတ္ထိမြို့က လာခဲ့ကြပါတယ် အရှင်မင်းကြီး"

"အသင်တို့ တိုင်းပြည်မှာ စားနပ်ရိက္ခာ ပေါများပါရဲ့လား"

"ပေါများကြောင်းပါ အရှင်မင်းကြီး"

"ရှင်ဘုရင်ကရော တရားနဲ့အညီ အုပ်ချုပ်တဲ့ တရားမင်း ဖြစ်ပါရဲ့လား"

"ဖြစ်ကြောင်းပါ အရှင်မင်းကြီး"

"သင်တို့အရပ်ဒေသမှာ တစ်စုံတစ်ခု ထူးခြားတဲ့ သတင်းများ ရှိပါသလား"

"ရှိကြောင်းပါ အရှင်မင်းကြီး၊ ဒါပေမဲ့ ဒီသတင်းထူးကို စားကြွင်းစားကျန်တွေရှိတဲ့ မသန့်ရှင်းတဲ့ပါးစပ်နဲ့ မလျှောက်တင်ဝံ့ပါ အရှင်မင်းကြီး"

ဒီအခါ မဟာကပ္ပိနမင်းက ပါးစပ်သန့်ရှင်း ဆေးကြောဖို့ အတွက် ရွှေရေကရားနဲ့ ရေ ပေးခိုင်းလိုက်ပါတယ်။

သာဝတ္ထိကုန်သည်တွေဟာ ပါးစပ်ကို ရေစင်ရေအေးနဲ့ သန့်ရှင်းလိုက်ပြီး မြတ်စွာဘုရားရှိရာဘက်ကို လက်အုပ်ချီကာ အခုလို လျှောက်တင်လိုက်ပါတယ်။

"အရှင်မင်းကြီး၊ ကျွန်တော်မျိုးတို့ အရပ်ဒေသမှာ ဗုဒ္ဓ ရတနာ ပွင့်ထွန်းတော်မူနေပါပြီ ဘုရား"

မဟာကပ္ပိနမင်းကြီးမှာ 'ဗုဒ္ဓ' ဆိုတဲ့ စကားလုံး ကြားလိုက်တာနဲ့ပဲ ဝမ်းသာတဲ့ ပီတိတွေ တစ်ကိုယ်လုံး ပျံ့နှံ့ပြီး တဖွားဖွား ဖြစ်ပေါ်ခဲ့တယ်။

"အမောင်တို… 'ဗုဒ္ဓ'လို့ ဆိုလိုက်ကြပါသလား"

"ဟုတ်ပါတယ် အရှင်မင်းကြီး… 'ဗုဒ္ဓ'လို့ လျှောက်တင်လိုက်တာပါ"

မဟာကပ္ပိနမင်းကြီးဟာ ဝမ်းသာလွန်းတဲ့အတွက် အထက်ပါအတိုင်း သုံးကြိမ် သုံးခါ အံ့သြစွာ မေးမြန်းခဲ့ပါတယ်။

အဲဒီ နောက်မှာတော့ -

"အမောင်တို့… 'ဗုဒ္ဓ'ဆိုတဲ့ စကားလုံးဟာ တန်ဖိုးဖြတ်လို့ မရလောက်အောင်ကို အဖိုးအနဂ္ဃ ထိုက်တန်လွန်းလှပါတယ်၊ အလွန်အင်မတန်မှ ကြားရဖို့ မလွယ်ကူတဲ့ စကားလုံး ဖြစ်ပါတယ်၊ ငါဟာ ဒီစကားလုံးကို ကြည်ညိုတဲ့အတွက် သင်တို့ကို ဆုတော် လာဘ်တော်အဖြစ် အသပြာငွေ တစ်သိန်း ဆုချပါတယ်"

လို့ မိန့်ကြားခဲ့ပါတယ်။ ဆက်ပြီးတော့လည်း အခုလို မေးခဲ့ပြန်ပါတယ်။

"အမောင်တို့… နောက်ထပ် သတင်းထူးများ ရှိသေးရင်လည်း လျှောက်တင်ကြပါဦး"

"မှန်လှပါ အရှင်မင်းကြီး၊ ကျွန်တော်မျိုးတို့ အရပ်ဒေသမှာ ဓမ္မရတနာလည်း ပေါ်ထွန်းနေကြောင်းပါ မင်းကြီး"

ဒီအခါမှာလည်း မဟာကပ္ပိနမင်းကြီးဟာ 'ဓမ္မ'စကားလုံးကို ကြားရတာနဲ့ ဝမ်းသာပီတိတွေ ဖြစ်ပေါ်ခဲ့ပြီး 'ဗုဒ္ဓ'ဆိုတဲ့ စကားလုံး ကြားရတုန်းကလိုပဲ သုံးကြိမ် သုံးခါ မေးခဲ့ပါတယ်။ ကုန်သည်တွေကလည်း မင်းကြီးမေးတိုင်း လျှောက်တင်ခဲ့ကြတယ်။ မင်းကြီးဟာ 'ဓမ္မ'ကို ပူဇော်တဲ့ အနေနဲ့ ကုန်သည်တွေကို နောက်ထပ် အသပြာ တစ်သိန်း ဆုတော်လာဘ်တော်အဖြစ် ပေးသနားခဲ့ပြီး နောက်ထပ် သတင်းထူး ရှိသေးရင်လည်း လျှောက်တင်ဖို့ မိန့်ကြားလိုက်ပြန်ပါတယ်။

"မှန်လှပါ အရှင်မင်းကြီး… ကျွန်တော်မျိုးတို့ အရပ်ဒေသမှာ သံဃာရတနာလည်း ပေါ်ထွန်းနေပါပြီ မင်းကြီး"

ဒီသတင်းကြားရတဲ့ အခါမှာလည်း မင်းကြီးဟာ ရှေးနည်း အတိုင်းပဲ အားရဝမ်းသာ မေးမြန်း ပြောဆိုခဲ့ပြီး အသပြာတစ်သိန်းနဲ့ ပူဇော်ခဲ့ပြန်ပါတယ်။ အဲဒီ နောက်မှာတော့ မဟာကပ္ပိနမင်းကြီးဟာ ကုန်သည်တွေကို ဆုငွေအသပြာ သုံးသိန်း ထုတ်ပေးဖို့အတွက် အမှာ စကား သဝဏ်လွှာရေးသားပြီး "အမောင်တို့… မိဖုရားကြီးထံ သွား၊ ဒီစာသဝဏ်လွှာပြပြီး ဆုတော်ငွေ ထုတ်ယူချေကြ" လို့ ပြောဆိုကာ လွှတ်လိုက်ပါတယ်။

ကုန်သည်တွေ ထွက်သွားတဲ့အခါ မဟာကပ္ပိနမင်းကြီးဟာ အခြွေအရံ အမတ်တစ်ထောင်နဲ့ အခုလို တိုင်ပင်ခဲ့ပါတယ်။

"အမောင်တို့… လောကမှာ မြတ်စွာဘုရား ပွင့်ထွန်းနေပြီ၊ သင်တို့ ဘာလုပ်ကြမလဲ"

"အရှင်မင်းကြီး… အသင် မင်းကြီးကရော ဘာလုပ် လိုပါသလဲ"

"ငါကတော့ ရဟန်းပြုတော့မယ်"

"အသင်မင်းကြီးမှ ရဟန်းပြုမယ် ဆိုရင် ကျွန်တော်မျိုး တို့လည်း အရှင်မင်းကြီးနဲ့အတူ ရဟန်းပြုကြပါမယ်"

မဟာကပ္ပိနမင်းကြီးနဲ့ အမတ်တွေဟာ ရဟန်းပြုဖို့ အခုလို တိုင်ပင်ဆုံးဖြတ်ခဲ့ကြပြီး နန်းတော်ကို မပြန်ကြတော့ဘဲ ဥယျာဉ်ကနေ မြတ်စွာဘုရားရှိရာ သာဝတ္ထိမြို့တော်ဆီ မြင်းကိုယ်စီနဲ့ ထွက်ခဲ့ကြ ပါတယ်။

## အနော်ဇာမိဖုရားတို့လည်း ရဟန်းမဝတ်ဖို့ ဆုံးဖြတ်

ကုန်သည်တွေဟာ အနော်ဇာမိဖုရားကြီးထံ သွားရောက်ပြီး စာသဝဏ်လွှာကို ပြခဲ့ကြပါတယ်။ မိဖုရားကြီးက စာသဝဏ်လွှာ ဖတ်ပြီးတဲ့ အခါ "အမောင်တို့… မင်းတရားကြီးက သင်တို့ကို ဆုငွေ တွေ အများကြီး ပေးခဲ့တာပဲ၊ သင်တို့က မင်းတရားကြီးကို ဘာလုပ်

ပေးကြလို့တုံး””လို့ မေးမြန်းပါတယ်။ ““အရှင်မိဖုရားကြီး၊ နှစ်လိုဝမ်းမြောက်ဖွယ်ရာ သတင်းစကားကို လျှောက်တင်ခဲ့လို့ပါ””လို့ ကုန်သည်တွေက ဖြေကြားပါတယ်။ မိဖုရားကြီးက ““အမောင်တို့၊ ဒီလို သတင်းစကားမျိုးကို ငါတို့ရော ကြားလို့ ရနိုင်ပါသလား””လို့ ဆက်လက်မေးမြန်းခဲ့ပြီး ကုန်သည်တွေကလည်း မင်းကြီးကို လျှောက်တင်တုန်းက အတိုင်း ရတနာ သုံးပါး ပေါ်ထွန်းနေပြီ ဖြစ်ကြောင်း လျှောက်တင်ခဲ့ကြတယ်။

မိဖုရားကြီးလည်း ဒီသတင်းစကား ကြားရတဲ့ အခါ နှစ်သက်ဝမ်းမြောက်မှုတွေ တဖွားဖွား ဖြစ်ပေါ်လာခဲ့ပြီး ရတနာတစ်ပါးကို သုံးသိန်း ပူဇော်တဲ့ အနေနဲ့ ကုန်သည်တွေကို ဆုတော်ငွေ ကိုးသိန်း ပေးသနားခဲ့ပါတယ်။ ကုန်သည်တွေဟာ ရှင်ဘုရင်ကြီး ဆုချတာက သုံးသိန်း၊ မိဖုရားကြီးက ချီးမြှင့်တာက ကိုးသိန်း၊ စုစုပေါင်း ဆုတော်ငွေ ၁၂ သိန်း ရရှိခဲ့ကြပါတယ်။

ဒီ့နောက်မှာတော့ မိဖုရားကြီးက ““အမောင်တို့… ခု မင်းကြီး ဘယ်မှာလဲ””လို့ ကုန်သည်တွေကို မေးခဲ့ပါတယ်။

““အရှင်မိဖုရားကြီး… ‘ရဟန်းပြုမယ်’ဆိုပြီး အမတ်တစ်ထောင်နဲ့အတူ ထွက်သွားခဲ့ပါပြီ””လို့ ပြန်လည် လျှောက်တင်ခဲ့ကြတယ်။

ဒီသတင်းစကား ကြားလိုက်ရတဲ့ အခါ အနော်ဇာမိဖုရားကြီးဟာ ကုန်သည်တွေကို နှုတ်ဆက်စကား ပြောဆိုကာ ပြန်လွှတ်လိုက်ပြီး မင်းကြီးနဲ့ အတူပါသွားတဲ့ အမတ်တစ်ထောင်ရဲ့ ဇနီးသည်တွေကို ခေါ်ကာ ““အမိတို့၊ သင်တို့အမျိုးသားတွေအားလုံး မင်းကြီးနဲ့အတူ ရဟန်းပြုသွားကြပြီ၊ အဲဒီတော့ သင်တို့ ဘယ်လို လုပ်ကြမလဲ””လို့ မေးမြန်းခဲ့ပါတယ်။ ဒီအခါ အမတ်ကတော်တွေက ““အရှင်မိဖုရားကြီးရော ဘယ်လို ဆန္ဒ ရှိပါသလဲ””လို့ ပြန်လည် မေးကြတဲ့ အတွက် အနော်ဇာမိဖုရားကြီးက ““အမိတို့… ငါ ရဟန်းမ ဝတ်တော့မယ်၊

သူတို့ ထွေးစွန့်ခဲ့တဲ့ တံတွေးပေါက်ကို ငါ့ လျှာဖျားပေါ် ငါမတင်လို''
လို့ ဖြေကြားခဲ့ပါတယ်။

''အရှင်မ မိဖုရားကြီးမှ ရဟန်းမ ဝတ်တော့မယ် ဆိုရင် ကျွန်တော်မျိုးမတို့တစ်တွေလည်း ရဟန်းမ ဝတ်ပါတော့မယ်''လို့ ဆုံးဖြတ်ချက် ပေးလိုက်ကြပြီး မိဖုရားကြီးနဲ့ အမတ်ကတော်တွေဟာ ရဟန်းမ ဝတ်ဖို့ရန်အတွက် မြင်းရထားတွေ စီမံကာ မြတ်စွာဘုရားရှိရာ သာဝတ္ထိပြည်ဆီ မျှော်မှန်းပြီး မြင်းရထားတွေနဲ့ ခရီးထွက်ခဲ့ကြပါတော့တယ်။

## မြစ်သုံးစင်းကို သစ္စာဆိုပြီး ဖြတ်ကူး

စီးတော်မြင်းကိုယ်စီနဲ့ ရဟန်းပြုဖို့ ထွက်ခဲ့ကြတဲ့ မဟာကပ္ပိန မင်းကြီးနဲ့ အမတ်တစ်ထောင်တို့လည်း ဂင်္ဂါမြစ်ဆီ ရောက်ခဲ့ကြတယ်။ အဲဒီ အချိန်က ဂင်္ဂါမြစ်ရေတွေလည်း တိုးနေတဲ့ အချိန် ဖြစ်ပါတယ်။ ဒီအခါ မဟာကပ္ပိနမင်းဟာ–

**''ဘဝသောတံ ဟာဝေ ဗုဒ္ဓေါ၊ တိဏ္ဏော လောကန္တဂူ ဝိဒူ။**
**ဧတေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။**

မြတ်စွာဘုရားသည် ဘဝရေပြင်ကြီးကို နိဗ္ဗာန်ဆိုတဲ့ တစ်ဖက်ကမ်းရောက်အောင် တကယ်ပင် ကူးမြောက်တော်မူပြီးပါပေပြီ။ လောက၏ အဆုံးကို ဆိုက်ရောက်တော်မူပြီးတဲ့ ပညာရှိလည်း ဖြစ်တော်မူပါပေ၏။

ဤမှန်ကန်သော သစ္စာစကားကြောင့် အကျွန်ုပ်၏ မြတ်စွာဘုရားထံ ရဟန်းပြုရန် သွားရောက်ခြင်းသည် အန္တရာယ်မရှိ ပြည့်စုံပါစေသတည်း'' လို့ ဘုရားဂုဏ်တော်ကို အာရုံပြုပြီး သစ္စာဆိုကာ အမတ်တစ်ထောင်၊ မြင်းတစ်ထောင်နဲ့အတူ ဂင်္ဂါမြစ်ရေပြင်ကို ကူးခဲ့ပါတယ်။ မြင်းတွေဟာ ပကတိကျောက်ဖျာပေါ်မှာ ပြေးသွားရသလို ဖြစ်ခဲ့ပြီး ခွာဖျားကိုတောင်မှ ရေမစိုစွတ်ခဲ့ပါဘူး။

အခုလို ခရီးဆက် ထွက်လာရာက နီလဝါဟိနီဆိုတဲ့ မြစ်တစ်ခုဆီ ရောက်ခဲ့ကြပြန်ပါတယ်။

ဒီအခါမှာလည်း မဟာကပ္ပိနမင်းဟာ-

**“ယဒိ သန္တိဂမော မဂ္ဂေါ၊ မောက္ခော စစ္စန္တိကံ သုခံ။**

**တေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။**

မဂ်လေးပါး တရားတော်မြတ်သည် အမှန်တကယ်ပင် အေးငြိမ်းရာ နိဗ္ဗာန်ကို ရောက်စေနိုင်ပါပေ၏။

မဂ်ဉာဏ်ဖြင့် ရောက်အပ်သည့် နိဗ္ဗာန်ဆိုတဲ့ တရားတော်မြတ်သည်လည်း ချမ်းသာစင်စစ် ဧကန် ဖြစ်ပါပေ၏။

ဤမှန်ကန်သော သစ္စာစကားကြောင့် အကျွန်ုပ်၏ မြတ်စွာဘုရားထံ ရဟန်းပြုရန် သွားရောက်ခြင်းသည် အန္တရာယ်မရှိ ပြည့်စုံပါစေသတည်း” လို့ တရားဂုဏ်တော်ကို အာရုံပြုပြီး သစ္စာဆိုကာ နီလဝါဟိနီမြစ်ကို ကူးခဲ့ပါတယ်။ ဒီလိုနဲ့ ခရီးဆက် ထွက်လာခဲ့တာ စန္ဒဘာဂါမြစ်ကြီးဆီ ရောက်ခဲ့ပါတယ်။

ဒီအခါမှာလည်း မဟာကပ္ပိနမင်းဟာ-

**“သံဃော စေ တိဏ္ဏောကန္တာရော၊ ပုညက္ခေတ္တော အနုတ္တရော။**

**တေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။**

အရိယာသံဃာတော်မြတ်အပေါင်းသည် အမှန်တကယ်ပင် သံသရာခရီးခဲကို ကူးမြောက်တော်မူပြီးကြပါပေပြီ။

ကောင်းမှုမျိုးစေ့ကို စိုက်ပျိုးကြဲချရာ အမြတ်ဆုံး လယ်ယာမြေကောင်းသဖွယ် ဖြစ်တော်မူပါပေ၏။

ဤမှန်ကန်သော သစ္စာစကားကြောင့် အကျွန်ုပ်၏ မြတ်စွာဘုရားထံ ရဟန်းပြုရန် သွားရောက်ခြင်းသည် အန္တရာယ်မရှိ ပြည့်စုံပါစေသတည်း” လို့ သံဃာ့ဂုဏ်တော်ကို အာရုံပြုပြီး သစ္စာဆိုကာ စန္ဒဘာဂါ မြစ်ကြီးကိုလည်း အလွယ်တကူ ဖြတ်ကူးနိုင်ခဲ့ကြပါတယ်။ မြင်းတွေရဲ့ ခွာမှာတောင်မှ ရေတစ်ပေါက်မှ မစိုခဲ့ပါဘူး။

**မြတ်စွာဘုရား ကြိုတင် စောင့်ဆိုင်းတော်မူ**

မြတ်စွာဘုရားရှင်လည်း အဲဒီနေ့ မနက်စောအရုဏ်တက်ချိန်မှာပဲ ဉာဏ်တော်နဲ့ လောကကို ဖြန့်ကြက်ကြည့်တော်မူလိုက်တဲ့ အခါ 'သြော်··· ဒီနေ့ မဟာကပ္ပိနမင်းဟာ ယူဇနာသုံးရာ ကျယ်ဝန်းတဲ့ တိုင်းပြည်ရဲ့ ရှင်ဘုရင်ဘဝကို စွန့်လွှတ်ပြီး အမတ်တစ်ထောင်နဲ့အတူ ရဟန်းပြုဖို့ရန်အတွက် ငါဘုရားထံ လာနေပါပေါ့လား' လို့ မြင်တော်မူခဲ့ပါတယ်။ ဒါနဲ့ မြတ်စွာဘုရားရှင်ဟာ 'သူတို့ကို ငါ ခရီးကြိုကာ စောင့်နှင့်မှ သင့်တော်မယ်' လို့ ကြံစည်တော်မူကာ နောက်ပါ ရဟန်းတော်များနဲ့အတူ သာဝတ္ထိမြို့ထဲ ဆွမ်းခံအစောကြွ၊ ဆွမ်းဘုဉ်းပေးတော်မူပြီးနောက် ရဟန်းတော်များကို ထားခဲ့ကာ ကိုယ်တော်တစ်ပါးတည်း ကောင်းကင်ခရီးနဲ့ စန္ဒဘာဂါမြစ်ကမ်းဆီ ကြွတော်မူခဲ့ပါတယ်။

**မဟာကပ္ပိနမင်းနဲ့ အခြွေအရံများ သောတာပန်ဖြစ်၊ ရဟန်းပြု**

မြတ်စွာဘုရားရှင်ဟာ မဟာကပ္ပိနမင်းတို့ လာမည့် ဆိပ်ကမ်းအနီးက ညောင်ပင်ကြီး တစ်ပင်အောက်မှာ ရောင်ခြည်တော် ခြောက်သွယ် လွှတ်တော်မူပြီး ထိုင်နေတော်မူခဲ့ပါတယ်။ မဟာကပ္ပိနမင်းနဲ့ အမတ်တွေလည်း မြတ်စွာဘုရားရဲ့ ရောင်ခြည်တော်တွေကို တွေ့မြင်ပြီး လပြည့်ဝန်းသဖွယ် တင့်တယ်သပ္ပာယ်တော်မူတဲ့ မြတ်စွာဘုရားရှင်ရဲ့ မျက်နှာတော်ကို ဖူးတွေ့လိုက်ရတဲ့ အခါ 'သြော်··· ငါတို့ ရဟန်းပြုဖို့ ရည်မှန်းလာခဲ့တဲ့ မြတ်စွာဘုရားရှင်ဆိုတာ ဤအရှင်မြတ် ဖြစ်မှာပဲ' လို့ ဆုံးဖြတ်ချက်ချပြီး မြတ်စွာဘုရားထံ ရိုကျိုးစွာ ချဉ်းကပ်ကာ ရှိခိုးကန်တော့ခဲ့ကြတယ်။ မဟာကပ္ပိနမင်းဟာ မြတ်စွာဘုရားရှင်ရဲ့ ခြေဖမိုးတော်ကို ကိုင်ပြီး ရှိခိုးဦးချကန်တော့ကာ အမတ်တစ်ထောင်နဲ့အတူ သင့်တော်တဲ့ နေရာမှာ နေရာယူ ထိုင်နေခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက တရားဒေသနာများကို ဟောကြားတော်မူခဲ့ပါတယ်။ တရားတော် အဆုံးမှာတော့ မဟာကပ္ပိနမင်းဟာ

အမတ်တစ်ထောင်နဲ့အတူ သောတာပန်တည်ခဲ့ပြီး ရဟန်းပြုခွင့် ရဖို့ လျှောက်ထားတောင်းပန်ခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ဟာ 'သြော်… သူတို့တစ်တွေဟာ ရှေးဘဝတွေက သင်္ကန်းလှူခဲ့ဖူးတဲ့ ကောင်းမှု ကုသိုလ်ရှိခဲ့ကြသူတွေ ဖြစ်တာမို့ သူတို့ သပိတ်ပရိက္ခရာ သူတို့ ကိုယ်တိုင် ယူလာကြသူတွေပဲ'လို့ ဉာဏ်တော်နဲ့ သိမြင်တော်မူခဲ့ ပါတယ်။ ဒါကြောင့် မြတ်စွာဘုရားက "ရဟန်းတို့… လာခဲ့ကြလော့၊ တရားတော်ကို ကောင်းမွန်စွာ ဟောကြားအပ်ပါ၏၊ ဒုက္ခတွေ ကုန်ဆုံး ဖို့ရန်အတွက် မြတ်သော အကျင့်ကို ကျင့်လှည့်ကြကုန်လော့"လို့ လက်ယာလက် ဆန့်တန်းပြီး မိန့်တော်မူခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ရဲ့ ဒီစကားတော်အဆုံးမှာပဲ မဟာကပ္ပိနမင်းနဲ့ အမတ်တစ်ထောင်တို့ဟာ ဆံ၊ မုတ်ဆိတ်၊ ကျင်စွယ်တွေ ရိတ်ပယ်ပြီး၊ အတိတ်ကောင်းမှုကြောင့် ဖြစ်ပေါ်လာတဲ့ သပိတ်၊ သင်္ကန်းတွေ ဝတ်ရုံထားတဲ့ အနေအထားနဲ့ ဝါတော်ခြောက်ဆယ်ရ မထေရ်ကြီးများလို မြင့်မြတ်တဲ့ 'ဧဟိ ဘိက္ခု ရဟန်း'အဖြစ်ကို ရခဲ့ကြပါတယ်။

## အနော်ဇာဒေဝီ မိဖုရားတို့လည်း သစ္စာဆိုပြီး မြစ်သုံးစင်းကူးကြ

အနောဇာဒေဝီ မိဖုရားလည်း မြင်းရထားတစ်ထောင် ခြံရံပြီး မြတ်စွာဘုရားထံ ထွက်လာခဲ့တာ ဂင်္ဂါမြစ်ကမ်းနား ရောက်ခဲ့ပါတယ်။ မြစ်ကမ်းနား ရောက်တဲ့ အခါ မဟာကပ္ပိနမင်း ကူးသွားတဲ့ လှေတွေ၊ ဖောင်တွေ မရှိတာကို ထောက်ထားပြီး ပင်ကိုကလည်း ထက်မြက်တဲ့ ဉာဏ် ရှိတာမို့ အနော်ဇာမိဖုရားက 'မင်းကြီးဟာ သစ္စာဆိုပြီး ကူးသွားတာ ဖြစ်မယ်၊ မြတ်စွာဘုရား ဆိုတာ သူတို့အတွက်သာ ပွင့်တော်မူလာတာ မဟုတ်၊ မြတ်စွာဘုရားဟာ တကယ့်ကို သမ္မာသမ္ဗုဒ္ဓဘုရား ဖြစ်ခဲ့မယ် ဆိုရင် ငါတို့ မြင်းရထားတွေလည်း ရေထဲ မမြုပ်ပါစေသား"လို့ စဉ်းစားပြီး သစ္စာဆိုကာ မြင်းရထား တွေကို ဂင်္ဂါမြစ်ပြင်ထဲ မောင်းသွားခဲ့ပါတယ်။ မြင်းရထားတွေရဲ့

အကွပ်အနားလေးတောင် ရေမစိုခဲ့ပါဘူး။ ဒီ့အတူ ဒုတိယမြစ်၊ တတိယမြစ်တွေနား ရောက်တဲ့ အခါလည်း ဒီနည်းအတိုင်း သစ္စာဆိုပြီး ကူးသွားခဲ့ပါတယ်။

တတိယမြစ် ကူးသွားပြီးလို့ တစ်ဖက်ကမ်း ရောက်တဲ့ အခါ ညောင်ပင်အောက်မှာ သီတင်းသုံး နေတော်မူတဲ့ မြတ်စွာဘုရားကို ဖူးတွေ့ရပါတယ်။ မြတ်စွာဘုရားရှင်လည်း 'သြော်… ဒီမိဖုရားနဲ့ အမတ်ကတော်တွေ သူတို့အမျိုးသားတွေကို အရင်တွေ့မြင်လိုက်ရင် တပ်မက်တဲ့ ရာဂစိတ်တွေ ဖြစ်ပေါ်လာနိုင်တယ်၊ ဒီအခါ ငါတရား ဟောရင်လည်း အာရုံစိုက်နိုင်မှာ မဟုတ်တော့ဘူး၊ ဒါကြောင့် သူတို့ အမျိုးသားတွေကို မမြင်နိုင်လောက်အောင် တန်ခိုးနဲ့ ကွယ်ထားရင် ကောင်းမယ်'လို့ စိတ်အကြံ ဖြစ်တော်မူခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ဟာ စိတ်အကြံတော်အတိုင်း 'ဒီ အမျိုးသမီးတွေ သူတို့အမျိုးသားတွေကို မမြင်စေသတည်း'လို့ အဓိဋ္ဌာန်ထားလိုက်ပါတယ်။

## အနော်ဇာမိဖုရားနဲ့ အမတ်ကတော်များ သောတာပန်တည်၊ 'ရဟန်းမ'ဖြစ်

အနော်ဇာမိဖုရားနဲ့ အမျိုးသမီးတွေလည်း စန္ဒဘာဂါမြစ်ဆိပ်ကနေ တက်လာပြီး မြတ်စွာဘုရားကို ရှိခိုးကန်တော့ကာ ထိုင်နေခဲ့ကြတယ်။ ဒီအခါ မြတ်စွာဘုရားက တရားဟောကြားတော်မူပါတယ်။ တရားပွဲအပြီးမှာ အနော်ဇာမိဖုရားနဲ့ အမျိုးသမီးအားလုံး သောတာပတ္တိဖိုလ် တည်ခဲ့ကြပြီး သူတို့ရဲ့ အရှင်သခင် လင်ယောကျ်ားတွေကိုလည်း မြင်တွေ့ခဲ့ကြပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်ဟာ 'ဥပ္ပလဝဏ်ထေရီမ ရောက်လာစေသတည်း'လို့ အဓိဋ္ဌာန်တော်မူလိုက်ပါတယ်။ အဓိဋ္ဌာန်တော်မူချက်ကြောင့် ထေရီမ ရောက်လာပြီး အနော်ဇာမိဖုရား အမှူးပြုတဲ့ အမျိုးသမီးတွေကို အမျိုးသမီးဘိက္ခုနီ ရဟန်းမတွေနေတဲ့ ကျောင်းဆီ ခေါ်သွားခဲ့ပါတယ်။ မြတ်စွာဘုရား ကိုယ်တော်တိုင်က

တော့ ရဟန်းတစ်ထောင်ကို ခေါ်ကာ ကောင်းကင်ခရီးနဲ့ ဇေတဝန်ကျောင်းကို ကြွသွားတော်မူခဲ့ပါတယ်။

## မဟာကပ္ပိနမထေရ် ရဟန္တာဖြစ်၊ ဥဒါန်းကျူး

ဒီနောက်မှာတော့ အရှင်မဟာကပ္ပိနမထေရ်ဟာ ရဟန်းတရားကြိုးစားပွားများ အားထုတ်ခဲ့တဲ့အတွက် အရဟတ္တဖိုလ် ရရှိပြီး ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။ ရဟန္တာဖြစ်ပြီးတဲ့ အခါ အနီးနေ တပည့် ရဟန်းတစ်ထောင်ကို တရားဟော ဆုံးမပေးဖို့ ကြောင့်ကြမစိုက်တော့ဘဲ ဖလသမာပတ် ဝင်စားနေပြီး အဲဒီ ဖလသမာပတ်ချမ်းသာနဲ့ ရောက်တဲ့အရပ်တိုင်းမှာ "အဟော သုခံ - ချမ်းသာပေစွ၊ အဟော သုခံ - ချမ်းသာပေစွ" လို့ မပြတ် ဥဒါန်းကျူးရင့်နေပါတော့တယ်။ ဒီအခါကြားရတဲ့ ရဟန်းတွေက "သြော်··· ကပ္ပိနမထေရ်ဟာ မင်းစည်းစိမ်ချမ်းသာကို အမှတ်ရတဲ့အတွက် ဥဒါန်းကျူးရင့်နေတယ်" လို့ အထင်လွဲစကား ပြောဆိုခဲ့ကြပြီး၊ မြတ်စွာဘုရားထံလည်း ဒီအကြောင်းကို သွားရောက်လျှောက်ထားခဲ့ကြတယ်။

မြတ်စွာဘုရားရှင်က "ရဟန်းတို့··· ငါဘုရားရဲ့ သားတော်ကပ္ပိနရဟန်းဟာ မဂ်ချမ်းသာ၊ ဖိုလ်ချမ်းသာကို အာရုံပြုပြီး ဥဒါန်းကျူးနေတာ ဖြစ်တယ်" ဆိုတဲ့ အကြောင်း မိန့်ကြားတော်မူပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ဟောကြားတော်မူခဲ့ပါတယ်။

"ရဟန်းတို့၊ လောကုတ္တရာတရားကိုးပါး အရသာကို သောက်သုံးရတဲ့ ပုဂ္ဂိုလ်ဟာ ကြည်လင်တဲ့ စိတ်နဲ့ အေးချမ်းစွာ နေရတယ်၊ ပညာရှိပုဂ္ဂိုလ်ဟာ အရိယာသူတော်မြတ်တို့ ဟောကြားတဲ့ တရားတော်မှာ အမြဲတမ်း ပျော်မွေ့ပါပေတယ်"

**မဟာကပ္ပိနမထေရ် တရားဟော ဆုံးမ**

ဒီနောက်ပိုင်း တစ်နေ့မှာတော့ မြတ်စွာဘုရားရှင်ဟာ အရှင်မဟာကပ္ပိနမထေရ်ရဲ့ တပည့် ရဟန်းတစ်ထောင်ကို ခေါ်ပြီး "ရဟန်းတို့၊ ဘယ့်နှယ်လဲ၊ သင်တို့ဆရာက သင်တို့ကို တရားဟောပါရဲ့လား" လို့ မေးတော်မူခဲ့ပါတယ်။ ဒီအခါ ရဟန်းတစ်ထောင်က "မြတ်စွာဘုရား... တပည့်တော်တို့ ဆရာက တပည့်တော်တို့ကို တရားမဟောပါ ဘုရား၊ တရားဟောဆုံးမတဲ့ အလုပ်ကို ကြောင့်ကြမစိုက်ဘဲ လက်တွေ့ချမ်းသာတဲ့ ဖလသမာပတ်ကိုပဲ မပြတ်ဝင်စားပြီး နေပါတော့တယ် ဘုရား၊ တပည့် တစ်ပါးတလေကိုမှ ဆုံးမဩဝါဒစကားလေးတောင် မပေးပါ ဘုရား" လို့ ပြန်လည် လျှောက်ထားခဲ့ပါတယ်။

မြတ်စွာဘုရားရှင်က အရှင်မဟာကပ္ပိနမထေရ်ကို ခေါ်စေတော်မူပြီး "ချစ်သား ကပ္ပိန... သင်ဟာ သင့်ရဲ့ တပည့်တွေကို ဆုံးမဩဝါဒစကားလေးတောင် မပေးဘူး ဆိုတာ မှန်သလား" လို့ မေးတော်မူခဲ့ပါတယ်။ အရှင်မြတ်ကလည်း မှန်တဲ့အကြောင်း လျှောက်ထား ဖြေဆိုခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က "အို... သူတော်ကောင်း၊ ဒီလို မလုပ်ပါနဲ့၊ ဒီနေ့ကစပြီး သင်ဟာ သင့်တပည့်တွေကို တရားဟောပါ" လို့ တိုက်တွန်းတော်မူခဲ့ပါတယ်။

"ကောင်းပါပြီ မြတ်စွာဘုရား" လို့ အရှင်မဟာကပ္ပိနမထေရ်ဟာ မြတ်စွာဘုရား အမိန့်တော်ကို ဦးထိပ်ရွက်ပန်ပြီး တပည့်ရဟန်းတစ်ထောင်ကို တရားဟောခဲ့တာမှာ တရားတစ်ပွဲတည်းနဲ့ပဲ ရဟန်းတစ်ထောင်လုံးကို အရဟတ္တဖိုလ်တည်စေပြီး ရဟန္တာဖြစ်စေတော်မူနိုင်ခဲ့ပါတယ်။

ဒါကြောင့်ပဲ မြတ်စွာဘုရားရှင်ဟာ နောက်ပိုင်းကာလ တစ်ချိန်မှာ အရိယာ သံဃာတွေရဲ့ အလယ်မှာ ထိုင်တော်မူပြီး

မထေရ်မြတ်တွေကို အစဉ်အတိုင်း ဧတဒဂ်အရာ ထားတော်မူတဲ့အခါ "ရဟန်းတို့... အမျိုးသားရဟန်းတွေကို တရားဟောကြား ဆုံးမကြတဲ့ ရဟန်းတော်တွေထဲမှာ မဟာကပ္ပိန ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်"လို့ ချီးကျူးစကား မိန့်ကြားပြီး အရှင်မဟာကပ္ပိန မထေရ်ကို 'ဘိက္ခုဩဝါဒကဧတဒဂ်'အရာထားကာ ချီးမြှောက် တော်မူခဲ့ပါတယ်။

## (ဃ) အရှင်မြတ် ဟောကြားတဲ့ တရားတော်

(၁) "ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ဟာ မိမိအတွက် အကျိုးရှိမယ့် ကိစ္စကို ဖြစ်ဖြစ်၊ အကျိုးမဲ့မယ့် ကိစ္စကို ဖြစ်ဖြစ် မလုပ်ကိုင် မဆောင်ရွက်မီ ကြိုတင်ပြီး ဉာဏ်နဲ့ စဉ်းစား နှိုင်းချိန် ရတယ်၊ ဒီလို ဉာဏ်နဲ့ စဉ်းစားဆုံးဖြတ် လုပ်ကိုင်တတ်တဲ့ သူကို ရန်သူတွေကလည်း အကျိုးမဲ့အောင် လုပ်ဖို့ အခွင့် မရနိုင်ဘူး၊ မိတ်ဆွေတွေကလည်း ကောင်းတာ လုပ်ပေးဖို့ အခွင့်မရ၊ လုပ်ပေးစရာ မလိုတော့ပါဘူး"

(၂) "မြတ်စွာဘုရား ဟောကြားတဲ့ နည်းအတိုင်း အာနာပါန ကမ္မဋ္ဌာန်း (ထွက်လေ၊ ဝင်လေ ကမ္မဋ္ဌာန်း)ကို သတိ အပြည့်အဝထားပြီး ကြိုးစားအားထုတ်ထားတဲ့ သူဟာ တိမ်ကင်းစင်တဲ့ လလို လောကကို ဉာဏ်အလင်းရောင်နဲ့ ထွန်းလင်းတောက်ပ တင့်တယ်စေနိုင်ပါတယ်"

(၃) "ငါရဲ့ စိတ်ဟာ ရာဂ စတဲ့ ကိလေသာ အညစ်အကြေးတွေ ကင်းစင်တဲ့ အထိ ပွားများပြီး ဖြစ်လို့ ဖြူစင်နေပါပြီ၊ ဒါကြောင့် သစ္စာလေးပါးကိုလည်း ထိုးထွင်းသိ သိပြီးပါပြီ၊ စိတ်ကို ကိလေသာတွေကနေ နုတ်ထားပြီးပါပြီ၊ အတိတ်၊ ပစ္စုပ္ပန်ခန္ဓာဖြစ်စဉ် စတဲ့ ဓမ္မရေးရာတွေမှာလည်း ယုံမှား

သံသယတွေ ကင်းပြီး ဉာဏ်အလင်းတွေ ထွန်းလင်းစေနိုင်ခဲ့ပါပြီ''

(၄) ''ပညာရှိပုဂ္ဂိုလ် ဆိုတာ စီးပွားဥစ္စာတွေ ပျက်စီးသွားပေမယ့် သမ္မာအာဇီဝမပျက် အပြစ်ကင်းတဲ့နည်းနဲ့ အသက်မွေးနိုင်ကြပါတယ်၊ ပညာမဲ့သူတွေကတော့ ပညာမရှိတဲ့အတွက်ကြောင့်ပဲ ပစ္စည်းဥစ္စာတွေ များစွာ ရှိပေမယ့် အပြစ်ကင်းတဲ့နည်းနဲ့ အသက်မမွေးနိုင်ကြပါ''

(၅) ''ပညာဆိုတာ ကြားရတဲ့၊ မြင်ရတဲ့ အရာရာတိုင်းကို အမှား၊ အမှန် ဝေဖန်ဆုံးဖြတ်နိုင်တဲ့ သဘော ရှိပါတယ်။ ပညာဟာ မျက်မှောက်ရော မျက်ကွယ်ပါ ကောင်းသတင်း ကျော်စောခြင်းကို ဖြစ်စေနိုင်ပါတယ်၊ လောကမှာ ပညာရှိပုဂ္ဂိုလ်ဟာ ဘဝမှာ ကြုံတွေ့နေရတဲ့ ဆင်းရဲတွေထဲကနေ ချမ်းသာသုခကို ရအောင် ထုတ်ယူနိုင်ပါတယ်''

(၆) ''သတ္တဝါတွေ အိုကြ၊ နာကြ၊ သေကြတယ်ဆိုတာ အခုမှဖြစ်တာ မဟုတ်၊ သံသရာ စဉ်ဆက် အမြဲမပြတ် ဖြစ်နေတာမို့ မထူးဆန်းပါဘူး၊ မွေးလာရင် သေမှာပါပဲ၊ ဖြစ်လာရင် ပျက်မှာပဲ၊ ဒါဟာ သဘာဝမို့ မထူးဆန်းပါဘူး''

(၇) ''တစ်ဦးတစ်ယောက်သေလို့ ငိုတယ်ဆိုတာ သေသွားတဲ့သူပြန်ရှင်လာဖို့ အထောက်အကူ မပြုနိုင်ပါဘူး၊ သေသူကို အကြောင်းပြုပြီး ငိုနေတာဟာ ကောင်းသတင်းလည်း မဆောင်သလို စိတ်စင်ကြယ်သန့်ရှင်းဖို့လည်း မဖြစ်နိုင်၊ ပညာရှိသူတော်ကောင်းတွေ ချီးကျူးစရာလည်း မဟုတ်ပါ''

(၈) ''ငိုတာက မျက်စိကိုရော ခန္ဓာကိုယ်ကိုပါ ပင်ပန်းစေပါတယ်။ ငိုတဲ့အတွက်ကြောင့် ရုပ်ရေအဆင်းတွေ၊ ခွန်အားတွေ၊ အသိဉာဏ်တွေ ဆုတ်ယုတ်သွားနိုင်တယ်၊ ရန်သူ

တွေကို ဝမ်းသာစေပြီး ချစ်ရခင်ရသူတွေကို စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဖြစ်စေတတ်ပါတယ်"

(၉) "ဒါကြောင့် ပညာရှိပုဂ္ဂိုလ်တွေ၊ ဗဟုသုတ ပြည့်စုံကြွယ်ဝတဲ့သူတွေ မိမိဝန်းကျင်မှာ ထွန်းကားနေတာကို လိုလားရမယ်၊ ရေပြည့်နေတဲ့ မြစ်ကို လှေနဲ့ အလွယ်တကူ ကူးသွားနိုင်သလို ကိုယ့်ပတ်ဝန်းကျင်မှာ ပညာရှိသူတွေ၊ ဗဟုသုတ ပြည့်စုံတဲ့ သူတွေ ရှိနေရင် သူတို့ရဲ့ ပညာဗဟုသုတအစွမ်းတွေနဲ့ ကိုယ့်မှာ လိုအပ်တဲ့ ကိစ္စကြီးငယ်ကို အလွယ်တကူ ပြီးစေနိုင်ပါတယ်"



အရှင်မဟာကပ္ပိနမထေရ်ဟာ ဘဝမှာ ကြုံရတဲ့ အခက်အခဲကို သစ္စာနဲ့ ကျော်လွှားတော်မူခဲ့တယ်။

"ပညာရှိဆိုတာ ဘယ်လို အခြေအနေမျိုးမှာ ရောက်နေပါစေ ကိုယ်ကျင့်တရားကို မပျက်စေရဘူး" လို့လည်း ကိုယ်ကျင့်သီလကို မြတ်နိုးတတ်ဖို့ သတိပေး ဆုံးမတော်မူခဲ့တယ်။

နောက်ပြီး ကိုယ့်အတွက် အဖိုးတန်တဲ့ အချိန်ကို တပည့်ရဟန်းတစ်ထောင်အတွက် တရားဓမ္မ လမ်းညွှန်ဆုံးမ ဟောကြားပေးခြင်းနဲ့ စွန့်လွှတ်မှု-စာဂရဲ့ လောကအတွက် အရေးပါပုံကိုလည်း စံနမူနာပြတော်မူခဲ့တယ်။

ဒါအပြင် ပညာရဲ့ အဖိုးတန်ပုံကိုလည်း "ပညာရှိ ဆိုတာ ကြုံတွေ့လာတဲ့ ဆင်းရဲဒုက္ခတွေကနေ ချမ်းသာကို ပညာနဲ့ ရအောင် ယူတတ်ရတယ်" လို့ လမ်းညွှန်တော်မူခဲ့တယ်။

အရှင်မြတ်ကြီး ဘဝနဲ့ရင်းပြီး လမ်းညွှန်ကျင့်သုံးတော်မူခဲ့တဲ့ သစ္စာ၊ သီလ၊ စာဂ၊ ပညာ တရားတွေကို မိမိတို့ဘဝထဲ၊ နှလုံးသားထဲ

ရောက်အောင် ကူးယူကျင့်သုံးနိုင်ကြမယ် ဆိုရင် မိမိတို့တစ်တွေလည်း အရှင်မြတ်ကြီးလို ကိလေသာအပူတွေ ထာဝရ ငြိမ်းအေးတဲ့ အငြိမ်းဓာတ်ကို မလွဲမသွေ ရရှိနိုင်ကြမှာပါ။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၄၆။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၄၁။

၃။ အပဒါန်ပါဠိ၊ ၂၊ ၁၁၈။ အပဒါန်အဋ္ဌကထာ၊ ၂၊ ၂၁၈။

၄။ ထေရဂါထာပါဠိ၊ ၃၀၂။ ထေရဂါထာအဋ္ဌကထာ၊ ၂၊ ၁၇၉။

၅။ ဓမ္မပဒအဋ္ဌကထာ၊ ၁၊ ၃၅၁။

၆။ မိလိန္ဒပဉှာပါဠိ၊ ၁၂၆။



တေဇောကသိုဏ်း ဝင်စားတဲ့အရာ အကျွမ်းကျင်ဆုံး အသာဆုံး

တေဇောဓာတုကုသလဧတဒဂ်ရ

# အရှင်သာဂတ မထေရ်



စာသင်ဖို့ ရောက်လာကြတဲ့ ကိုရင်လေးတွေကို မေးကြည့်တဲ့အခါ တော်တော်များများမှာ အမေပဲ ရှိပြီး အဖေ မရှိတဲ့ ဖတဆိုးလေးတွေ ဖြစ်နေတာ များပါတယ်။ ဆက်ပြီး မေးကြည့်တဲ့ အခါ မအိုဆေး မှီဝဲကြလို့ မအိုခင်မှာပဲ မိသားစုကို ကစဥ့်ကလျားနဲ့ ထားရစ်ခဲ့ကြတဲ့ သူတွေပဲ အများအားဖြင့် ဖြစ်နေတတ်ပါတယ်။ ဩော်… ကျေးလက်ဒေသ ဘုန်းကြီးကျောင်းတွေမှာလည်း ‘သေနှင့်အရက်၊ စီးပွားဖျက်ကို၊ တစ်စက်ကယ်မှ၊ မသောက်ကြနှင့်၊ ရှောင်ကြပါလေ၊ ရှင်တော်ဟောသည့် အဆိပ်ရေ။ ကိုယ်နှင့်လည်းစာ၊ သတ္တဝါကို၊ ကြင်နာလှစေ၊ သူ့အသက်ကို ချစ်ပါလေ’စတဲ့ ရှင်မဟာရဋ္ဌသာရ

ဆုံးမစာ လင်္ကာသံပေါက် ရွတ်အံသံ မကြားရတာ ဆယ်စုနှစ် သုံးစု လောက်တော့ ရှိပြီ ထင်ပါရဲ့။

အခု ကြည်ညိုကြမယ့် အရှင်သာဂတမထေရ်ရဲ့ ဘဝဖြစ်စဉ်မှာလည်း 'ဆွမ်းဆန်ထဲ ကြွက်ချေးရော'ဆိုတာလို ကျွတ်တမ်းဝင်မယ့် နောက်ဆုံးဘဝ ရောက်နေတာတောင်မှ အရုပ်ဆိုး အကျည်းတန်စေတဲ့ ဖြစ်ရပ်ဆိုးက ပါလိုက်သေးတော့တယ်။ 'ပုထုဇဉ်ရဲ့ အဖြစ်ဟာ ဘာမှ စိတ်မချရသေးပါလား၊ ဒီနေ့ သူတော်ကောင်းကြီး ဖြစ်နေပေမယ့် နောက်နေ့မှာ လူတကာ အော့နှလုံးနာ စက်ဆုပ်ရွံမုန်းဖွယ်ရာ ကောင်းတဲ့ လူမိုက်ကြီးဖြစ်ချင် ဖြစ်သွားနိုင်ပါလား'လို့ပဲ သံဝေဂယူမိပါတယ်။

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်က သိင်္ဂါလသတို့သားကို ''သေရည်သေရက် သောက်စားတဲ့ အတွက် စီးပွားဥစ္စာ ကုန်ခန်းပျက်စီးတာ၊ ခိုက်ရန်များတာ၊ ရောဂါများတာ၊ ဂုဏ်ကျက်သရေ ညှိုးမှိန်စေတာ၊ ဖုံးကွယ်ထားရမယ့် ကိုယ်အင်္ဂါတွေကို ရှက်ကြောက်ရမှန်း မသိ လှစ်ပြတာနဲ့ ဉာဏ်ပညာကို အားနည်းအောင် ပြုတတ်တာ ဆိုတဲ့ ဆိုးကျိုး ခြောက်မျိုးကို ဖြစ်စေတတ်တယ်''လို့ ဟောကြားဆုံးမခဲ့ပါတယ်။ ဒီဒေသနာတော်အတိုင်း သေအရက်က အရှင်သာဂတမထေရ်ကို လောကီဉာဏ်အရာမှာ အသာဆုံးဖြစ်တဲ့ ဈာန်အဘိညာဉ်အသိဉာဏ်တွေ ကွယ်ပျောက်သွားစေခဲ့တယ်။

ဒါပေမဲ့ အရှင်သာဂတမထေရ်ဟာ မိမိရဲ့ အမှားကို အချိန်မီအသိ၊ သတိနဲ့ ထိန်းပြီး လမ်းကြောင်းမှန်ပေါ် ပြန်လည်လျှောက်လှမ်းနိုင်ခဲ့တဲ့ အတွက် သာသနာတော်ရဲ့ ထိပ်သီးပုဂ္ဂိုလ်စာရင်းမှာ မော်ကွန်းကမွည်း ရေးထိုးနိုင်ခဲ့ပါတယ်။ အရှင်မြတ်ထံက ဒီစိတ်ဓာတ်ကို မိမိတို့ထံ ကူးယူပြီး ကြိုးစားကြဖို့ပဲ ဖြစ်ပါတယ်။

## (က) အရှင်မြတ် ရတဲ့ ဧတဒဂ် အမိပ္ပာယ်

အရှင်သာဂတမထေရ်ဟာ တေဇောကသိုဏ်းကို အာရုံပြုပြီး ဈာန်ဝင်စားတဲ့ ရဟန်းတွေထဲမှာ အသာဆုံး ဧတဒဂ်ရ အရှင်မြတ် ဖြစ်ပါတယ်။ အရှင်မြတ်ဟာ အဆိပ်ပြင်းတဲ့ အမ္ဗတိတ္ထနဂါးမင်းကို တေဇောကသိုဏ်း ဈာန်သမာပတ်နဲ့ အဆိပ်တွေ ကုန်သွားအောင် ပြုလုပ်လိုက်ပြီး မာန်မာနတွေ၊ အမျက်ဒေါသတွေ ကျသွားအောင် ဆုံးမနိုင်ခဲ့ပါတယ်။ ဒါကြောင့် ဒီဧတဒဂ်ကို ရခဲ့တာပါ။ ပါဠိလိုက တော့ 'တေဇောဓာတုကုသလ' ဧတဒဂ်လို့ ခေါ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း

အရှင်မြတ်အလောင်း အမျိုးကောင်းသားဟာ ပဒုမုတ္တရ ဘုရားရှင်လက်ထက်တော်အခါက ဟံသာဝတီမင်းနေပြည်မှာ ဖြစ်ခဲ့ပြီး တစ်ချိန်မှာတော့ မြတ်စွာဘုရားရဲ့ တရားဒေသနာကို နာယူခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို တေဇောကသိုဏ်း ဈာန်ဝင်စားတဲ့ အရာ အသာဆုံး ဧတဒဂ်ပေးတာကို ဖူးမြင်ခဲ့ရပြီး ကုသိုလ်ကောင်းမှုပြုကာ ဒီဧတဒဂ်မျိုးကို ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။

## (ဂ) ပစ္ဆိမပွန်ဘဝဇာတ်ကြောင်း

အရှင်မြတ်အလောင်းဟာ အသက်ထက်ဆုံး ကုသိုလ် ကောင်းမှု ပြုလုပ်ခဲ့ပြီး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ရင်းက အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရားရှင် လက်ထက်တော် ရောက်လာ တဲ့အခါမှာတော့ သာဝတ္ထိပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူ့ရဲ့ အမည်ကို 'သာဂတလုလင်' လို့ မှည့်ခေါ်ခဲ့ကြတယ်။

**လောကီစျာန်၊ အဘိညာဉ်များ ရရှိတော်မူ**

အရွယ်ရောက်လာတဲ့ အခါ မြတ်စွာဘုရားရဲ့ တရားတော်ကို နာယူရတဲ့ အတွက် သဒ္ဓါတရား ဖြစ်ပေါ်လာပြီး ရဟန်းဝတ်ကာ တရားအားထုတ်ခဲ့ပါတယ်။ လောကီစျာန်သမာပတ်ရှစ်ပါး ရရှိခဲ့ပြီး စျာန်သမာပတ် ဝင်စားတဲ့ နေရာမှာ အတော်လေး ကျွမ်းကျင်နိုင်နင်းတဲ့အပြင် လောကီအဘိညာဉ် ငါးပါးကိုလည်း အချိန်မရွေး ဝင်စားနိုင်တဲ့အထိ ကျွမ်းကျင်ခဲ့ပါတယ်။

တစ်နေ့မှာတော့ မြတ်စွာဘုရားရှင်ဟာ ဒေသစာရီ ခရီးရှည်ကြွတော်မူခဲ့တာ ကောသမ္ဗီမြို့အနီး ရောက်တော်မူခဲ့ပါတယ်။ တစ်ချိန်တုန်းက ကောသမ္ဗီမြို့အနီးက သရက်ပင်ဆိပ်လို့ ခေါ်တဲ့ မြစ်ဆိပ်မှာ လှေကူးတို့ပို့လုပ်ငန်း လုပ်ကိုင်အသက်မွေးတဲ့ လှေသမားတစ်ဦး ရှိခဲ့ဖူးတယ်။ တစ်ခါမှာ အဲဒီ လှေသမားဟာ လှေစီးခရီးသည်တွေနဲ့ အဆင်မပြေ ခိုက်ရန်ဖြစ်ပွားပြီး ခရီးသည်တွေက ဝိုင်းရိုက်ကြလို့ သေသွားခဲ့တယ်။ လှေသမားဟာ သေခါနီး သူ့ကို ဝိုင်းရိုက်ကြတဲ့ ခရီးသည်တွေအပေါ် မကျေနပ်တဲ့ စိတ်တွေ ဖြစ်ပြီး ကလဲ့စားချေနိုင်တဲ့ သူဖြစ်ဖို့ စိတ်ညွှတ်သေခဲ့တာမို့ အဲဒီ ရေဆိပ်မှာပဲ တန်ခိုးအာနုဘော်ကြီးမားတဲ့ နဂါးမင်း ဖြစ်ခဲ့တယ်။ သရက်ပင်ဆိပ်မှာနေတဲ့ နဂါးမို့ အမ္ဗတိတ္ထနဂါးမင်းလို့ ခေါ်ကြတယ်။

ဒီနဂါးမင်းဟာ အဲဒီ ဒေသမှာ ရှိတဲ့ လူတွေအပေါ် အတော်မကျေနပ်တဲ့စိတ်ရှိတာကြောင့် သူ့တန်ခိုးနဲ့ မိုးမရွာသင့်တဲ့အချိန်တွေမှာ မိုးရွာစေတယ်။ ရွာသင့်တဲ့ အချိန်တွေမှာ မိုးမရွာအောင် လုပ်ထားတယ်။ ဒါကြောင့် အဲဒီ နယ်မှာ ကောက်ပဲသီးနှံတွေ မအောင်မြင်မဖြစ်ထွန်းပါဘူး။ အဲဒီ ဒေသမှာ နေကြတဲ့သူတွေဟာ သူတို့ရင်ဆိုင်နေရတဲ့ အန္တရာယ်တွေ ငြိမ်းအေးစေဖို့အတွက် နှစ်စဉ်နှစ်တိုင်း နဂါးမင်းကို ပူဇော်ပသကြတယ်။ နဂါးမင်းနေဖို့အတွက်လည်း နတ်ကွန်းလေးတစ်ခု ဆောက်လုပ်ပေးထားခဲ့ကြတယ်။

## နဂါးမင်းနဲ့ အရှင်သာဂတ တန်ခိုးပြိုင်

မြတ်စွာဘုရားရှင်လည်း နဂါးမင်းရှိတဲ့ သရက်ပင်ဆိပ်ကနေ မြစ်ကမ်းပေါ် ကူးတက်တော်မူခဲ့ပြီး ရဟန်းတော်များ ခြံရံကာ အဲဒီ ရေဆိပ်အနီးက ဘဒ္ဒဝတိကာရွာမှာ တစ်ညတာ နားနေတော်မူခဲ့ပါ တယ်။ နွားကျောင်းသားတွေ၊ ဆိတ်ကျောင်းသားတွေ၊ လယ်သမား တွေ၊ ခရီးသွားပုဂ္ဂိုလ်တွေက စိုးရိမ်တကြီးနဲ့ နဂါးကြီးရဲ့ အန္တရာယ် ရှိတာကြောင့် မြတ်စွာဘုရားရှင်ကို ဒီရေဆိပ်အနီးက ရွာမှာ နားနေ တော်မမူဖို့ သုံးကြိမ်သုံးခါ လျှောက်ထားခဲ့ကြတယ်။ မြတ်စွာဘုရားရှင် ကတော့ ဘာမှ ပြန်လည် မိန့်တော်မမူခဲ့ပါဘူး။

အဲဒီ အချိန်က မြတ်စွာဘုရားနဲ့ အတူပါလာတဲ့ အရှင်သာဂတ မထေရ်ဟာ ဒီအရပ်မှာ ကြမ်းတမ်းတဲ့ နဂါးကြီး ရှိတဲ့ အကြောင်း ကြားသိရတာနဲ့ 'ငါဟာ ဒီနဂါးကြီးကို ဆုံးမရရင် ကောင်းမယ်' လို့ တွေးကြံပြီး နဂါးမင်းကြီးနေတဲ့ နတ်ကွန်းထဲ ဝင်ကာ တင်ပလ္လင်ခွေ ထိုင်နေလိုက်တယ်။ ဒီအခါ နဂါးမင်းဟာ "ဒီကတုံးစုတ်က ငါ့နေရာ ဝင်လာပြီး ထိုင်နေရတယ်" လို့ စိတ်ဆိုးပြီး အခိုးအလျှံတွေ လွှတ်ပြီး အရှင်သာဂတမထေရ်ကို တိုက်ခိုက်ပါတယ်။ အရှင်မြတ်ကလည်း နဂါးမင်းရဲ့ အခိုးအလျှံထက် ပိုပြင်းတဲ့ အခိုးအလျှံတွေကို ဣဒ္ဓိဝိဓ အဘိညာဉ် တန်ခိုးနဲ့ ပြန်လွှတ်ခဲ့ပါတယ်။ ဒီအခါ နဂါးမင်းက မီးတောက်တွေ လွှတ်ပြီး တိုက်ခိုက်ပြန်ပါတယ်။ အရှင်မြတ်ကလည်း တေဇောကသိုဏ်းစျာန်ဝင်စားပြီး ပိုအရှိန်ပြင်းတဲ့ မီးတောက်တွေ လွှတ်ကာ နဂါးမင်းကြီးရဲ့ တန်ခိုးအရှိန်တွေ ကုန်သွားအောင် ဆုံးမ ခဲ့ပါတယ်။

ဒီအခါ နဂါးမင်းဟာ 'သြော်… ဒီရဟန်းဟာ အတော် တန်ခိုးဣဒ္ဓိပါဒ် ကြီးပါပေတယ်' လို့ သိနားလည်သွားပြီး အရှင်မြတ်ရဲ့ ခြေတော်ရင်း ဝပ်စင်းကာ "အရှင်ဘုရား… တပည့်တော် အရှင် ဘုရားတို့ကို ကိုးကွယ်ဆည်းကပ်ပါတယ် ဘုရား" လို့ လျှောက်ထား

ခဲ့ပါတယ်။ အရှင်မြတ်က “ငါ့ကို ကိုးကွယ် ဆည်းကပ်စရာ မလို၊ မြတ်စွာဘုရားကိုသာ ကိုးကွယ်ဆည်းကပ်ပါ”လို့ တိုက်တွန်းလိုက်ပါတယ်။ နဂါးမင်းလည်း “ကောင်းပါပြီ အရှင်ဘုရား”လို့ ဝန်ခံလိုက်ပြီး ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်တဲ့ သရဏဂုံတည်သူဖြစ်ခဲ့ပါတယ်။ နဂါးမင်း သရဏဂုံတည်ပြီးတဲ့ နောက်ပိုင်းမှာတော့ နဂါးမင်းဟာ ဘယ်သူ့ကိုမှ မညှဉ်းဆဲတော့ပါဘူး။ မိုးကိုလည်း အချိန်မှန် ရွာသွန်းစေခဲ့ပါတယ်။ ဒါကြောင့် ကောက်ပဲသီးနှံတွေလည်း ဖြစ်ထွန်းလာခဲ့ပါတယ်။

အရှင်သာဂတမထေရ်ဟာ နဂါးမင်းကို ဆုံးမပြီးတဲ့နောက် မြတ်စွာဘုရားရှင် ရှိရာ ဘဒ္ဒဝတိကာရွာကို သွားရောက်ခဲ့ပါတယ်။ မြတ်စွာဘုရားရှင်လည်း ဘဒ္ဒဝတိကာ ရွာသူရွာသားတွေကို တရားဟော ဆုံးမတော်မူပြီး ကောသမ္ဗီပြည်ကို ခရီးဆက် ကြွချီတော်မူခဲ့ပါတယ်။ ကောသမ္ဗီပြည်သားတွေဟာ မြတ်စွာဘုရား မရောက်ခင်ကပဲ “အရှင်သာဂတမထေရ်ဟာ အမ္ဗတိတ္ထ သရက်ပင်ဆိပ်က နဂါးကြမ်းကြီးကို ဆုံးမလိုက်ပြီ”ဆိုတဲ့ သတင်းကို တစ်ဆင့်စကား တစ်ဆင့်နားနဲ့ ကြားသိနေနှင့်ကြပါတယ်။ မြတ်စွာဘုရား ကောသမ္ဗီပြည်ကို ဆိုက်ရောက်လာတာနဲ့ ကောသမ္ဗီပြည်သားတွေဟာ ခရီးဦး ကြိုဆို ကန်တော့ခဲ့ကြတယ်။ အဲဒီနောက် အရှင်သာဂတမထေရ်ထံ သွားရောက်ပြီး “အရှင်ဘုရား... အရှင်ဘုရားတို့အဖို့ ဘယ်လိုပစ္စည်းဝတ္ထုမျိုးဟာ ရခဲပါသလဲ၊ နှစ်သက်ဖွယ်လည်း ဖြစ်ပါသလဲ၊ တပည့်တော်တို့ ဘယ်လို လှူဖွယ်ပစ္စည်းဝတ္ထုမျိုးကို စီရင်ရပါမလဲ ဘုရား”လို့ မေးမြန်းခဲ့ကြတယ်။

ဒီအခါ လျှပ်ပေါ်လော်လည်တဲ့ ဆဗ္ဗဂ္ဂီရဟန်းတွေက ကြားဝင်ပြီး ကောသမ္ဗီပြည်သားတွေကို “ဒကာတို့... ခိုခြေထောက်အဆင်းလို နီတွေးတဲ့ အဆင်းရှိပြီး ကြည်လင်တဲ့ သေအရက်ဟာ ရဟန်းတွေအတွက် ရဖို့လည်း မလွယ်ဘူး၊ နှစ်သက်ဖွယ်ရာလည်း ဖြစ်ပါတယ်၊ ဒါကြောင့် ဒီသေအရက်ကို စီရင်ကြပါ”လို့ ပြောဆိုခဲ့ကြတယ်။

## အရှင်သာဂတ အရက်မူးပြီး ဘုရားမှန်း မသိအောင် သတိလွတ်

ဆဗ္ဗဂ္ဂီရဟန်းတွေရဲ့ တိုက်တွန်းချက်အရ ရိုးသားကြတဲ့ ကောသမ္ဗီပြည်သားတွေဟာ အိမ်တိုင်း အိမ်တိုင်းမှာ သေအရက်တွေ စီမံထားကြပြီး နောက်နေ့မှာ ဆွမ်းခံဝင်လာတဲ့ အရှင်သာဂတမထေရ်ကို "အရှင်ဘုရား၊ ဒီကြည်လင်တဲ့ သေအရက်ကို သောက်သုံးတော်မူပါ" လို့ လျှောက်ခဲ့ကြတယ်။

ဒီအခါ မြတ်စွာဘုရားက သေအရက် မသောက်ဖို့ သိက္ခာပုဒ် မပညတ်ရသေးတဲ့ အတွက် အပြစ်ရှိတယ်လို့ မထင်တာနဲ့ အရှင်သာဂတ မထေရ်ဟာ အိမ်တိုင်း အိမ်တိုင်းက ကပ်တဲ့ သေအရက်ကို နည်းနည်းစီ နည်းနည်းစီ သောက်ခဲ့ပါတယ်။ မြို့အထွက် တံခါးဝလည်း ရောက်ရော အရှင်သာဂတ မူးပြီး လဲကျပါတော့တယ်။

အဲဒီ အချိန်မှာ မြတ်စွာဘုရားနဲ့ ရဟန်းတော်တွေလည်း ကောသမ္ဗီမြို့ထဲကနေ ဆွမ်းစားပြီး ပြန်ကြွအလာ မြို့တံခါးဝမှာ လဲကျနေတဲ့ အရှင်သာဂတကို မြင်တွေ့တော်မူခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက "ရဟန်းတို့... သာဂတကို ပွေ့ချီခေါ်ခဲ့ကြ" လို့ မိန့်တော်မူတဲ့ အတွက် ရဟန်းတွေဟာ အရှင်သာဂတကို ပွေ့ချီလာခဲ့ကြပြီး ကျောင်းရောက်တဲ့အခါ မြတ်စွာဘုရားရှင် ရှိတော်မူတဲ့ဘက်ကို ဦးခေါင်းထားကာ မြတ်စွာဘုရားရှင်ရဲ့ ခြေတော်ရင်းမှာ လှဲသိပ်လိုက် ကြပါတယ်။

## မြတ်စွာဘုရား သိက္ခာပုဒ်ပညတ်

အဲဒီလို လှဲသိပ်လိုက်တဲ့ အခါ အရှင်သာဂတဟာ အမူးလွန်ပြီး သတိတွေ လွတ်နေတဲ့ အတွက် ကိုယ်ကို ပြောင်းပြန်လှည့်ပြီး ဘုရားရှင် ရှိတော်မူတဲ့ဘက်ကို ခြေကန်ကာ အိပ်နေပါတော့တယ်။ ဒီအခါ မြတ်စွာဘုရားရှင်က ရဟန်းတွေကို ဖော်ပြပါအတိုင်း မေးခွန်းတွေ မေးတော်မူပြီး ရဟန်းတွေက ပြန်လည် ဖြေကြားခဲ့ကြပါတယ်၊

"ရဟန်းတို့… အရင်က သာဂတဟာ ငါဘုရားအပေါ် ရိုသေလေးစားတယ် မဟုတ်လား"

"မှန်ပါ ရိုသေလေးစားပါတယ် ဘုရား"

"ခုတော့ သာဂတဟာ ငါဘုရားအပေါ် ရိုသေလေးစားတဲ့ သဘော ရှိသေးရဲ့လား"

"မရှိတော့ပါ ဘုရား"

"ရဟန်းတို့… သာဂတဟာ သရက်ပင်ဆိပ်တုန်းက နဂါးနဲ့ အနိုင် စစ်ထိုးနိုင်ခဲ့တယ် မဟုတ်လား"

"မှန်ပါ၊ အနိုင်ထိုးနိုင်ခဲ့ပါတယ် ဘုရား"

"ခုတော့ နဂါးနဲ့ မပြောနဲ့ ရေမြွေနဲ့တောင် စစ်ထိုးနိုင်ပါဦး မလား"

"မထိုးနိုင်တော့ပါ ဘုရား"

"ရဟန်းတို့… ဒါဆိုရင် သတိသညာ ပျောက်ကင်းပြီး မူးယစ်စေတတ်တဲ့ သေအရက်ကို သောက်သုံးသင့်ပါသလား"

"မသောက်သင့်ပါ မြတ်စွာဘုရား"

ဆက်လက်ပြီး မြတ်စွာဘုရားရှင်ဟာ "ရဟန်းတို့… ဈာန်၊ အဘိညာဉ်တွေ ရထားပါလျက် သာဂတရဟန်း အခုလို သေအရက် သောက်သုံးတာဟာ မလျောက်ပတ်၊ မလျော်ကန်၊ မသင့်တင့်ပါ၊ မအပ်စပ် မပြုသင့်ပါ၊ ရဟန်းတွေရဲ့ အပြုအမူလည်း မဟုတ်ပါ၊ သာဂတရဟန်းရဲ့ အပြုအမူဟာ သာသနာ မကြည်ညိုသေးတဲ့ သူတွေ ကြည်ညိုလာဖို့လည်း မဖြစ်စေနိုင်ပါ"စသည်ဖြင့် ကဲ့ရဲ့ ပြစ်တင်တော်မူပြီး "သေရည်သေရက်သောက်လျှင် ပါစိတ်အာပတ်သင့်စေ"လို့ ရဟန်းတွေအတွက် သိက္ခာပုဒ် ပညတ်တော်မူခဲ့ပါတယ်။

## အရှင်သာဂတမထေရ် ရဟန္တာဖြစ်

အရှင်သာဂတဟာ နောက်နေ့မှာ အမူးပြေ သတိရလာတဲ့အခါ မိမိ မှားယွင်းမိတဲ့ ဖြစ်ရပ်ကို ကြားသိရတာနဲ့ အလွန် ရှက်ကြောက်

သွားပြီး မြတ်စွာဘုရားထံ သွားရောက်ကာ မိမိ အပြစ်ကို ဝန်ချတောင်းပန် ကန်တော့ခဲ့ပါတယ်။ ကန်တော့ပြီးနောက် သံဝေဂဉာဏ်တွေ ကြီးမားစွာ ဖြစ်ပေါ်လာပြီး ဝိပဿနာတရားကို ပွားများအားထုတ်ခဲ့ပါတယ်။ မကြာခင်မှာပဲ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။

နောက်ပိုင်းကာလတစ်ချိန်မှာ မြတ်စွာဘုရားရှင်ဟာ အရိယာသံဃာတော်တွေရဲ့ အလယ်မှာ သီတင်းသုံးတော်မူပြီး မထေရ်မြတ်တွေကို အစဉ်အတိုင်း ဧတဒဂ်အရာထား ချီးမြှောက်တော်မူတဲ့ အခါ "ရဟန်းတို့၊ တေဇောကသိုဏ်းစျာန် ကျွမ်းကျင်စွာ ဝင်စားနိုင်တဲ့ ငါဘုရားရဲ့ တပည့်ရဟန်းတွေထဲမှာ သာဂတ ရဟန်းဟာ အသာဆုံးအမြတ်ဆုံး ဖြစ်ပါပေတယ်" လို့ တေဇောဓာတုကုသလဧတဒဂ်ဘွဲ့ထူးနဲ့ အရှင်သာဂတမထေရ်ကို ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဃ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော် သုရာပါနဇာတ်

မြတ်စွာဘုရားရှင်က အရှင်သာဂတ အရက်သောက်တာကို အကြောင်းပြုပြီး သိက္ခာပုဒ် ပညတ်တော်မူပြီးတဲ့ အခါ အဲဒီ ဓမ္မသဘင်အခမ်းအနားမှာ ရှိနေကြတဲ့ ရဟန်းတော်များက "ငါ့ရှင်တို့... အရက်သောက်တာဟာ အတော့်ကို အပြစ်ကြီးပါလား၊ ဒီအရက်က အရှင်သာဂတလို ဈာန်အဘိညာဉ်နဲ့ ပြည့်စုံတဲ့ တန်ခိုးရှင်ပုဂ္ဂိုလ်ကိုတောင် မြတ်စွာဘုရားရှင်ရဲ့ ဂုဏ်ကျေးဇူးကို မသိနိုင်လောက်တဲ့အထိ ပြုနိုင်ပါပေတယ်"လို့ အရက်သောက်တာရဲ့ အပြစ်ကြီးပုံကို အချင်းချင်း ပြောဆိုခဲ့ကြတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က ရဟန်းတော်တွေ အချင်းချင်း ပြောတဲ့ စကားကို သိတော်မူပြီးနောက် "ရဟန်းတို့... အခုမှသာ အရက်သောက်ပြီး ရဟန်းတွေဟာ မူးမူးရူးရူး ဖြစ်တာ မဟုတ်သေး

ဘူး၊ ရှေးအတိတ်ကာလဆီကလည်း ဖြစ်ခဲ့ဖူးတယ်”လို့ မိန့်တော်မူပြီး အတိတ်ဇာတ်ကို ဟောတော်မူခဲ့ပါတယ်။

“ရဟန်းတို့… အတိတ်ကာလ တစ်ခုဆီက ဗာရာဏသီပြည်မှာ ဗြဟ္မဒတ်မင်း စိုးစံနေတဲ့ အချိန် ဘုရားလောင်းဟာ ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့တယ်၊ အရွယ်ရောက်တဲ့ အခါ ရသေ့ရဟန်း ဝတ်ခဲ့ပြီး ဟိမဝန္တာ တောင်ခြေမှာ တပည့်ငါးရာနဲ့အတူ တရားအားထုတ်နေခဲ့တယ်၊ ဘုရားလောင်းရသေ့ဟာ လောကီဈာန် အဘိညာဉ်တန်ခိုးတွေအထိ ရရှိခဲ့ပါတယ်။

တစ်ခါမှာတော့ မိုးလရာသီ ရောက်ခါနီးတဲ့ အချိန် တပည့်ရသေ့တွေက ‘ဆရာရသေ့… အကျွန်ုပ်တို့တစ်တွေ မိုးတွင်းကာလမှာ ဗာရာဏသီမြို့ထဲသွားပြီး ဆားချဉ်မှီဝဲရင်း နေပါရစေ’လို့ ခွင့်တောင်းပါတယ်။ ဒီအခါ ဆရာရသေ့က ‘ငါ့ရှင်တို့… သင်တို့ သွားကြ၊ ငါကတော့ ဒီဟိမဝန္တာမှာပဲ နေခဲ့မယ်၊ သင်တို့တစ်တွေ ခန္ဓာကိုယ် သပ္ပာယဖြစ်လို့ မိုးလကုန်တဲ့ အခါ ပြန်လာခဲ့ကြပေါ့”လို့ ပြောဆိုပြီး ခွင့်ပြုလိုက်ပါတယ်။

ဒီအခါ တပည့်ရသေ့ငါးရာတို့ဟာ ဆရာရသေ့ကို ရှိခိုးကန်တော့ပြီး ဗာရာဏသီမြို့ကို သွားရောက်ကာ ဘုရင့်ဥယျာဉ်တော်အတွင်းမှာ နေခဲ့ကြတယ်။ မနက်မိုးသောက် အလင်းရောက်တဲ့ အခါ ဗာရာဏသီမြို့တွင်း ဝင်ပြီး ဆွမ်းခံကြတယ်။ မြို့သူမြို့သားတွေက ရသေ့တွေကို မြင်တွေ့တဲ့ အခါ ကြည်ညိုကြပြီး ဆွမ်းလောင်းလှူခဲ့ကြတယ်။ တစ်ရက်၊ နှစ်ရက် ကြာတဲ့ အခါ ဘုရင်ကြီးကိုလည်း ရသေ့ ငါးရာ ဘုရင့်ဥယျာဉ်တော်အတွင်း ရောက်နေပါကြောင်း၊ ကြည်ညို ဖွယ်ရာ ကောင်းပါကြောင်း၊ ကိုယ်ကျင့်သီလတွေနဲ့ ပြည့်စုံပါကြောင်း သံတော်ဦးတင် အသိပေးခဲ့ကြတယ်။

ဒီအခါ ဘုရင်ကြီးလည်း ဥယျာဉ်တော်ကို သွားရောက်ပြီး ရသေ့ငါးရာကို ဖူးတွေ့ ကန်တော့ပါတယ်၊ မိုးလကာလပတ်လုံး

ဥယျာဉ်တော်မှာပဲ သီတင်းသုံးနေထိုင်ပြီး နန်းတော်မှာပဲ ဆွမ်းခံအမြဲကြွဖို့ လျှောက်ထားပင့်ဖိတ်ခဲ့ပါတယ်၊ ရသေ့ငါးရာတို့လည်း ဘုရင်ကြီး ပင့်ဖိတ်တာကို လက်ခံပြီး အမြဲတမ်း နန်းတော်ကြွရောက် ဆွမ်းခံ ဘုဉ်းပေးကာ ဘုရင့်ဥယျာဉ်တော်မှာပဲ သီတင်းသုံးနေထိုင်ခဲ့ကြတယ်။

တစ်နေ့မှာတော့ ဗာရာဏသီမြို့မှာ သေရည်သောက် နက္ခတ်ပွဲသဘင် ဆင်ယင်ကျင်းပကြပါတယ်၊ ဒီအခါ ဗြဟ္မဒတ်မင်းကြီးက 'ရသေ့ရဟန်းတွေအတွက် သေအရက်ဆိုတာ ရခဲတယ်' လို့ ဆိုပြီး အကောင်းဆုံးအရက်တွေကို ရသေ့တွေဆီ အပို့ခိုင်းလိုက်ပါတယ်၊ ရသေ့တွေဟာ အဲဒီ အရက်တွေကို သောက်ပြီး မူးယစ်ကာ တချို့ ရသေ့တွေက ကကြတယ်၊ တချို့ ရသေ့တွေက သီချင်းတွေ ဆိုကြတယ်၊ ကကြခုန်ကြ ဆိုကြပျော်ကြရင်း အိပ်ပျော်သွားကုန်ကြတယ်၊ အရက်မူးပြေလို့ အိပ်ရာက နိုးကြတဲ့ အခါ မိမိတို့ရဲ့ မူးရူးပြီး ကခဲ့ဆိုခဲ့ မထိန်းနိုင် မသိမ်းနိုင်ဖြစ်ခဲ့တာတွေကို အမှတ်ရခဲ့ကြတယ်။

ဒီအခါ 'ဩော်··· ငါတို့တစ်တွေ ရှင်ရဟန်းတွေနဲ့ မလျော်မလျောက်ပတ်တာတွေ လုပ်မိခဲ့ပြီ'လို့ နောင်တတွေရပြီး အော်ဟစ်ငိုကြွေးခဲ့ကြတယ်။ ပြီးတော့ 'ငါတို့ ဒီလိုဖြစ်တာဟာ ဆရာနဲ့ ကင်းကွာနေလို့ ဖြစ်ရတာ၊ ဆရာနဲ့ ဝေးနေတဲ့အတွက်ကြောင့် ငါတို့ ဒီလို ခြေလွတ်လက်လွတ်ဖြစ်ပြီး မကောင်းမှုတွေ လုပ်မိကြတာ'လို့ တိုင်ပင်ကြပြီး ချက်ချင်းပဲ ဟိမဝန္တာတော ပြန်ခဲ့ကြတယ်။

ဟိမဝန္တာ ပြန်ရောက်လို့ ဆရာရသေ့ကို ကန်တော့ပြီး ထိုင်နေတဲ့အခါ ဆရာရသေ့က 'တပည့်တို့··· ဘယ်လိုလဲ၊ ဗာရာဏသီမှာ နေရတာ ဆွမ်းကွမ်းသပ္ပာယ မျှရဲ့လား၊ ချမ်းသာစွာ နေရရဲ့လား၊ ညီညီညွတ်ညွတ်ရော နေကြရဲ့လား'စသဖြင့် မေးပါတယ်။

ဒီအခါ တပည့်ရသေ့တွေက 'အို··· ဆရာ၊ အကျွန်ုပ်တို့ ချမ်းသာစွာ နေခဲ့ကြရပါတယ်၊ ဒါပေမဲ့ အကျွန်ုပ်တို့ဟာ မသောက်သင့် မသောက်ထိုက်တဲ့ သေရည်အရက်ကို သောက်ခဲ့ကြပြီး သတိ

လက်လွတ် မူးရူးကာ ကလည်း ကခဲ့ကြပါတယ်၊ သီချင်းတွေလည်း ဆိုခဲ့ကြပါတယ်၊ နောင်တတွေရပြီး ငိုလည်း ငိုခဲ့ကြပါတယ်'လို့ ဝန်ခံပြောဆိုခဲ့ကြပါတယ်။

ဒီအခါ ဘုရားလောင်း ဆရာရသေ့က 'တပည့်တို့… ဆရာနဲ့ ကင်းကွာပြီး နေရင် ခုလို သတိလက်လွတ်ပြီး မကောင်းမှုတွေ လုပ်မိတတ်တယ်၊ နောင် ဒါမျိုး မဖြစ်စေကြနဲ့''လို့ ဆုံးမ ဩဝါဒ ပေးခဲ့ပါတယ်။ ဘုရားလောင်း ဆရာရသေ့ဟာ ဈာန်အဘိညာဉ် မလျှောကျအောင် အားထုတ်နေထိုင်ခဲ့တဲ့ အတွက် အဲဒီ ဘဝကနေ ကွယ်လွန်တဲ့ အခါ ဗြဟ္မာ့ပြည် ရောက်ခဲ့ပါတယ်။

ရဟန်းတို့၊ အဲဒီတုန်းက ရသေ့ငါးရာဟာ ခုနေခါ ငါ ဘုရားရဲ့ တပည့်ပရိသတ်တွေ ဖြစ်လာခဲ့ပါတယ်၊ အဲဒီတုန်းက ဆရာရသေ့ဆိုတာ ငါဘုရားပါပဲ''လို့မိန့်တော်မူပြီး ဇာတ်ပေါင်းပြတော်မူခဲ့ပါတယ်။



လောကမှာ ပညာအားနည်းသွားပြီ ဆိုရင် ယုံကြည်မှုတွေ လွဲချော်သွားတတ်ပါတယ်။ ယုံကြည်မှု နည်းပြန်ရင်လည်း သိတဲ့ အသိဉာဏ်တွေက ဉာဏ်နီဉာဏ်နက်တွေ ဖြစ်သွားတော့တာပါ။ ဒီသဘောအတိုင်းပါပဲ၊ အခုကြည်ညိုခဲ့ကြတဲ့ အရှင်သာဂတမထေရ်ရဲ့ အထ္ထုပ္ပတ္တိမှာ အရှင်မြတ်ရဲ့ တန်ခိုးအစွမ်းကို ကြည်ညိုပြီး လှူဒါန်း လိုကြတဲ့ ကောသမ္ဗီပြည်သားတွေကို သာသနာတွင်းမှာ နေကြပေမယ့် ယုံကြည်မှု သဒ္ဓါစိတ်ခံ အားနည်းကြတဲ့ ဆဗ္ဗဂ္ဂီရဟန်းတွေက တလွဲ တိုက်တွန်းခဲ့ကြတာကို တွေ့ရမှာပါ။ တစ်ခါ ကောသမ္ဗီပြည်သား တွေမှာလည်း သဒ္ဓါသာ ရှိပြီး ပညာနည်းရှာတဲ့ အတွက် မလှူသင့်တဲ့ အရက်ကို လှူကောင်းတယ်လို့ ထင်ပြီး လှူခဲ့ကြတယ်။ မိမိတို့မှာ

အဲဒီလို ချွတ်ချော်မှုတွေ မဖြစ်ရလေအောင် သဒ္ဓါနဲ့ ပညာကို ညီမျှနေစေဖို့အတွက် သတိနဲ့ မပြတ် ထိန်းညှိပေးနေရမှာ ဖြစ်ပါတယ်။

နောက်ပြီး ရှင်တော်ဘုရားက ဘဝပျက်စီးကြောင်း အဆိပ်ရေလို့ ဟောထားတဲ့ သေအရက်ကိုလည်း မထီမဲ့မြင် မပြုဖို့ အရေးကြီးလှပါတယ်။ 'တော်ရုံတန်ရုံသောက်ရင် ဆေးဖြစ်တယ်'လို့ ယူဆတဲ့သူတွေလည်း မနည်းပါဘူး။ ဒါပေမဲ့ တော်ရုံတင်နဲ့ တင်းတိမ်နိုင်ကြရဲ့လား ဆိုတာကတော့ ဆန်းစစ်ဖို့ လိုပါလိမ့်မယ်။ ဝါတမိဂဇာတ်တော်မှာတော့ 'ရသတဏှာဟာ တင်းတိမ်နိုင်ဖို့ မလွယ်ဘူး၊ ရသတဏှာထက် ဆိုးတဲ့ အရာ၊ ယုတ်ညံ့တဲ့ အရာ မရှိဘူး၊ ရသတဏှာဟာ အဆိုးဆုံး'လို့ ဟောကြား ဆုံးမထားပါတယ်။

ဒါအပြင် 'လောကမှာ မရောင့်ရဲ မတင်းတိမ်နိုင်တဲ့ အရာတွေက အိပ်တာရယ်၊ အရက်သောက်တာရယ်၊ မေထုန်မှီဝဲတာရယ်'ဆိုပြီး သုံးမျိုးရှိတဲ့ အကြောင်း'လည်း မြတ်စွာဘုရား ဟောထားပါသေးတယ်။ ဒါကို အင်္ဂုတ္တိုရ်တိကနိပါတ်မှာ ဖော်ပြထားပါတယ်။

ဘယ်လိုပဲ ဖြစ်ဖြစ် မိမိတို့ဘဝတွေ၊ မိသားစုဘဝတွေကို ကျွမ်းထိုးမှောက်ခုံ ဖြစ်မသွားစေချင်ရင်တော့ အရှင်သာဂတမထေရ်လို ကိုယ့်ကိုယ်ကိုယ် တရားနဲ့ စောင့်ထိန်းရုံမှတစ်ပါး အခြား မရှိဘူးလို့ပဲ ဆိုပါရစေ။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၅၁။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၆၈။

၃။ အပဒါန်ပါဠိတော်၊ ၁။ ၉၂။

၄။ အပဒါန်အဋ္ဌကထာ၊ ၂။ ၅၂။

၅။ ဇာတကအဋ္ဌကထာ၊ ၁။ ၃၈၁။

၆။ ပါစိတ်ပါဠိတော်၊ ၁၄၄။

၇။ သပြေကန်ဆရာတော်၏ ပရိတ်ကြီးနိဿယသစ်။

မြတ်စွာဘုရားရှင်ရဲ့
ဓမ္မဒေသနာဉာဏ်ပညာတို့ ဖြစ်စေတဲ့အရာ အထာဆုံး

ဝဋ္ဋိဘာနေယျအဓေတာဓဝ်ရ

# အရှင်ဂေါဓ မထေရ်





"လောကော သတ္တာနမာစေရော"

"လောကော-လောကကြီးဟာ၊ သတ္တာနံ-သတ္တဝါတွေအတွက်၊ အာစေရော-အရာရာကို သင်ပြပေးနေတဲ့ ဆရာ ဖြစ်တယ်" လို့ ပညာရှိတွေက မိန့်ဆိုကြတယ်။ ဟုတ်ပါတယ်၊ လောကကြီးဟာ ဆရာပါ။

မိမိတို့ လိုချင်တဲ့ အသိပညာ၊ အတတ်ပညာတွေ ရအောင် ဆရာသမားတွေထံမှာ သင်ယူကြရပါတယ်။ မသိရင် မေးကြရပါ

တယ်။ ကိုယ်နားမလည်ရင် ကိုယ့်ထက်နားလည်သူထံ ချဉ်းကပ်ပြီး ဆွေးနွေးကာ အကြံကောင်း ဉာဏ်ကောင်းတွေ ရယူကြရပါတယ်။ စာအုပ်စာပေတွေကနေလည်း အကြံသစ် ဉာဏ်သစ်တွေ ရယူကြရပါတယ်။ ယုတ်စွအဆုံး ကိုယ့်ပတ်ဝန်းကျင်မှာ ရှိတဲ့ သက်ရှိ၊ သက်မဲ့တွေဆီကနေလည်း ကိုယ့်ဘဝအတွက် အသုံးဝင်မယ့် အသိသစ် အမြင်သစ်တွေကို ရအောင် သင်ယူတတ်ရပါတယ်။

လောကမှာ သဗ္ဗညုမြတ်စွာဘုရားကလွဲလို့ ဆရာ မပါဘဲ အလိုလို တတ်မြောက်တဲ့ သူ ဆိုတာ မရှိပါဘူး။ ဆရာသမားတွေဆီမှာ စနစ်တကျ သင်ယူပါမှ အရာရာ ကျွမ်းကျင်တတ်မြောက် သိနားလည်ကြရတာပါ။

'ပန်းပဲဆရာ အထု မခံရသော သံတုံး လက်နက် မဖြစ်။ ကျောက်ဆစ်ဆရာ အဖြတ် မခံရသော ကျောက်တုံး အရုပ် မဖြစ်။ ဆရာသမား အဆုံးမ မခံရသော တပည့် သူကောင်း မဖြစ်' လို့ ပထမရွှေကျင်ဆရာတော်ကြီးကလည်း သူတော်ကောင်းတစ်ယောက် ဖြစ်လာဖို့အတွက် ဆရာသမားနဲ့ ကင်းကွာလို့ မရတဲ့ အကြောင်း အသုံးဝင်တဲ့ လက်နက်ဥပမာ၊ ကျောက်ရုပ်ဥပမာတွေနဲ့ ပြပြီး ဆုံးမတော်မူခဲ့ပါတယ်။

ဒီလိုမှ မဟုတ်ဘဲ သိယောင်ကား တတ်ယောင်ကားနဲ့ ငါလောက်သိတာ ဘယ်သူမှ မရှိ၊ ငါ့ထက်တော်တာ ဘယ်သူမရှိထင်ပြီး ရမ်းသန်းမှန်းပြီး လျှောက်လုပ်နေရင်တော့ ကိုယ်လိုရာပန်းတိုင် မရောက်ဘဲ ကျရှုံးမှုတွေနဲ့ပဲ ရင်ဆိုင်ရမှာ ဖြစ်ပါတယ်။

လောကီရေးကိစ္စတွေမှာထက် အထူးသဖြင့် လောကုတ္တရာရေး ကိစ္စတွေမှာ ဆရာကောင်း၊ သမားကောင်း ပိုပြီး လိုအပ်လှပါတယ်။ အရှင်ရာဓမထေရ်ရဲ့ အကြောင်းကို ကြည့်ညှိုတဲ့ အခါ အရှင်ရာဓမထေရ်ဟာ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးရဲ့ တပည့်

ကောင်း ဖြစ်ခဲ့ပါတယ်။ အရှင်မြတ်ကြီး ဆုံးမတဲ့ အတိုင်း တစ်သဝေ မတိမ်း လိုက်နာကျင့်ကြံ အားထုတ်ခဲ့ပါတယ်။ အရှင်ရာဓမထေရ်ရဲ့ ဆရာ့စကား လိုက်နာနားထောင်မှုကို မြတ်စွာဘုရားရှင်ကတောင် 'ကျန်တဲ့ ရဟန်းတွေလည်း ရာဓ ရဟန်းလို ပြောလွယ်၊ ဆိုလွယ်၊ ဆုံးမလွယ်တဲ့သူ ဖြစ်ကြဖို့၊ မိမိရဲ့ အပြစ်ကို ထောက်ပြပြောဆိုပြီး ဆုံးမတတ်သူကို ရွှေအိုးရှိရာကို ညွှန်ပြသူကဲ့သို့ မှတ်ယူဖို့' ဆိုပြီး အရှင်ရာဓမထေရ်ကို စံနမူနာပြ ပုဂ္ဂိုလ်အဖြစ် ထုတ်ပြကာ ချီးကျူး ညွှန်ပြတော်မူခဲ့တာပါ။

ဒါကြောင့် မိမိတို့ရဲ့ နေ့စဉ်ဘဝ လောကီကိစ္စရပ်တွေမှာ ဖြစ်ဖြစ်၊ လောကုတ္တရာ တရားပိုင်းဆိုင်ရာမှာ ဖြစ်ဖြစ် ဆရာကောင်း သမားကောင်းတွေထံ မှီဝဲဆည်းကပ် နည်းခံဖို့ လိုအပ်သလို အဲဒီ ဆရာ သမားတွေရဲ့ ပြောဆိုဆုံးမချက်တွေ၊ အကြံကောင်း ဉာဏ်ကောင်း ပေးတာတွေကို ယူတတ်ဖို့လည်း သိပ်ကို အရေးကြီးလှပါတယ်။

ဒါအပြင် အရှင်ရာဓမထေရ်ရဲ့ လူ့ဘဝတုန်းက အမှတ်တမဲ့ ဆွမ်းလေးတစ်ဇွန်း လောင်းလှူခဲ့ဖူးတဲ့ အကြောင်းတရားက အရှင် သာရိပုတ္တရာမထေရ်မြတ်လို အရှင်မြတ်ကြီးက ပြန်ပြီး ကျေးဇူးသိ၊ တုံ့ပြန်ပေးဆပ်တဲ့အနေနဲ့ ရဟန်းခံပေးတာ၊ တရားပြပေးတာ၊ တရား ကျင့်ဖို့ စောင့်ရှောက်ပေးတာ ဆိုတဲ့ ကြီးမားတဲ့ အကျိုးတရားတွေကို ဖြစ်ပေါ်စေခဲ့တာကိုလည်း သတိထားမိစေချင်ပါတယ်။ တစ်ခါတလေ ဘဝမှာ ကိုယ်က အမှတ်တမဲ့ လုပ်ပေးလိုက်တဲ့ ဘာမဟုတ်တဲ့ အရာလေးက ကိုယ့်ဘဝအတွက် ကြီးကျယ်တဲ့ အကျိုးတရားတွေကို ရရှိစေတတ်တယ် ဆိုတဲ့ ကံကြမ္မာရဲ့ သဘောကို ညွှန်ပြနေပါတယ်။

ဒါကြောင့် ဘဝမှာ ဘယ်ကိစ္စမဆို အောင်မြင်ချင်ကြတယ် ဆိုရင် အရှင်ရာဓမထေရ်လို ဆရာကောင်း သမားကောင်း အမှီရဖို့ အရေးကြီးလှပါတယ်။ နောက်ပြီး အဲဒီ ဆရာကောင်း သမားကောင်း

ညွှန်ပြတဲ့ အတိုင်း တစ်သဝေမတိမ်း လိုက်နာဖို့ကလည်း ပိုလို့တောင် အရေးကြီးလှပါတယ်။ ဘယ်ကိစ္စမဆို ကိုယ်က စေတနာထည့်ပြီး တတ်နိုင်သလောက် လုပ်သွားရင် အကျိုးကောင်းတွေ ပေးနိုင်တဲ့ အမှတ်တမဲ့ အကြောင်းတရားကောင်းတွေ ပိုင်ဆိုင်သွားမှာပါ။ ဒီလို အဖိုးတန် ဓမ္မအသိတွေ ရရှိဖို့အတွက် အရှင်ရာဓမထေရ်အကြောင်းကို ကြည်ညိုကြပါမယ်။

## (က) အရှင်မြတ် ရတဲ့ ဧတဒဂ် အဓိပ္ပာယ်

အရှင်ရာဓမထေရ် ဆိုတာ မြတ်စွာဘုရားရှင်ရဲ့ ဓမ္မဒေသနာ ဉာဏ်ပညာကို ဖြစ်စေတဲ့ ရဟန်းတွေထဲမှာ အသာဆုံး ဧတဒဂ်ရ မထေရ် ဖြစ်ပါတယ်။ ပါဠိလို 'ပဋိဘာနေယျက' ဧတဒဂ်လို့ ခေါ်ပါတယ်။ အရှင်မြတ်ဟာ အသိဉာဏ်အမြင်လည်း ကြီးမားသလို တရားတော်အပေါ်မှာ သက်ဝင် ယုံကြည်တဲ့ သဒ္ဓါတရားကလည်း ကြီးမားလှပါတယ်။ ပညာနဲ့ သဒ္ဓါကြီးမားတာကြောင့် သူ့မှာ တရားနဲ့ ပတ်သက်ပြီး သိချင်စိတ်တွေကလည်း ပြင်းပြလှပါတယ်။ ဒါကြောင့် အရှင်မြတ်ဟာ မြတ်စွာဘုရားထံ မကြာမကြာ သွားပြီး သူသိလိုတဲ့ တရားတော်ရဲ့အနက်အဓိပ္ပာယ်တွေကို မေးမြန်းခဲ့ပါတယ်။ အရှင်ရာဓမထေရ်ရဲ့ မေးခွန်းတွေကြောင့်ပဲ မြတ်စွာဘုရားမှာ တရားဟောတာနဲ့ ပတ်သက်တဲ့ ဉာဏ်ပညာ ပဋိဘာန် အသစ် အသစ်တွေ တိုးကာ တိုးကာ ဖြစ်ပွားလာခဲ့ပါတယ်။ ဒါကြောင့် အရှင်မြတ်ဟာ မြတ်စွာဘုရားရဲ့ ဓမ္မဒေသနာ ဉာဏ်ပညာကို ဖြစ်ပွားစေတဲ့ အရာ အသာဆုံး ဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း

အရှင်ရာဓမထေရ်လောင်းဟာ ပဒုမုတ္တရ ဘုရားရှင် လက်ထက်တော်အခါက ဟံသာဝတီ မင်းနေပြည်မှာ အမျိုးကောင်း

သား ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့ အခါ မြတ်စွာဘုရားထံ သွား ရောက်ပြီး တရားတော် နာယူခဲ့ပါတယ်။ တရားပွဲမှာ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို မြတ်စွာဘုရားရဲ့ ဓမ္မဒေသနာ ဉာဏ်ပညာကို ဖြစ်စေတဲ့ အရာ အသာဆုံး ပဋိဘာနေယျကဧတဒဂ်အရာထားကာ ချီးမြှောက်တာကို ဖူးတွေ့ခဲ့ရပါတယ်။ ဒီအခါ အရှင်မြတ်လောင်း အမျိုးကောင်းသားဟာ အားကျစိတ် ဖြစ်ပေါ်လာပြီး ကုသိုလ်ကောင်းမှု အကြီးအကျယ်ပြုလုပ်ကာ အဲဒီရဟန်းရတဲ့ ဧတဒဂ်မျိုး ရလိုပါကြောင်း မြတ်စွာဘုရားထံ ဆုပန် ဆုတောင်းခဲ့ပါတယ်။

## ဝိပဿီမြတ်စွာဘုရားကို သရက်သီးဆွမ်း လောင်းလှူ

အရှင်မြတ်လောင်းဟာ အဲဒီ ဘဝကနေ ကွယ်လွန်ပြီးတဲ့ အခါ ဖြစ်လေရာ ဘဝတိုင်း ဘဝတိုင်းမှာလည်း ကောင်းမှုကုသိုလ်တွေ ဆည်းပူးပြုလုပ်ခဲ့ပြီး ဝိပဿီမြတ်စွာဘုရား လက်ထက်ရောက်တဲ့ အခါ အမျိုးကောင်းသား ဖြစ်ခဲ့ပြန်ပါတယ်။ အရှင်မြတ်လောင်း အရွယ် ရောက်လို့ တတ်သိနားလည်တဲ့ အချိန် တစ်နေ့မှာ မြတ်စွာဘုရား ဆွမ်းခံကြွလာတာကို ဖူးတွေ့လိုက်ရပါတယ်။ ဒီအခါ မြတ်စွာဘုရား အပေါ် ကြည်ညိုသဒ္ဓါစိတ်တွေ ဖြစ်ပေါ်လာပြီး ချိုမြိန်တဲ့ သရက်သီး တွေ လှူဒါန်းခဲ့ပါတယ်။ အရှင်မြတ်လောင်းဟာ သရက်သီးလှူရတဲ့ ကောင်းမှုကုသိုလ်ကံကြောင့် နတ်ပြည်ရောက်ခဲ့ပြီး ဖြစ်လေရာရာ ဘဝတိုင်းမှာလည်း ပါရမီကောင်းမှု ကုသိုလ်တွေ ဆည်းပူးခဲ့တယ်။

## (ဂ) ပစ္စုပ္ပန်ဘဝ ဇာတ်ကြောင်း

## ရာဇပုဏ္ဏားကြီး ရဟန်းပြုခွင့် မရတဲ့ အတွက် စိတ်ဆင်းရဲ

ဒီလိုနဲ့ သံသရာတစ်ခွင် နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည် ရင်းက အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရားလက်ထက် ရောက်လာတဲ့

အခါ ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူ့ရဲ့ နာမည်ကို 'ရာဓလုလင်' လို့ မှည့်ခေါ်ခဲ့ကြတယ်။ အရွယ်ရောက်တဲ့ အခါ အိမ်ထောင်ပြုခဲ့တယ်။ အသက်အရွယ်လေးရလို့ အိုမင်းမစွမ်း ဖြစ်လာတဲ့ အခါ ဇနီးနဲ့ သားသမီးတွေရဲ့ မထီမဲ့မြင်ပြုတာကို ခံရတဲ့ အတွက် ရဟန်းဝတ်တော့မယ်လို့ စိတ်ဆုံးဖြတ်လိုက်တယ်။ ကျောင်းသွားပြီး ရဟန်းတွေထံ ရဟန်းခံခွင့် တောင်းခဲ့ပါတယ်။ ရဟန်းတွေကလည်း 'ဒီပုဏ္ဏားကြီး အသက်ကြီးပြီ၊ ဝတ်ကြီး၊ ဝတ်ငယ်တွေလည်း ဖြည့်ကျင့်နိုင်မှာ မဟုတ်တော့ဘူး' လို့ တွေးပြီး ရာဓပုဏ္ဏားကြီးကို ရဟန်းခံ မပေးခဲ့ကြပါဘူး။ ဒီအခါ ပုဏ္ဏားကြီးဟာ ပိုပြီး စိတ်ဓာတ်တွေကျ၊ စိတ်တွေ ဆင်းရဲခဲ့ပါတယ်။ မစားနိုင် မသောက်နိုင်ဖြစ်ပြီး လူလည်း ပိန်ချုံးသွားတယ်၊ အရိုးပေါ် အရေတင်တဲ့အထိ ဖြစ်သွားခဲ့တယ်။

တစ်နေ့မှာတော့ ရာဓပုဏ္ဏားကြီးဟာ မြတ်စွာဘုရားထံ သွားရောက်ပြီး နှုတ်ဆက် စကားစမြည် ပြောဆိုပါတယ်။ မြတ်စွာဘုရားက ပုဏ္ဏားကြီးရဲ့ ရှေးပါရမီကောင်းမှုကို ဉာဏ်တော်နဲ့ သိမြင်လိုက်တာကြောင့် စကားပြောဆိုဖို့အတွက် ပုဏ္ဏားကြီးကို ခုလို စကားစလိုက်ပါတယ်။

"ပုဏ္ဏားကြီး... သားသမီး ဇနီးမယားတွေက သင့်ကို မလုပ်ကျွေး မပြုစုကြဘူးလား"

"ဘယ်မှာ ပြုစုလုပ်ကျွေးကြပါမလဲဘုရား၊ တပည့်တော်ကို လူအိုကြီး၊ ဘာမှ အသုံးမကျတော့ဘူး ဆိုပြီး အိမ်က နှင်ချကြတယ် ဘုရား"

"ဒါဆိုရင် သင် ရဟန်းဝတ်သင့်တယ် မဟုတ်လား"

"အသက်ကြီးနေတဲ့ အတွက်ကြောင့် ဘယ်ရဟန်းကမှ တပည့်တော်ကို ရဟန်းခံ မပေးချင်ကြဘူး ဘုရား၊

ဒါကြောင့် တပည့်တော် ပိုပြီး စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဖြစ်သွားခဲ့ရပါတယ် ဘုရား”

**ရာဓပုဏ္ဏားကြီးရဲ့ ဆွမ်းတစ်ဇွန်း လောင်းလှူခဲ့ဖူးတဲ့ ကျေးဇူးကို အရှင်သာရိပုတ္တရာ အမှတ်ရ**

ဒီအခါ မြတ်စွာဘုရားက “ရဟန်းတို့၊ သင်တို့ထဲက ဘယ်သူများ ဒီပုဏ္ဏားကြီးရဲ့ ကျေးဇူးတရားကို သိမြင်အောက်မေ့ အမှတ်ရကြပါသလဲ”လို့ ရဟန်းတွေကို မေးတော်မူခဲ့ပါတယ်။

အရှင်သာရိပုတ္တရာမထေရ်က “မြတ်စွာဘုရား၊ တပည့်တော် ဒီပုဏ္ဏားကြီးရဲ့ ကျေးဇူးတရားကို အောက်မေ့ အမှတ်ရပါတယ် ဘုရား”လို့ လျှောက်ထားခဲ့ပါတယ်။

မြတ်စွာဘုရားက “သာရိပုတ္တရာ၊ ပုဏ္ဏားကြီးရဲ့ ကျေးဇူးတရားကို သင် ဘယ်လို အောက်မေ့မိတုံး”လို့ မေးတော်မူတဲ့ အတွက် “မြတ်စွာဘုရား… တစ်နေ့မှာ တပည့်တော် ရာဇဂြိုဟ်မြို့ထဲ ဆွမ်းခံကြွနေတုန်း ပုဏ္ဏားကြီးက တပည့်တော်ကို ဆွမ်းတစ်ဇွန်း လောင်းလှူခဲ့ဖူးပါတယ်ဘုရား၊ တပည့်တော် ပုဏ္ဏားကြီးရဲ့ ဒီကျေးဇူးတရားကို မမေ့ပါဘူးဘုရား”လို့ အရှင်သာရိပုတ္တရာက ပြန်လည် လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက အရှင်သာရိပုတ္တရာရဲ့ ကျေးဇူးတရား သိတတ်မှုကို သာဓု ခေါ်တော်မူပြီး “သာရိပုတ္တရာ… သူတော်ကောင်းတွေ ဆိုတာ သူတစ်ပါးရဲ့ ကျေးဇူးတရားကို သိလည်း သိကြတယ်၊ ပြန်ပြီးတော့လည်း ကျေးဇူးဆပ်တတ်ကြတယ်။ ဒါကြောင့် သင်ဟာ ဒီပုဏ္ဏားကြီးကို ရှင်ရဟန်းပြုပေးလိုက်ပါ”လို့ မိန့်တော်မူခဲ့ပါတယ်။

## ရာဓပုဏ္ဏားကြီး ရဟန်းပြုခွင့်ရ၊ ရဟန္တာဖြစ်

အရှင်သာရိပုတ္တရာမထေရ်ဟာ မြတ်စွာဘုရားရဲ့ စကားတော်ကို ဦးထိပ်မှာ ရွက်ပန်ပြီး ရာဓပုဏ္ဏားကြီးကို ရဟန်းခံပေးခဲ့ပါတယ်။ မြတ်စွာဘုရားက အထူးတလည် မိန့်ကြားပြီး ရဟန်းခံပေးဖို့ တာဝန်ပေးခဲ့တာကြောင့် အရှင်သာရိပုတ္တရာမထေရ်ဟာ အရှင်ရာဓကို အထူးဂရုစိုက် စောင့်ရှောက်ခဲ့ပါတယ်။ အရှင်သာရိပုတ္တရာမထေရ်ဟာ အရှင်ရာဓကို ရွာငယ်လေး တစ်ရွာကို ခေါ်သွားခဲ့ပြီး ရဟန်းသစ် အရှင်ရာဓအတွက် နေရာအခက်အခဲ မဖြစ်စေဖို့ ဝါစဉ်အလိုက် ရထားတဲ့ သူ့ရဲ့ ကျောင်းမှာ နေရာချထားပေးခဲ့ပါတယ်။ အရှင်သာရိပုတ္တရာကိုယ်တိုင်ကတော့ သင့်တော်တဲ့ သစ်ပင်အောက်မှာ သွားရောက်ပြီး သီတင်းသုံး နေထိုင်ခဲ့ပါတယ်။

အရှင်ရာဓဟာ ရဟန်းသစ် ဆိုတော့ ဆွမ်းခံတဲ့ အခါလည်း ဆွမ်းမျှတအောင် မရခဲ့ပါဘူး။ အရှင်သာရိပုတ္တရာကပဲ ဆွမ်းခံကျွေးခဲ့ရပါတယ်။ အခုလို အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးရဲ့ စောင့်ရှောက်မှုကို ရခဲ့တာကြောင့် အရှင်ရာဓဟာ နေစရာအခက်အခဲ၊ ဆွမ်းအခက်အခဲ မဖြစ်တော့ဘဲ မထေရ်မြတ်ကြီး သင်ပေးတဲ့ ကမ္မဋ္ဌာန်းတရားကို စိတ်အေးချမ်းသာစွာ ပွားများ အားထုတ်နိုင်ခဲ့တဲ့ အတွက် မကြာခင်မှာပဲ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

အရှင်ရာဓ ရဟန္တာဖြစ်ပြီးတဲ့နောက် အရှင်သာရိပုတ္တရာမထေရ်ဟာ အရှင်ရာဓကို ခေါ်ပြီး မြတ်စွာဘုရားထံ သွားရောက်ဖူးမြော်ခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ သိတော်မူရက်နဲ့ပဲ ‘‘သာရိပုတ္တရာ၊ ငါဘုရား သင့်ထံ အပ်လိုက်တဲ့ ရဟန်းဟာ ဘယ်လိုလဲ၊ သာသနာမှာ ပျော်ရဲ့လား’’လို့ မေးတော်မူပါတယ်။

“မြတ်စွာဘုရား၊ သာသနာမှာ အလွန် ပျော်တဲ့ ရဟန်းမျိုးဆိုတာ ဒီရာဓရဟန်းလို ရဟန်းမျိုးသာ ဖြစ်ပါတယ်ဘုရား” လို့ အရှင်သာရိပုတ္တရာက အရှင်ရာဓကို ညွှန်ပြကာ ဖြေကြားခဲ့ပါတယ်။

**အဟိတ်တိရစ္ဆာန်ဘဝ ရောက်နေတာတောင်မှ**
**သူတစ်ပါးကျေးဇူးကို သိပြီး ပြန်လည် ပေးဆပ်ခဲ့တဲ့ အရှင်သာရိပုတ္တရာ**

အဲဒီ နောက်မှာတော့ “သြော်… အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးဟာ သူတစ်ပါး ကျေးဇူးကိုလည်း သိတော်မူပါပေတယ်၊ သူတစ်ပါးကျေးဇူးကို ပြန်လည် ပေးဆပ်တော်မူတတ်ပါပေတယ်” လို့ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးရဲ့ ကျေးဇူးသိတတ်မှုနဲ့ ပတ်သက်ပြီး ချီးကျူးတဲ့ စကား တရားပွဲမစခင် သံဃာ့အလယ်မှာ ဖြစ်ပေါ်ခဲ့ပါတယ်။ ဒီစကားကို ကြားတော်မူတဲ့ အခါ မြတ်စွာဘုရားရှင်က “ရဟန်းတို့၊ သာရိပုတ္တရာရဲ့ ယခုလို နောက်ဆုံးဘဝမှာ သူတစ်ပါးကျေးဇူးသိတာ၊ သူတစ်ပါးကျေးဇူးသိပြီး ပြန်ဆပ်တယ် ဆိုတာ အထူးအဆန်း အံ့သြစရာ မဟုတ်ပါ၊ သာရိပုတ္တရာဟာ လွန်လေပြီး အတိတ်ကာလဆီက အဟိတ်တိရစ္ဆာန်ဘဝမှာ ဖြစ်နေတာတောင်မှ သူတစ်ပါးကျေးဇူးကို သိတတ်ခဲ့တယ်၊ ပြန်လည် တုံ့ပြန် ပေးဆပ်ခဲ့တယ်” လို့ မိန့်တော်မူခဲ့ပါတယ်။

**အရှင်သာရိပုတ္တရာမထေရ်ရဲ့ ကျေးဇူးသိ၊ ကျေးဇူးဆပ်ပုံ အတိတ်ဇာတ်**

ဒီအခါ ရဟန်းတော်များက အတိတ်ဇာတ်ကြောင်း ပြန်လည် ဟောပြပေးဖို့ တောင်းပန်ကြတဲ့ အတွက် မြတ်စွာဘုရားက အတိတ်ဇာတ်ကြောင်းကို ခုလို ပြန်လည် ဟောပြတော်မူခဲ့ပါတယ်။

“ရဟန်းတို့… ရှေးလွန်လေပြီး အတိတ်ကာလတစ်ခုတုန်းက လက်သမား ငါးရာတို့ဟာ တောင်ခြေမှာ ရှိတဲ့ သစ်တောကြီးထဲ

သွားပြီး သစ်တွေကို ခုတ်လှဲ ဖြတ်တောက် သစ်ဖောင်တွေဖွဲ့ကာ မြစ်ကြောအတိုင်း မျှောဖို့ ပြင်ဆင်လုပ်ကိုင်ကြတယ်။

အဲဒီ အချိန်မှာ တောထဲမှာ ရှိတဲ့ ဆင်ကြီးတစ်ကောင်ဟာ သစ်ကိုင်းတစ်ခုကို နှာမောင်းနဲ့ ချိုးချရင်းက ဟန်ချက်ပျက်ပြီး ခြေထောက် တစ်ချောင်းက သစ်ငုတ်ပေါ် နင်းမိသွားတယ်၊ သစ်ငုတ် စူးဝင်သွားတဲ့ အတွက် ခြေထောက်မှာ ဒဏ်ရာရသွားပြီး နာကျင်တဲ့ ဒုက္ခဝေဒနာ အပြင်းအထန် ခံစားနေရရှာတယ်၊ ဒီဒဏ်ရာကြောင့် တောဆင်ကြီးဟာ ခရီးမဆက်နိုင်ဘဲ အဲဒီ နေရာမှာတင်ပဲ လှဲနေခဲ့ရတယ်။

နှစ်ရက် သုံးရက်လောက် ရှိတဲ့ အခါ တောဆင်ကြီးဟာ သူ့ အနီးနားက ဖြတ်သွားကြတဲ့ လက်သမားတွေကို တွေ့မြင်ပြီး 'ငါ ဒီလက်သမားတွေကို အမှီပြုပြီး အသက်ချမ်းသာရာ ရနိုင်လောက်တယ်'လို့ တွေးကြံပြီး လက်သမားတွေ နောက်ကို ထပြီး လိုက်သွားခဲ့တယ်၊ လက်သမားတွေဟာ တောဆင်ကြီးကို မြင်ပြီး ကြောက်တာနဲ့ ထွက်ပြေးကုန်ကြတယ်၊ လက်သမားတွေ ထွက်ပြေးသွားတဲ့ အခါ တောဆင်ကြီးက ရပ်နေလိုက်တယ်၊ လက်သမားတွေလည်း ပြေးရင်းက ရပ်ပြီး နောက်ပြန်လှည့်ကြည့်တဲ့ အခါ ဆင်ကြီး ရပ်နေတာကို တွေ့ကြရတယ်၊ လက်သမားတွေ ခုလို ရပ်ကြည့်နေတဲ့ အခါ ဆင်ကြီးက သူတို့ကို အားကိုးတဲ့စိတ်နဲ့ လက်သမားတွေနောက် လိုက်သွားပြန်တယ်။

ဒီအခါ လက်သမားခေါင်းဆောင်ကြီးက 'သြော်… ဒီတောဆင်ကြီးဟာ ငါတို့ ရပ်နေရင် သူက တို့နောက်လိုက်တယ်၊ ငါတို့ ကြောက်လို့ ပြေးသွားတဲ့ အခါ သူက ရပ်နေတယ်၊ ဧကန္တ အကြောင်းတစ်ခုခု တော့ ရှိမယ်'လို့ တွေးတောကြံစည်မိတယ်။

ဒီနောက် လက်သမားတွေဟာ သစ်ပင်တစ်ပင်ပေါ် တက်လိုက်ကြပြီး တောဆင်ကြီးအလာကို စောင့်နေခဲ့ကြတယ်၊ တောဆင်ကြီးလည်း လက်သမားတွေ ရှိတဲ့ သစ်ပင်ကြီးနား ရောက်အောင် လိုက်လာပြီး ငုတ်စူးထားတဲ့ ခြေထောက်ကို လက်သမားတွေ မြင်သာအောင်ပြကာ အဲဒီ သစ်ပင်အောက်မှာပဲ လှဲအိပ်လိုက်တယ်။

ဒီအခါ လက်သမားတွေဟာ 'သြော်… ဒီဆင်ကြီး သစ်ငုတ်စူးနေလို့ ငါတို့နောက် လိုက်နေတာကိုး၊ တခြားကြောင့် မဟုတ်ဘူး' လို့ သိနားလည် သဘောပေါက်သွားကြပြီး သစ်ပင်ပေါ်ကနေဆင်းလာကုန်တယ်။ နောက်ပြီး ဆင်ကြီးရဲ့ ခြေထောက်မှာ စူးဝင်နေတဲ့ သစ်ငုတ်ကို လက်နက်ကိရိယာတွေနဲ့ ဆွဲနုတ်လိုက်ကြပြီး အနာထဲကနေ ပြည်ပုပ်တွေ ညှစ်ထုတ်ပေးခဲ့ကြတယ်၊ ပြည်ပုပ်၊ သွေးပုပ်တွေ ထုတ်ပယ်ပြီးတဲ့ အခါ ဖန်ရေဆေးပေးကြပြီး သူတို့ တတ်သိနားလည်သလောက် ဆေးမြစ် ဆေးရွက်တွေ ကြိတ်ကာ အုံထားပေးလိုက်ကြတယ်၊ သိပ်မကြာခင်မှာပဲ ဆင်ကြီးမှာ ရောဂါဝေဒနာ ပျောက်ကင်းသွားခဲ့တယ်။

တောဆင်ကြီးဟာ ရောဂါဝေဒနာ သက်သာပျောက်ကင်းပြီးတဲ့နောက် 'ဒီလက်သမားတွေဟာ ငါ့အပေါ် ကျေးဇူးများတဲ့ သူတွေဖြစ်တယ်၊ သူတို့ရဲ့ ကုသပေးမှုကြောင့် ငါ အသက် ချမ်းသာရာရခဲ့တာ ဖြစ်တယ်၊ ငါဟာ သူတို့ ကျေးဇူးတွေကို သိပြီး ကျေးဇူးတွေကို ပြန်ပေးဆပ်မှ သင့်တော်မယ်' လို့ စဉ်းစားကြံစည်ခဲ့တယ်။

အဲဒီလို စဉ်းစားပြီးနောက် တောဆင်ကြီးဟာ သူ နေထိုင်တဲ့ တောထဲကို ပြန်သွားခဲ့ပြီး တစ်ကိုယ်လုံး ဆွတ်ဆွတ်ဖြူနေတဲ့ မင်္ဂလာဆင်ဖြူသားငယ်ကို ခေါ်ဆောင်ကာ လက်သမားတွေထံ ပြန်လာခဲ့တယ်၊ ဒီအခါ လက်သမားတွေက မင်္ဂလာဆင်ဖြူသားငယ်လေးကို တွေ့မြင်ခဲ့ကြပြီး 'သြော်… ငါတို့ တောဆင်ကြီးဟာ သူ့သားလေး

ခေါ်ပြီး ပြန်လာတာပဲ’ လို့ တွေးကာ အတော်လေးကို နှစ်သက်အားရ ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ကြတယ်။

ဒီ့နောက် တောဆင်ကြီးဟာ ‘ငါ ဒီမှာ ဆက်နေနေမယ် ဆိုရင် ဘာလို့ ဒီဆင်ကြီး သားလေးကို ခေါ်ပြီး ပြန်လာတာပါလဲဆိုတဲ့ ငါပြန်လာတဲ့ အကြောင်းရင်းကို လက်သမားတွေ သိမှာ မဟုတ်ဘူး’ လို့ တွေးကြံပြီး တောအုပ်ထဲကို ပြန်လှည့်ဝင်သွားခဲ့ပါတယ်၊ ဒီအခါ ဆင်ဖြူ သားငယ်လေးက ဖခင်ဆင်ကြီးနောက် လိုက်သွားခဲ့ပါတယ်၊ တောဆင်ကြီးဟာ ဆင်ဖြူသားငယ်လေး နောက်က လိုက်လာတာကို သိတာနဲ့ သားငယ်လေးကို နောက်ပြန်လှည့်သွားဆိုတဲ့ အမှတ်သညာ အသံကို ပြုလိုက်ပါတယ်၊ ဒီအခါ ဆင်ဖြူသားငယ်လေးဟာ ဖခင် စကား နားထောင်ပြီး နောက်ပြန်လှည့်ကာ လက်သမားတွေထံ သွားခဲ့ပါတယ်။

လက်သမားတွေဟာ ဒီအခြင်းအရာကို မြင်လိုက်တော့မှ ‘ဩော်… ဒီတောဆင်ကြီးဟာ သူ့သားလေးကို ငါတို့ကို ပေးဖို့ ခေါ်ပြီး ပြန်လာခဲ့တာကိုး’ လို့ သဘောပေါက်ခဲ့ကြတယ်။ ပြီးတော့ ဆင်ဖြူသားငယ်လေးကိုလည်း ‘ငါတို့ဆီမှာ သင် ပြုလုပ်ပေးဖို့ကိစ္စ တစ်စုံတစ်ရာ ဘာမှ မရှိပါဘူး၊ သင့်ဖခင်ဆီကိုပဲ ပြန်သွားပါ’ လို့ ပြောဆိုပြီး ဖခင်တောဆင်ကြီးထံ ပြန်လည် ပို့ဆောင်ပေးခဲ့ကြတယ်။ တောဆင်ကြီးကလည်း လက်သမားတွေက သုံးကြိမ် သုံးခါ မိမိထံ ပြန်ပို့လာတဲ့ ဆင်ဖြူသားငယ်ကို တစ်ဖန်ပြန်ပြီး လက်သမားတွေဆီ ကိုပဲ ပြန်ပို့ပေးခဲ့တယ်။

ဒီအခါ လက်သမားတွေဟာ မင်္ဂလာဆင်ဖြူသားငယ်လေးကို မိမိတို့ရဲ့ အနီးမှာပဲ နေစေပြီး ကျွေးမွေးစောင့်ရှောက်ပေးခဲ့ကြတယ်။ အစာစားချိန်ရောက်တဲ့ အခါ လက်သမား ငါးရာက တစ်ယောက် ထမင်းတစ်လုတ်၊ တစ်ယောက် ထမင်းတစ်လုတ်နှုန်းနဲ့ ထမင်းအလုတ်

ထမင်းခဲ ငါးရာကို ဆင်ဖြူသားငယ်လေးကို ပေးကြတယ်၊ ဆင်ဖြူငယ်လေးဟာ ထမင်းလုတ် ထမင်းခဲ ငါးရာ စားလိုက်တာနဲ့ သူ့အတွက် အစာအာဟာရကိစ္စ ပြည့်စုံသွားတော့တာပါ၊ အဲဒီ ဆင်ဖြူတော်လေးဟာ လက်သမားငါးရာနဲ့အတူ တောထဲဝင်၊ လက်သမားတွေ ခုတ်လှဲ၊ ဖြတ်ထားတဲ့ သစ်တုံးတွေကို တောထဲကနေ မြစ်လွင်ပြင်နား ရောက်တဲ့အထိ ဆွဲယူ စုပုံပေးပါတယ်၊ အခြား အခြား သင့်တော်တဲ့ ကိစ္စကြီးငယ်ကိုလည်း ဆင်ဖြူတော်လေးဟာ လက်သမားတွေအတွက် အမြဲတမ်း ကူညီဆောင်ရွက်ပေးပါတယ်”

မြတ်စွာဘုရားရှင်ဟာ ဒီအကြောင်းအရာကို ထုတ်ဆောင်တော်မူပြီး အတိတ်ဆီက အရှင်သာရိပုတ္တရာမထေရ်ရဲ့ သူ့ကျေးဇူးသိတတ်ပုံနဲ့ ကျေးဇူးဆပ်ပုံတွေကို ပြတော်မူခဲ့ပါတယ်။ အဲဒီတုန်းက အရှင်သာရိပုတ္တရာမထေရ်ဟာ တောဆင်ကြီး ဖြစ်ခဲ့ပါတယ်။ တောဆင်ကြီးဟာ သူ့အပေါ် ကျေးဇူးရှိခဲ့တဲ့ လက်သမားတွေကို မင်္ဂလာဆင်ဖြူသားငယ်လေး ပေးပြီး ကျေးဇူးဆပ်ခဲ့တာပါ။

## (ဃ) အရှင်ရာဓမထေရ်နဲ့ ဆက်စပ်တဲ့ တရားတော်များ

မြတ်စွာဘုရားရှင်ဟာ အရှင်သာရိပုတ္တရာမထေရ်ရဲ့ ကျေးဇူးသိတတ်ပြီး ကျေးဇူးဆပ်တတ်ပုံကို အတိတ်ဇာတ်ကြောင်း ထုတ်ဆောင်ကာ ဟောတော်မူပြီးတဲ့နောက် အရှင်ရာဓမထေရ်ရဲ့ ပြောဆိုဆုံးမရတာ လွယ်ကူတဲ့ သောဝစဿတာဂုဏ်နဲ့ ပြည့်စုံပုံကို အကြောင်းပြုပြီးတော့လည်း ဟောကြား ဆုံးမတော်မူခဲ့ပါတယ်။

အရှင်သာရိပုတ္တရာမထေရ်ဟာ တပည့်ဖြစ်တဲ့ အရှင်ရာဓမထေရ်ကို ခေါ်ပြီး မြတ်စွာဘုရားထံ သွားရောက်ကာ ကန်တော့ခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက သိလိုတာ မေးပြီး အရှင်မြတ်က မြတ်စွာဘုရား မေးတာကို ပြန်လည် ဖြေကြားခဲ့ပါတယ်။

"သာရိပုတ္တရာ၊ သင့်ရဲ့ တပည့်ဟာ ဆိုဆုံးမရတာ လွယ်ကူပါရဲ့လား"

"မှန်လှပါ မြတ်စွာဘုရား၊ တပည့်တော်ရဲ့ တပည့်ဟာ ဆိုဆုံးမရတာ အလွန်ကို လွယ်ကူပါတယ်ဘုရား၊ အပြစ် တစ်စုံတစ်ရာ ရှိလို့ ပြောဆိုဆုံးမလိုက်တဲ့အခါ တစ်ခါမှ အမျက်ဒေါသ မထွက်ဖူးပါဘုရား"

"ချစ်သား သာရိပုတ္တရာ၊ ဒီလို တပည့်မျိုး ရဦးမယ် ဆိုရင် ဘယ်လောက်တောင် လိုချင်ပါသလဲ"

"အများကြီးကို လိုချင်ပါတယ် မြတ်စွာဘုရား"

ဒီအခါ မြတ်စွာဘုရားက ရာဓမထေရ်ရဲ့ ဆိုဆုံးမရတာ လွယ်ကူတဲ့ သောဝစဿတာဂုဏ်ကို အကြောင်းပြုပြီး "ရဟန်းတို့၊ ရဟန်းဆိုတာ ရာဓလို ပြောလွယ် ဆိုလွယ် ဆုံးမလွယ်တဲ့ပုဂ္ဂိုလ် ဖြစ်ရမယ်၊ အပြစ်ပြပြီး ဆုံးမတဲ့သူအပေါ် အမျက်မထွက်ရဘူး၊ ဩဝါဒပေး ဆုံးမလာသူကို ရွှေအိုးပေးသူ၊ ရွှေအိုးရှိတဲ့အရပ်ကို ညွှန်ပြပေးသူလို သဘောထားရတယ်"လို့ ဆုံးမတော်မူကာ အောက်ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ဟောကြားတော်မူခဲ့ပါတယ်။

"ရဟန်းတို့... အပြစ်ပြ ဆုံးမသူကို ရွှေအိုးကို ညွှန်ပြသူလို့ မှတ်ယူရမယ်။

မိမိရဲ့အပြစ်ကို ထောက်ပြဝေဖန်လေ့ရှိတဲ့ ပညာရှိပုဂ္ဂိုလ်မျိုးကို မှီဝဲ ဆည်းကပ်ရမယ်။

ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ချဉ်းကပ်ရတဲ့အတွက် ယုတ်ညံ့မှု မဖြစ်နိုင်၊ မြင့်မြတ်မှုသာ ဖြစ်နိုင်ပါတယ်"

ဆက်လက်ပြီး သံယုတ်ပါဠိတော်မှာ လာရှိတဲ့ အရှင်ရာဓမထေရ်နဲ့ ဆက်စပ်တဲ့ တရားတော်တွေကို အကျဉ်းချုပ်ပြီး ဖော်ပြပါဦးမယ်။

## (၁) မာရသုတ်

တစ်ခါမှာတော့ မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူပါတယ်။ ဒီအခါ အရှင်ရာဓမထေရ်ဟာ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး ရှိခိုးဦးချ ကန်တော့ကာ သင့်တော်တဲ့ နေရာမှာ ထိုင်နေလိုက်တယ်။

ပြီးမှ မြတ်စွာဘုရားကို “မြတ်စွာဘုရား၊ ‘သေတယ်၊ သေတယ်’လို့ ဆိုကြပါတယ်၊ အဘယ်မျှလောက်သော အကြောင်းတရားဖြင့် ‘သေတယ်’ဆိုတာ ဖြစ်ပါသလဲ ဘုရား” လို့ မေးလျှောက်ခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက “ရာဓ၊ ဒီခန္ဓာကိုယ်မှာ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ ငါးမျိုးရှိတယ်။ ဒီငါးမျိုးကို ခန္ဓာ ငါးပါးလို့ ခေါ်တယ်။

ခန္ဓာ ငါးပါးရှိရင် ‘သေတယ်’ ဆိုတာလည်း ရှိတယ်။ ‘သတ်တဲ့သူ’ဆိုတာလည်း ရှိတယ်၊ ‘သေတဲ့သူ’ဆိုတာလည်း ရှိတယ်။

ဒါကြောင့် သင်တို့ဟာ ဒီခန္ဓာငါးပါးကို ဉာဏ်နဲ့ ‘သေတဲ့တရား’လို့ ရှုရမယ်၊ ‘သတ်တတ်တဲ့ တရား’ လို့ ရှုရမယ်၊ ‘သေတတ်တဲ့တရား’လို့ ရှုရမယ်၊ ‘ရောဂါ’လို့လည်း ရှုရမယ်၊ ‘အနာ’လို့လည်း ရှုရမယ်၊ ‘ငြောင့်’လို့လည်း ရှုရမယ်၊ ‘ဒုက္ခ’လို့လည်း ရှုရမယ်၊ ‘ဒုက္ခဖြစ်ကြောင်းတရား’လို့လည်း ရှုရမယ်။

ခန္ဓာငါးပါးအပေါ်မှာ အခုလို ရှုမြင်တဲ့ သူတွေဟာ မှန်ကန်စွာ ရှုမြင်နိုင်သူတွေ ဖြစ်တယ်၊ သမ္မာဒဿန = မှန်တဲ့ ဉာဏ်အမြင်ရှိသူတွေလို့ ခေါ်တယ်” လို့ ဖြေကြားတော်မူခဲ့ပါတယ်။

ဆက်ပြီး အရှင်ရာဓမထေရ်က မေးခွန်းတွေ မေးခဲ့တယ်။ မေးတိုင်း မေးတိုင်း မြတ်စွာဘုရားရှင်က ခုလို ပြန်လည် ဖြေကြားခဲ့ပါတယ်။

“သမ္မာဒဿန - မှန်တဲ့ ဉာဏ်အမြင်ဟာ ဘာအကျိုးရှိပါသလဲ ဘုရား”

“ခန္ဓာငါးပါးအပေါ်မှာ ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ် ဖြစ်ပေါ်ခြင်း အကျိုး ရှိပါတယ်”

“နိဗ္ဗိဒါ - ငြီးငွေ့တဲ့ ဉာဏ်ဟာ ဘာအကျိုးရှိပါသလဲ”

“ငြီးငွေ့တဲ့ ဉာဏ်ဟာ စွဲမက်မှု ကင်းတယ် ဆိုတဲ့ အကျိုး ရှိတယ်”

“စွဲမက်မှုကင်းတာက ဘာအကျိုး ရှိပါသလဲ”

“ကိလေသာတွေကနေ လွတ်မြောက်တဲ့ အကျိုး ရှိတယ်”

“လွတ်မြောက်တာဟာ ဘာအကျိုး ရှိပါသလဲ”

“လွတ်မြောက်တာဟာ နိဗ္ဗာန်ရောက်ခြင်း အကျိုး ရှိပါတယ်”

“အရှင်ဘုရား… နိဗ္ဗာန်ရောက်ခြင်းဟာ ဘာအကျိုး ရှိပါသလဲ”

“ရာဓ… ဒီလို ဆိုရင် မေးခွန်းပြဿနာကို လွန်သွားပြီ၊ ဒီလိုသာ ဆက်မေးနေရင် မေးခွန်းပြဿနာရဲ့ အဆုံး ဆိုတာ ရှိမှာမဟုတ်တော့ဘူး၊ ဘာလို့လဲ ဆိုတော့ ဒီလို ခန္ဓာငါးပါးကို သမ္မာဒဿန အမြင်မှန်နဲ့ ရှုတယ်ဆိုတဲ့ တရားကျင့်မှုရဲ့အဆုံးဟာ နိဗ္ဗာန်ဖြစ်လို့ပဲ”

## (၂) သတ္တသုတ်

“မြတ်စွာဘုရား… ‘ကပ်ငြိတယ်၊ ကပ်ငြိတယ်’လို့ ပြောကြပါတယ် ဘုရား၊ ဘယ်လို အကြောင်း ရှိရင် ‘ကပ်ငြိတယ်’လို့ ဆိုနိုင်တာပါလဲ ဘုရား”

“ရာဓ… ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ ခန္ဓာငါးပါးအပေါ်မှာ လိုချင်တဲ့ ဆန္ဒတွေ ဖြစ်နေတာ၊ စွဲမက်တဲ့ ရာဂတွေ ဖြစ်နေတာ၊ နှစ်သက်တဲ့ နန္ဒီတွေ ဖြစ်နေတာ၊ တပ်မက်တဲ့

တဏှာတွေ ဖြစ်နေတာကို 'ကပ်ငြိတယ်' လို့ ဆိုလိုတာ ဖြစ်တယ်၊ ဘာလို့လဲ ဆိုတော့ ဒီ လိုချင်မှုတွေ၊ စွဲမက်မှုတွေ၊ နှစ်သက်မှုတွေ၊ တပ်မက်မှုတွေ ဖြစ်နေရင် ခွာလို့ မရအောင် ငြိကပ်တွယ်တာနေတဲ့ အတွက်ကြောင့်ပဲ ဖြစ်တယ်။

ရာဓ… ဥပမာအနေနဲ့ ပြောရရင် ကလေးတွေဟာ မြစ်နား၊ ချောင်းနားက သဲခုံတွေပေါ်မှာ သဲအိမ်လေးတွေ ဆောက်ပြီး ကစားကြတယ်၊ ဒီကလေးတွေဟာ သူတို့ ဆောက်ထားတဲ့ သဲအိမ်တွေအပေါ်မှာ ခင်တွယ်နေသမျှ၊ မက်မောနေသမျှ သဲအိမ်တွေအပေါ် တွယ်တာကြတယ်၊ မြတ်နိုးကြတယ်၊ သဲအိမ်လေးတွေနဲ့ ကစားကြတယ်၊ အေး… ကလေးတွေဟာ သူတို့ ဆောက်ထားတဲ့ သဲအိမ်လေးတွေအပေါ် မခင်တွယ်တော့ဘူး၊ မမက်မောကြတော့ဘူး ဆိုရင်တော့ တွယ်တာစိတ်၊ မက်မောစိတ် မရှိတော့ဘဲ လက်တွေ၊ ခြေတွေနဲ့ သဲအိမ်လေးတွေကို ဖျက်ဆီးလိုက်ကြတယ်၊ ဖရိုဖရဲ တစ်စစီကွဲအောင် ကြဲဖြန့်လိုက်ကြတယ်၊ ကစားတာကို အဆုံးသတ်လိုက်ကြတယ်။

ရာဓ… ဒီ့အတူပဲ သင်တို့တစ်တွေလည်း သဲအိမ်နဲ့တူတဲ့ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ ခန္ဓာငါးပါးအပေါ်မှာ တွယ်တာမှုတွေ၊ တပ်မက်မှုတွေ၊ မက်မောမှုတွေ ကင်းအောင် ကျင့်ကြကုန်လော့၊ ခန္ဓာသဲအိမ်နဲ့ ကစားတာကို အဆုံးသတ်လိုက်ကြကုန်လော့၊ ခန္ဓာသဲအိမ်ကို ဖျက်ဆီးပစ်ကြလော့၊ တဏှာကုန်အောင် ပြုကြကုန်လော့၊ ဘာလို့လဲ ဆိုရင် တဏှာကုန်တာဟာ နိဗ္ဗာန်ချမ်းသာ ဖြစ်လို့ပဲ"

## (၃) ဘဝနေတ္တိသုတ်

"အရှင်ဘုရား… 'ဘဝနှောင်ကြိုးရဲ့ ချုပ်ငြိမ်းရာ၊ ဘဝနှောင်ကြိုးရဲ့ ချုပ်ငြိမ်းရာ' လို့ ပြောကြဆိုကြပါတယ် ဘုရား၊ ဒီလို ပြောကြဆိုကြတဲ့စကားမှာ 'ဘဝနှောင်ကြိုး' ဆိုတာ ဘာပါလဲ ဘုရား၊

အဘယ်အရာကို 'ဘဝနှောင်ကြိုးရဲ့ ချုပ်ငြိမ်းရာ'လို့ ခေါ်ပါသလဲ ဘုရား''

''ရာဓ··· ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ ခန္ဓာငါးပါးအပေါ်မှာ လိုချင်နေတာ၊ စွဲမက်နေတာ၊ နှစ်သက်နေတာ၊ တပ်မက်နေတာ၊ အစဉ်ငြိကပ်နေတာတွေဟာ 'ဘဝနှောင်ကြိုး' တွေ ဖြစ်တယ်။

အဲဒီ လိုချင်မှုတွေ၊ စွဲမက်မှုတွေ၊ နှစ်သက်မှုတွေ၊ တပ်မက်မှုတွေ၊ ငြိတွယ်နေတာတွေ ချုပ်ငြိမ်းသွားတဲ့ နိဗ္ဗာန်ကို 'ဘဝနှောင်ကြိုးရဲ့ ချုပ်ငြိမ်းရာ'လို့ ခေါ်ပါတယ်''

## (၄) ပရိညေယျသုတ်

''ရာဓ··· သင့်ကို ငါဘုရားက (တစ်) ပရိညေယျဓမ္မ - ပိုင်းခြားပြီး သိရမည့်တရား၊ (နှစ်) ပရိညာ - ပိုင်းခြားပြီး သိတဲ့ဉာဏ်၊ (သုံး) ပရိညာတာဝီ - ပိုင်းခြားသိပြီးတဲ့ပုဂ္ဂိုလ်၊ ဒီသုံးမျိုး အကြောင်းကို ဟောပြမယ်။

(တစ်) ပရိညေယျဓမ္မ - ပိုင်းခြားပြီး သိရမယ့် တရားကတော့ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ ခန္ဓာငါးပါးတို့ပဲ ဖြစ်တယ်။

(နှစ်) ပရိညာ - ပိုင်းခြားပြီး သိခြင်း၊ ပိုင်းခြားပြီး သိတဲ့ ဉာဏ်ဆိုတာ 'ဒီသဘောဟာ ရုပ်ပဲ၊ ဒီသဘောဟာ ဝေဒနာပဲ၊ ဒီသဘောဟာ သညာပဲ၊ ဒီသဘောဟာ သင်္ခါရပဲ၊ ဒီသဘောဟာ ဝိညာဏ်ပဲ' လို့ ခွဲခြားပြီး သိတာ၊ ပိုင်းခြားပြီး သိတာကို ဆိုလိုတာ ဖြစ်တယ်၊ ဒီလို ခွဲခြား၊ ပိုင်းခြား သိတဲ့ ဉာဏ် ဖြစ်ပေါ်လာပြီ ဆိုရင် ခန္ဓာငါးပါးနဲ့ ပတ်သက်ပြီး လောဘ၊ ဒေါသ၊ မောဟတွေ မဖြစ်တော့ဘဲ ကုန်ဆုံးသွားတော့တယ်၊ ဒါကို ပရိညာ လို့ ခေါ်တယ်။

(သုံး) ပရိညာတာဝီ - ပိုင်းခြား သိပြီးတဲ့သူ ဆိုတာက ခန္ဓာငါးပါးကို ပိုင်းခြားသိတဲ့ ကိစ္စ ပြီးဆုံးသွားတဲ့ ရဟန္တာပုဂ္ဂိုလ်ကို ဆိုလိုတာ ဖြစ်တယ်"

## (၅) သမဏသုတ်

"ရာဓ··· တဏှာ၊ ဒိဋ္ဌိ ဆိုတဲ့ ဥပါဒါန်နှစ်ပါးရဲ့ စွဲလမ်းရာ ခန္ဓာငါးပါးကို ဥပါဒါနက္ခန္ဓာ ငါးပါးလို့ ခေါ်တယ်၊ အဲဒီ ငါးမျိုးက ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တွေပဲ ဖြစ်တယ်၊ ဒီ ဥပါဒါနက္ခန္ဓာ ငါးပါးတို့ရဲ့ အဿာဒ - သာယာဖွယ်၊ အာဒီနဝ - အပြစ်၊ နိဿရဏ - လွတ်မြောက်ကြောင်းတွေကို မသိတဲ့ သမဏ ဟာ သမဏ - ကိလေသာတွေကို ငြိမ်းအေးစေသူ မဖြစ်နိုင်၊ ဗြာဟ္မဏဟာလည်း ဗြာဟ္မဏ - ကိလေသာမျှောပြီးတဲ့သူ မဖြစ်နိုင်၊ သမဏဖြစ်ဖို့၊ ဗြာဟ္မဏ ဖြစ်ဖို့အတွက် ယခုဘဝမှာပင် ကိုယ်တိုင် ဉာဏ်နဲ့ သိမြင်ပြီး မျက်မှောက်ပြုပြီး နေတဲ့သူ မဖြစ်နိုင်။

ဒီ ဥပါဒါနက္ခန္ဓာ ငါးပါးတို့ရဲ့ အဿာဒ - သာယာဖွယ်၊ အာဒီနဝ - အပြစ်၊ နိဿရဏ - လွတ်မြောက်ကြောင်းတွေကို သိတဲ့ သမဏမှ သမဏအစစ် ဖြစ်နိုင်တယ်၊ ဗြာဟ္မဏမှ ဗြာဟ္မဏ အစစ် ဖြစ်နိုင်တယ်၊ သမဏ၊ ဗြာဟ္မဏဖြစ်ဖို့အတွက် ဒီဘဝမှာပဲ ကိုယ်တိုင်ဉာဏ်နဲ့ သိမြင်၊ မျက်မှောက်ပြုပြီး နေတဲ့သူ ဖြစ်နိုင်တယ်"

မှတ်ချက်။ ။ 'အဿာဒ' ဆိုတာ ခန္ဓာငါးပါးကို အကြောင်းပြုပြီး ဖြစ်ပေါ်လာတဲ့ ချမ်းသာတာ၊ ဝမ်းမြောက်တာကို ဆိုလိုတာ ဖြစ်ပါတယ်။ 'အာဒီနဝ' ဆိုတာ ခန္ဓာငါးပါးရဲ့ မမြဲတဲ့သဘော၊ ဆင်းရဲတဲ့ သဘော၊ ဖောက်ပြန် ပျက်စီးတတ်တဲ့ သဘောကို ဆိုလိုတာ ဖြစ်တယ်။ 'နိဿရဏ' ဆိုတာ ခန္ဓာငါးပါး အပေါ်မှာ လိုချင်တာ၊ စွဲမက်တာကို ဖယ်ရှားတတ်တဲ့ အသိဉာဏ်ပညာကို ဆိုလိုတာ ဖြစ်ပါတယ်။

## (၆) ဒုတိယသမဏသုတ်

“ရာဓ… တဏှာ၊ ဒိဋ္ဌိ ဆိုတဲ့ ဥပါဒါန်တွေရဲ့ စွဲလမ်းရာ ခန္ဓာငါးပါးကို ဥပါဒါနက္ခန္ဓာ ငါးပါးလို့ ခေါ်တယ်၊ အဲဒီ ငါးမျိုးက ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တွေပဲ ဖြစ်တယ်၊ ဒီ ဥပါဒါနက္ခန္ဓာ ငါးပါးတို့ရဲ့ သမုဒယ-အဖြစ်၊ အတ္ထင်္ဂမ - အပျက်၊ အဿာဒ - သာယာဖွယ်၊ အာဒီနဝ - အပြစ်၊ နိဿရဏ - လွတ်မြောက်ကြောင်း ငါးမျိုးကို မသိတဲ့ သမဏဟာ သမဏ - ကိလေသာတွေကို ငြိမ်းအေးစေသူ မဖြစ်နိုင်၊ ဗြာဟ္မဏဟာလည်း ဗြာဟ္မဏ - ကိလေသာမျှောပြီးတဲ့သူ မဖြစ်နိုင်၊ သမဏဖြစ်ဖို့၊ ဗြာဟ္မဏ ဖြစ်ဖို့အတွက် ယခုဘဝမှာပင် ကိုယ်တိုင်ဉာဏ်နဲ့ သိမြင်ပြီး မျက်မှောက် ပြုပြီး နေတဲ့သူ မဖြစ်နိုင်။

ဒီ ဥပါဒါနက္ခန္ဓာ ငါးပါးတို့ရဲ့ သမုဒယ - အဖြစ်၊ အတ္ထင်္ဂမ - အပျက်၊ အဿာဒ - သာယာဖွယ်၊ အာဒီနဝ - အပြစ်၊ နိဿရဏ - လွတ်မြောက်ကြောင်း၊ ဒီ ငါးမျိုးကို သိတဲ့ သမဏမှ သမဏအစစ် ဖြစ်နိုင်တယ်၊ ဗြာဟ္မဏမှ ဗြာဟ္မဏအစစ် ဖြစ်နိုင်တယ်၊ သမဏ၊ ဗြာဟ္မဏဖြစ်ဖို့အတွက် ဒီဘဝမှာပဲ ကိုယ်တိုင်ဉာဏ်နဲ့ သိမြင်၊ မျက်မှောက်ပြုပြီး နေတဲ့သူ ဖြစ်နိုင်တယ်”

## (၇) သောတာပန္နသုတ်

“ရာဓ… တဏှာ၊ ဒိဋ္ဌိ ဆိုတဲ့ ဥပါဒါန်တွေရဲ့ စွဲလမ်းရာ ခန္ဓာငါးပါးကို ဥပါဒါနက္ခန္ဓာ ငါးပါးလို့ ခေါ်တယ်၊ အဲဒီ ငါးမျိုးက ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တွေပဲ ဖြစ်တယ်၊ ဒီ ဥပါဒါနက္ခန္ဓာ ငါးပါးတို့ရဲ့ သမုဒယ - အဖြစ်၊ အတ္ထင်္ဂမ - အပျက်၊ အဿာဒ - သာယာဖွယ်၊ အာဒီနဝ - အပြစ်၊ နိဿရဏ - လွတ်မြောက်ကြောင်း ငါးမျိုးကို ဝိပဿနာဉာဏ်၊ မဂ်ဉာဏ်နဲ့

ဟုတ်တိုင်းမှန်စွာ သိမြင်တဲ့ အရိယာတပည့်ကို 'သောတာပန်' ပုဂ္ဂိုလ်လို့ ခေါ်တယ်။ သောတာပန်ပုဂ္ဂိုလ် ဖြစ်သွားပြီဆိုရင် အပါယ်လေးပါး မကျနိုင်တော့၊ သုဂတိဘုံဘဝတွေမှာပဲ ဖြစ်တော့မယ့် လားရာ ဂတိမြဲသူ၊ အထက်မဂ် သုံးပါးကိုပဲ ဆက်လက်သိမြင်တော့မယ့်သူ ဖြစ်သွားပေပြီ''

## (၈) အရဟန္တသုတ်

''ရာဓ… တဏှာ၊ ဒိဋ္ဌိ ဆိုတဲ့ ဥပါဒါန်တွေရဲ့ စွဲလမ်းရာ ခန္ဓာငါးပါးကို ဥပါဒါနက္ခန္ဓာ ငါးပါးလို့ ခေါ်တယ်၊ အဲဒီ ငါးမျိုးက ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တွေပဲ ဖြစ်တယ်၊ ဒီ ဥပါဒါနက္ခန္ဓာ ငါးပါးတို့ရဲ့ သမုဒယ - အဖြစ်၊ အတ္ထင်္ဂမ - အပျက်၊ အဿာဒ - သာယာဖွယ်၊ အာဒီနဝ - အပြစ်၊ နိဿရဏ - လွတ်မြောက်ကြောင်း၊ ငါးမျိုးကို ဝိပဿနာဉာဏ်၊ မဂ်ဉာဏ်တွေနဲ့ ဟုတ်တိုင်းမှန်စွာ သိမြင်ပြီး အစွဲအလမ်း မရှိ၊ ကိလေသာအားလုံးမှ လွတ်မြောက်ပြီးတဲ့ အရိယာ တပည့်ကိုတော့ 'ရဟန္တာ' လို့ ခေါ်တယ်။ ရဟန္တာဖြစ်သွားရင် ကိလေသာအားလုံး ကုန်ပြီ၊ ကျင့်စရာကုန်ပြီ၊ ပြုကျင့်ဖွယ်ကိစ္စမှန်သမျှ ကျင့်ပြီးသွားပြီ၊ ခန္ဓာဝန်ကို ချပြီးသွားပြီ၊ အရဟတ္တဖိုလ် ဆိုတဲ့ အမြင့်ဆုံး ကိုယ်ကျိုးတရားကို ရပြီးသွားပြီ၊ ဘဝနှောင်ကြိုး သံယောဇဉ် အားလုံး ကုန်သွားပြီ၊ ကိလေသာအားလုံးမှ လွတ်မြောက်ပြီးသွားပြီ''

## (၉) ဆန္ဒရာဂသုတ်

''ရာဓ… ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ ခန္ဓာငါးပါးအပေါ်မှာ လိုချင်မှု၊ စွဲလမ်းမှု၊ နှစ်သက်မှု၊ တပ်မက်မှု တွေကို ပယ်ကြကုန်လော့၊ အဲဒီလို ခန္ဓာငါးပါး အပေါ်မှာ လိုချင်တာ၊

စွဲလမ်းတာ၊ နှစ်သက်တာ၊ တပ်မက်တာကို ပယ်လိုက်နိုင်ရင် ခန္ဓာငါးပါးကိုလည်း အကြွင်းမဲ့ ပယ်ပြီးသား ဖြစ်ပါလိမ့်မယ်''

## (၁၀) ဒုတိယဆန္ဒရာဂသုတ်

''ရာဓ··· ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ ခန္ဓာငါးပါးအပေါ်မှာ လိုချင်မှု၊ စွဲလမ်းမှု၊ နှစ်သက်မှု၊ တပ်မက်မှု၊ စွဲမက်ကပ်ငြိမှု၊ စိတ်ငြိကပ်ကြောင်း၊ မှားယွင်းစွာ နှလုံးသွင်းကြောင်း အနုသယတွေကို ပယ်သတ်ကြကုန်လော့၊ ဒီလိုပယ်သတ်နိုင်မယ်ဆိုရင် အကြောင်းရင်းဖြစ်တဲ့ ခန္ဓာငါးပါးကိုလည်း အကြွင်းမဲ့ ပယ်ပြီးသား ဖြစ်လိမ့်မယ်''

***

# ဒုတိယဝဂ်

## (၁) မာရသုတ်

''မြတ်စွာဘုရား··· 'သေတယ်၊ သေတယ်'လို့ ဆိုကြပါတယ်။ အဘယ် အရာဟာ သေပါသလဲ ဘုရား''

''ရာဓ··· ရုပ်ဟာ သေတဲ့ တရားပေါ့၊ ဝေဒနာဟာ သေတဲ့ တရားပေါ့၊ သညာဟာ သေတဲ့ တရားပေါ့၊ သင်္ခါရဟာ သေတဲ့ တရားပေါ့၊ ဝိညာဏ်ဟာ သေတဲ့ တရားပေါ့''

''ရာဓ··· ခုလို ရှုပွားနေရင် ရုပ်အပေါ်မှာလည်း ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ ဖြစ်လာမယ်၊ ဝေဒနာအပေါ်မှာရော၊ သညာအပေါ်မှာရော၊ သင်္ခါရအပေါ်မှာရော၊ ဝိညာဏ်အပေါ်မှာရော ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ ဖြစ်လာမယ်၊ ငြီးငွေ့တဲ့ ဉာဏ်တွေ ဖြစ်တော့ တပ်မက်မှုတွေ ကင်းလာမယ်၊ တပ်မက်မှုကင်းလာတဲ့အတွက်ကြောင့် စိတ်ဟာ ကိလေသာတွေကနေ လွတ်မြောက်လာမယ်၊ ကိလေသာတွေကနေ လွတ်မြောက်ပြီးသွားရင် နောင်တစ်ဖန် ပဋိသန္ဓေနေမှု ကုန်ပြီ၊

ကျင့်တဲ့ကိစ္စ ပြီးဆုံးသွားပြီ၊ နောက်ထပ်အသစ် ကျင့်စရာ မရှိတော့ပြီ၊ နောင် အနာဂတ် ခန္ဓာအစဉ် မရှိတော့ပြီလို့ သိတဲ့ ဉာဏ်တွေ ဖြစ်ပေါ် လာမယ်”

## (၂) ဒုတိယမာရသုတ်

“မြတ်စွာဘုရား… ‘သေခြင်းသဘော၊ သေခြင်းသဘော’ လို့ ဆိုကြတယ်၊ အဘယ် အရာဟာ သေခြင်းသဘောပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ သေခြင်းသဘောပဲ၊ ဝေဒနာဟာ သေခြင်း သဘောပဲ၊ သညာဟာ သေခြင်းသဘောပဲ၊ သင်္ခါရဟာ သေခြင်း သဘောပဲ၊ ဝိညာဏ်ဟာ သေခြင်းသဘောပဲ”

## (၃) အနိစ္စသုတ်

“မြတ်စွာဘုရား… ‘အနိစ္စ - အမြဲမရှိ၊ အနိစ္စ - အမြဲမရှိ’လို့ ဆိုကြတယ်၊ အဘယ်အရာဟာ အနိစ္စ - အမြဲမရှိပါသလဲ ဘုရား”

“ရာဓ… ရုပ်ဟာ အမြဲမရှိတဲ့ တရားပဲ၊ ဝေဒနာဟာ အမြဲ မရှိတဲ့ တရားပဲ၊ သညာဟာ အမြဲမရှိတဲ့ တရားပဲ၊ သင်္ခါရဟာ အမြဲ မရှိတဲ့ တရားပဲ၊ ဝိညာဏ်ဟာ အမြဲမရှိတဲ့ တရားပဲ”

## (၄) အနိစ္စဓမ္မသုတ်

“မြတ်စွာဘုရား… ‘အနိစ္စဓမ္မ - အမြဲမရှိတဲ့ သဘော၊ အနိစ္စဓမ္မ - အမြဲမရှိတဲ့ သဘော’လို့ ဆိုကြတယ်၊ အဘယ် အရာဟာ အမြဲမရှိတဲ့ သဘောပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ အမြဲမရှိတဲ့ သဘောပဲ၊ ဝေဒနာဟာ အမြဲ မရှိတဲ့ သဘောပဲ၊ သညာဟာ အမြဲမရှိတဲ့ သဘောပဲ၊ သင်္ခါရဟာ အမြဲ မရှိတဲ့ သဘောပဲ၊ ဝိညာဏ်ဟာ အမြဲမရှိတဲ့ သဘောပဲ”

## (၅) ဒုက္ခသုတ်

“မြတ်စွာဘုရား… ‘ဒုက္ခ - ဆင်းရဲတယ်၊ ဒုက္ခ -ဆင်းရဲတယ်’လို့ ဆိုကြတယ်၊ အဘယ် အရာဟာ ဒုက္ခ - ဆင်းရဲတဲ့ တရား ဖြစ်ပါသလဲ ဘုရား”

“ရာဓ… ရုပ်ဟာ ဆင်းရဲတဲ့ တရားပဲ၊ ဝေဒနာဟာ ဆင်းရဲတဲ့ တရားပဲ၊ သညာဟာ ဆင်းရဲတဲ့ တရားပဲ၊ သင်္ခါရဟာ ဆင်းရဲတဲ့ တရားပဲ၊ ဝိညာဏ်ဟာ ဆင်းရဲတဲ့ တရားပဲ”

## (၆) ဒုက္ခဓမ္မသုတ်

“မြတ်စွာဘုရား… ‘ဒုက္ခဓမ္မ - ဆင်းရဲတဲ့ သဘော၊ ဒုက္ခဓမ္မ - ဆင်းရဲတဲ့ သဘော’လို့ ဆိုကြတယ်၊ အဘယ် အရာဟာ ဆင်းရဲတဲ့ သဘောပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ ဆင်းရဲတဲ့ သဘောပဲ၊ ဝေဒနာဟာ ဆင်းရဲတဲ့ သဘောပဲ၊ သညာဟာ ဆင်းရဲတဲ့ သဘောပဲ၊ သင်္ခါရဟာ ဆင်းရဲတဲ့ သဘောပဲ၊ ဝိညာဏ်ဟာ ဆင်းရဲတဲ့ သဘောပဲ”

## (၇) အနတ္တသုတ်

“မြတ်စွာဘုရား… ‘အနတ္တ - အစိုးမရ၊ အနတ္တ -အစိုးမရ’လို့ ဆိုကြတယ်၊ အဘယ် အရာဟာ အနတ္တ -အစိုးမရတဲ့ တရားပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ အစိုးမရတဲ့ တရားပဲ၊ ဝေဒနာဟာ အစိုး မရတဲ့ တရားပဲ၊ သညာဟာ အစိုးမရတဲ့ တရားပဲ၊ သင်္ခါရဟာ အစိုးမရတဲ့ တရားပဲ၊ ဝိညာဏ်ဟာ အစိုးမရတဲ့ တရားပဲ”

## (၈) အနတ္တဓမ္မသုတ်

“မြတ်စွာဘုရား… ‘အနတ္တဓမ္မ - အစိုးမရတဲ့ သဘော၊ အနတ္တဓမ္မ - အစိုးမရတဲ့ သဘော’လို့ ဆိုကြတယ်၊ အဘယ် အရာဟာ အနတ္တဓမ္မ - အစိုးမရတဲ့ သဘောပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ အစိုးမရတဲ့ သဘောပဲ၊ ဝေဒနာဟာ အစိုးမရတဲ့ သဘောပဲ၊ သညာဟာ အစိုးမရတဲ့ သဘောပဲ၊ သင်္ခါရဟာ အစိုးမရတဲ့ သဘောပဲ၊ ဝိညာဏ်ဟာ အစိုးမရတဲ့ သဘောပဲ”

## (၉) ခယဓမ္မသုတ်

“မြတ်စွာဘုရား… ‘ခယဓမ္မ - ကုန်ခန်းတဲ့ သဘော၊ ခယဓမ္မ - ကုန်ခန်းတဲ့ သဘော’လို့ ဆိုကြတယ်၊ အဘယ် အရာဟာ ခယဓမ္မ - ကုန်ခန်းတဲ့သဘောပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ ကုန်ခန်းတဲ့ သဘောပဲ၊ ဝေဒနာဟာ ကုန်ခန်းတဲ့ သဘောပဲ၊ သညာဟာ ကုန်ခန်းတဲ့ သဘောပဲ၊ သင်္ခါရဟာ ကုန်ခန်းတဲ့ သဘောပဲ၊ ဝိညာဏ်ဟာ ကုန်ခန်းတဲ့ သဘောပဲ”

## (၁၀) ဝယဓမ္မသုတ်

“မြတ်စွာဘုရား… ‘ဝယဓမ္မ - ပျက်တဲ့ သဘော၊ ဝယဓမ္မ - ပျက်တဲ့ သဘော’လို့ ဆိုကြတယ်။ အဘယ် အရာဟာ ဝယဓမ္မ - ပျက်တဲ့ သဘောပါလဲ ဘုရား”

“ရာဓ… ရုပ်ဟာ ပျက်တဲ့ သဘောပဲ၊ ဝေဒနာဟာ ပျက်တဲ့ သဘောပဲ၊ သညာဟာ ပျက်တဲ့ သဘောပဲ၊ သင်္ခါရဟာ ပျက်တဲ့ သဘောပဲ၊ ဝိညာဏ်ဟာ ပျက်တဲ့ သဘောပဲ”

## (၁၁) သမုဒယဓမ္မသုတ်

"မြတ်စွာဘုရား… 'သမုဒယဓမ္မ - ဖြစ်ပေါ်တဲ့ သဘော၊ သမုဒယဓမ္မ - ဖြစ်ပေါ်တဲ့ သဘော'လို့ ဆိုကြတယ်၊ အဘယ် အရာဟာ သမုဒယဓမ္မ - ဖြစ်ပေါ်တဲ့ သဘောပါလဲ ဘုရား"

"ရာဓ… ရုပ်ဟာ ဖြစ်ပေါ်တဲ့ သဘောပဲ၊ ဝေဒနာဟာ ဖြစ်ပေါ်တဲ့ သဘောပဲ၊ သညာဟာ ဖြစ်ပေါ်တဲ့ သဘောပဲ၊ သင်္ခါရဟာ ဖြစ်ပေါ်တဲ့ သဘောပဲ၊ ဝိညာဏ်ဟာ ဖြစ်ပေါ်တဲ့ သဘောပဲ"

## (၁၂) နိရောဓဓမ္မသုတ်

"မြတ်စွာဘုရား… 'နိရောဓဓမ္မ - ချုပ်တဲ့ သဘော၊ နိရောဓဓမ္မ - ချုပ်တဲ့ သဘော'လို့ ဆိုကြတယ်၊ အဘယ်အရာဟာ နိရောဓဓမ္မ - ချုပ်တဲ့ သဘောပါလဲ ဘုရား"

"ရာဓ… ရုပ်ဟာ ချုပ်တဲ့ သဘောပဲ၊ ဝေဒနာဟာ ချုပ်တဲ့ သဘောပဲ၊ သညာဟာ ချုပ်တဲ့ သဘောပဲ၊ သင်္ခါရဟာ ချုပ်တဲ့ သဘောပဲ၊ ဝိညာဏ်ဟာ ချုပ်တဲ့ သဘောပဲ။

ရာဓ… ခုလို ရှုပွားနေရင် ရုပ်အပေါ်မှာလည်း ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ ဖြစ်လာမယ်၊ ဝေဒနာအပေါ်မှာရော၊ သညာအပေါ်မှာရော၊ သင်္ခါရအပေါ်မှာရော၊ ဝိညာဏ်အပေါ်မှာရော ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ ဖြစ်လာမယ်၊ ငြီးငွေ့တဲ့ ဉာဏ်တွေ ဖြစ်တော့ တပ်မက်မှုတွေ ကင်းလာမယ်၊ တပ်မက်မှုကင်းလာတဲ့အတွက်ကြောင့် စိတ်ဟာ ကိလေသာတွေကနေ လွတ်မြောက်လာမယ်၊ ကိလေသာတွေကနေ လွတ်မြောက်ပြီးသွားရင် 'နောင်တစ်ဖန် ပဋိသန္ဓေနေမှု ကုန်ပြီ၊ ကျင့်တဲ့ကိစ္စ ပြီးဆုံးသွားပြီ၊ နောက်ထပ်အသစ် ကျင့်စရာ မရှိတော့ပြီ၊ နောင် အနာဂတ် ခန္ဓာအစဉ် မရှိတော့ပြီ'လို့ သိတဲ့ ဉာဏ်တွေ ဖြစ်ပေါ်လာမယ်"

**ပဋိဘာနေယျကဇတဒဂ် ရတော်မူ**

ရှင်ရာဓမထေရ်ဟာ မြတ်စွာဘုရားကို တရားရှုမှတ်နည်းနဲ့ ပတ်သက်တဲ့ တရားတော်တွေကို အမျိုးမျိုး မေးမြန်းတော်မူခဲ့ပါတယ်။ မြတ်စွာဘုရာရှင်လည်း အရှင်ရာဓရဲ့ ဉာဏ်ကွန့်မြူးသလောက် မေးလာတဲ့ မေးခွန်းအမျိုးမျိုးကို ဓမ္မဒေသနာဉာဏ်အမျိုးမျိုးနဲ့ ဝေဖန်ပိုင်းခြားပြီး ဟောတော်မူခဲ့ပါတယ်။

အခုလို မြတ်စွာဘုရားရှင်ရဲ့ ဓမ္မဒေသနာဉာဏ်ပညာ - ပဋိဘာန်ကို ဖြစ်စေတဲ့အတွက်ကြောင့် မြတ်စွာဘုရားရှင်ဟာ နောက်ပိုင်းကာလ ဧတဒဂ်အရာနဲ့ ချီးမြှောက်တဲ့ ဓမ္မသဘင်မှာ အရှင်ရာဓမထေရ်ကို "ရဟန်းတို့... ငါဘုရားရဲ့ ဓမ္မဒေသနာဉာဏ်ပညာ - ပဋိဘာန်ကို ဖြစ်စေနိုင်တဲ့ ရဟန်းတော်တွေထဲမှာ ရာဓရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်"လို့ ပဋိဘာနေယျကဧတဒဂ် အရာ ထားပြီး ချီးမြှောက်တော်မူခဲ့ပါတယ်။

'တစ်လုတ်စားဖူး သူ့ကျေးဇူး'တဲ့။ လောကမှာ သူတော်ကောင်းမှန်ရင် တစ်လုတ်စားဖူးတဲ့ သူ့ကျေးဇူးကိုတောင် သိလည်း သိရမယ်၊ သိပြီးရင်လည်း ပြန်ဆပ်ရပါမယ်။



'အရိပ်နေနေ အခက်ချိုးချိုး' ဆိုတာလို သူ့အရိပ်ကို တစ်ခါလောက် ခိုဖူးတယ် ဆိုရင် ကိုယ်နားခိုနေတဲ့ သစ်ပင်ရဲ့ အကိုင်းအခက်ကို မချိုးကောင်းသလိုမျိုး ကိုယ့်အရိပ်ရှင်ရဲ့ ကျေးဇူးတရားကိုလည်း မချေဖျက်ကောင်းပါဘူး။

ဘာပဲပြောပြော ကျေးဇူးတရား သိတတ်တာ၊ သိတဲ့ အတိုင်း ပြန်လည် ပေးဆပ်တာတွေဟာ သူတော်ကောင်းတွေရဲ့ ကျင့်ထုံးပါ။

အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးဟာ ဆွမ်းလေးတစ်ဇွန်း လောင်းလှူခဲ့ဖူးတဲ့ ရာဓပုဏ္ဏားကြီးရဲ့ ကျေးဇူးကို သိမြင်ပြီး ရဟန်းခံပေးခဲ့တယ်။ အရှင်ရာဓကို တရားကျင့်ဖို့ လမ်းညွှန်ဆုံးမ ဩဝါဒတွေ ပေးခဲ့တယ်။ တရားဓမ္မကို ချမ်းသာစွာ ကျင့်သုံးနိုင်ဖို့ မိမိအတွက် ရထားတဲ့ နေရာမှာ နေခွင့်ပေးခဲ့တယ်။ ဆွမ်းခံပြီးတော့တောင်မှ ကျွေးလိုက်သေးတယ်။ အခုလို အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးရဲ့ ကျေးဇူးသိပြီး ကျေးဇူးဆပ်တဲ့ အတွက်ကြောင့် အရှင်ရာဓမထေရ်ဟာ လွယ်လင့်တကူပဲ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

ဒါကြောင့် ကျေးဇူးသိတတ်တာ၊ တုံ့ပြန်ပေးဆပ်တာတွေဟာ တကယ့် အရိယာသူတော်ကောင်းတွေရဲ့ ကျင့်ထုံးကြီးပါ။ ဒီကျင့်ထုံးကို မိမိတို့တစ်တွေလည်း လိုက်နာ ကျင့်သုံးရမှာ ဖြစ်ပါတယ်။

နောက်ပြီး တရားအားထုတ်တယ် ဆိုတာ အရွယ်ကြီးရင့်သွားလို့ ဆိုပြီး စိတ်ဓာတ်ကျနေစရာ မလိုဘူး ဆိုတာကိုလည်း အရှင်ရာဓမထေရ်က သက်သေပြနေပါတယ်။ ငယ်ငယ်ရွယ်ရွယ်ကတည်းက အားထုတ်နိုင်ကြရင်တော့ အကောင်းဆုံးပါ။ ဒါပေမဲ့ တို့က အသက်ကြီးသွားတဲ့ အတွက် တရားအားထုတ်နိုင်မှာ မဟုတ်တော့ဘူးလို့ အလွယ်တကူ အားလျော့စရာ မလိုပါဘူး။ အရှင်ရာဓမထေရ်ဟာ အိုမင်းမစွမ်း ဖြစ်တဲ့ အခါမှ တရားအားထုတ်တာတောင် တရားထူး ရသွားတာပါ။ ဒါကြောင့် အရှင်ရာဓမထေရ်ကို အားကျပြီး အသက်အရွယ် ကြီးရင့်သူတွေလည်း သာသနာကြို့ကျိုးနပ်အောင် စွမ်းနိုင်သမျှ တရားဘာဝနာ ပွားများအားထုတ်သင့်လှပါတယ်လို့ပဲ တိုက်တွန်းစကား ဆိုပါရစေ။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၅၃။

၂။ မဟာဗုဒ္ဓဝင်၊ ဆဌမတွဲ၊ ပထမပိုင်း၊ ၅၇၇။
၃။ ဓမ္မပဒအဋ္ဌကထာ၊ ၁၊ ၂၄၆။
၄။ ထေရဂါထာပါဠိ၊ ၂၄၈။
၅။ ထေရဂါထာအဋ္ဌကထာ၊ ၁၊ ၃၂၁။
၆။ သံယုတ်ပါဠိတော်၊ ၂။ ၁၅၄။
၇။ ဝိနည်းမဟာဝါပါဠိတော်၊ ၇၀။



ခေါဝ်ိးဝါးညွှံ့ဖျဝ်းတဲ့ ထတ်ိန်းဝတ်ရှိတဲ့အရာ အထာဆုံး

## လူခစီဝရရရတာဒဝ်ရ

# အရှင်မောဃရာဇ မထေရ်

သတ္တဝါတွေရဲ့ ရုပ်နာမ်နှစ်မျိုးအစုဖြစ်တဲ့ ခန္ဓာ့ဖြစ်စဉ် ဆိုတာ ဘယ်ခေတ် ဘယ်အခါ ဘယ်ကာလ ဘယ်အချိန်က စခဲ့တယ်လို့ကို မှန်းဆလို့ မရလောက်အောင် ရှည်ကြာလှပါပြီ။ ဒီ ခန္ဓာ့ဖြစ်စဉ်နဲ့



တစ်ဘဝပြီး တစ်ဘဝ အတောမသတ်အောင် မပြတ် လည်ပတ်နေရတာ ကလည်း သစ္စာလေးပါးကို မသိတဲ့ အတွက်ကြောင့်ပဲ ဖြစ်ပါတယ်။ သတ္တဝါတွေ သစ္စာလေးပါး မသိကြတာကလည်း အဝိဇ္ဇာ ဆိုတဲ့ အမိုက်မှောင်ကြီးက ဖုံးလွှမ်းထားတဲ့ အတွက်ကြောင့် ဖြစ်ပါတယ်။ ဒါကြောင့် 'အဝိဇ္ဇာ'ဆိုတာ သံသရာဦးခေါင်း ဖြစ်တယ်။

ဘယ်တုန်းက စခဲ့တယ်လို့ မသိနိုင်တဲ့ အစမထင် သံသရာ့ ဒုက္ခ ဖြစ်စဉ်ကြီးကို အလည်ရပ်ပြီး အဆုံးသတ်စေချင်တယ် ဆိုရင်တော့ အဲဒီ 'အဝိဇ္ဇာ' ဆိုတဲ့ သံသရာ့ဦးခေါင်းကို အရဟတ္တမဂ်ဉာဏ် ဆိုတဲ့ 'ဝိဇ္ဇာ' ဉာဏ်နဲ့ အစိတ်စိတ်အမွှာမွှာဖြစ်အောင် ပယ်သတ်ဖြိုခွင်း ရမှာဖြစ်ပါတယ်။

ဒါကြောင့် ကမ္မဋ္ဌာန်းနည်းပြဆရာတော်ကြီးတွေက–

"ပေါ်တိုင်းမပြတ် ရှုမှတ်နေလျှင်၊ ရုပ်နာမ်နှစ်မျိုး ကြောင်း ကျိုးသိမြင်၊ မမြဲ ဆင်းရဲ ဉာဏ်ထဲ ပေါ်လွင်၊ အနတ္တ သိရ နိဗ္ဗာန်ဝင်"

" 'အဝိဇ္ဇာ' ကို 'ဝိဇ္ဇာ' နဲ့ ပယ်သတ်ရတယ်"

"သစ္စာမသိတာဟာ သံသရာလည်ကြောင်းပဲ၊ သစ္စာသိတာ ဟာ သံသရာပြတ်ကြောင်းပဲ"

"ခန္ဓာမှာ ပေါ်လာတဲ့ အရာတိုင်းကို ဖြစ်ပျက်မြင်အောင် ဉာဏ်နဲ့ ကြည့်ရမယ်"

"ဖြစ်ပြီး ပျက်သွားတာက ဒုက္ခသစ္စာ၊ ဖြစ်ပျက်ကို သိတာက မဂ္ဂသစ္စာ"

စသဖြင့် ဝိဇ္ဇာဉာဏ်တွေ ဖြစ်အောင် ရှုမှတ်နည်းတွေကို ဟောပြနေကြတာ ဖြစ်ပါတယ်။

အဲဒီလို ရုပ်ဓာတ်၊ နာမ်ဓာတ်တွေရဲ့ အဖြစ်သဘောနဲ့ အပျက် သဘောကို ဉာဏ်နဲ့ မြင်ရင် 'ဝိဇ္ဇာ' ဉာဏ်ဖြစ်နေတာပါ။ ဝိပဿနာ ဉာဏ်ဝိဇ္ဇာ၊ ယထာဘူတဉာဏ်ဝိဇ္ဇာလို့ ခေါ်ပါတယ်။ အဲဒီ ဝိဇ္ဇာဉာဏ် တွေ ရင့်သန်လာရင် မဂ်ဉာဏ်ဝိဇ္ဇာ လေးဆင့် ဖြစ်ပေါ်လာမှာပါ။ အမြင့်ဆုံး အရဟတ္တမဂ်ဉာဏ်ဝိဇ္ဇာ အထိ ရပြီ ဆိုရင်တော့ သံသရာ့ ဦးခေါင်းဖြစ်တဲ့ 'အဝိဇ္ဇာ' ဦးခေါင်းကြီး ပြတ်သွားပြီး သံသရာ့ ဖြစ်စဉ် အလည်ရပ်ကာ သံသရာ့ဒုက္ခတွေ ငြိမ်းသွားတော့တာပါ။ တစ်ဖန် ပြန်လည် မွေးဖွားခြင်း ဆိုတာ မရှိတော့တဲ့ အတွက် ဘယ်တော့ မှလည်း မသေတော့ပါဘူး။ သတ္တဝါတွေ အကြောက်ဆုံးဖြစ်တဲ့ အသေ ဒုက္ခကနေ အပြီးတိုင် လွတ်တော့တာပါ။

ဒီသဘောကို ʻမစ္စုရာဇာ န ပဿတိ - သေမင်း မမြင်တော့ဘူးʼ လို့ ဆိုလိုပါတယ်။ သေမင်း မမြင်တဲ့ အခြေအနေမျိုး ရလိုတယ် ဆိုရင်တော့ ʻသုညတော လောကံ အဝေက္ခဿု - လောကကို သုညလို့ မြင်အောင် ကြည့်ရမယ်ʼ လို့ မြတ်စွာဘုရားက လောက အပေါ် ဉာဏ်ဝိဇ္ဇာနဲ့ ရှုကြည့်နည်းကို ဟောပြတော်မူခဲ့ပါတယ်။

ʻသုညʼ ဆိုတာ ʻဆိတ်သုဉ်းတာ၊ ဘာမှ မရှိတာʼ ကို ဆိုလိုပါတယ်။ ဝိပဿနာဉာဏ်နဲ့ ရုပ်နာမ်တွေရဲ့ ဖြစ်ပျက်ကို မြင်ပြီ ဆိုရင် ရုပ်နာမ်ခန္ဓာ့ဖြစ်စဉ်မှာ မြဲတယ် ဆိုတဲ့ နိစ္စသဘော အမြဲတမ်း ဆိတ်သုဉ်းနေတာ တွေ့ရမှာပါ။

ချမ်းသာတဲ့ သုခသဘောမှ ဆိတ်သုဉ်းနေတာ၊ အလိုအတိုင်း ဖြစ်လို့ ရတဲ့ အတ္တသဘောမှ ဆိတ်သုဉ်းနေတာတွေဟာ ဉာဏ်ထဲ ရှင်းခနဲ လင်းခနဲ ပေါ်လာပါတယ်။ ဒါကြောင့် ရုပ်နာမ်ခန္ဓာတွေမှာ နိစ္စသဘော၊ သုခသဘော၊ အတ္တသဘော မရှိဘဲ ကင်းဆိတ်နေတဲ့ အတွက် ʻသုညʼ လို့ ရှုဖို့ မြတ်စွာဘုရားရှင်က ဟောတော်မူတာ ဖြစ်ပါတယ်။

အခုလို တန်ဖိုး မဖြတ်နိုင်တဲ့ တရားလုပ်ငန်းစဉ်၊ တရား ရှုမှတ်နည်းကို အခု ကြည်ညိုကြမယ့် အရှင်မောဃရာဇမထေရ်ရဲ့ ဘဝဖြစ်ရပ် အတ္ထုပ္ပတ်မှာ တွေ့ကြရမှာ ဖြစ်ပါတယ်။

## (က) အရှင်မြတ် ရတဲ့ ဇေတဒဂ်အဓိပ္ပာယ်

အရှင်မောဃရာဇမထေရ်ဟာ ခေါင်းပါး ညံ့ဖျင်းတဲ့ သင်္ကန်း ဆင်မြန်းဝတ်ရုံ ဆောင်ယူကြတဲ့ ရဟန်းတွေထဲမှာ အသာဆုံး ဧတဒဂ်ရ မထေရ်ပါ။ အရှင်မြတ်ရတဲ့ ဧတဒဂ်ကို ပါဠိလို ʻလူခစီဝရဓရ ဧတဒဂ်ʼ လို့ ခေါ်ပါတယ်။ အရှင်မြတ်ဟာ ခေါင်းပါးညံ့ဖျင်းမှု သုံးမျိုးရှိတဲ့ ပံသကူသင်္ကန်းကို အမြဲတမ်း ဝတ်ရုံ ဆောင်ယူတော်မူ ပါတယ်။ အရှင်မြတ်ဝတ်ရုံတဲ့ သင်္ကန်းဟာ ပိတ်သားစ အညံ့ဆုံး၊

ချုပ်တဲ့ ချည်ကလည်း အညှံ့ဆုံး၊ ဆိုးရည်ကလည်း သင်္ကန်းအရောင် ဖြစ်ကာမတ္တ အညှံ့ဆုံး ဆိုတဲ့ အညှံ့ဆုံး သုံးမျိုးနဲ့ စီမံထားတာ ဖြစ်ပါတယ်။ အခုလို အညှံ့ဆုံးသုံးမျိုးရှိတဲ့ ပံသကူသင်္ကန်းကို အမြဲတမ်း ဝတ်ရုံတဲ့ အတွက်ကြောင့် 'လူခစီဝရဓရဧတဒဂ်'ကို ရခဲ့တာပါ။

## (ခ) အတိတ်က ပါရမီဖြည့်ပုံနဲ့ ဆုတောင်း

## ပဒုမုတ္တရဘုရားရှင်လက်ထက် ပါရမီဖြည့်ပုံ

အရှင်မောဃရာဇမထေရ် လောင်းလျာလည်း ပဒုမုတ္တရ မြတ်စွာဘုရားရှင် လက်ထက်တော်အခါက ဟံသာဝတီမင်းနေပြည်မှာ အမျိုးကောင်းသား ဖြစ်ခဲ့တယ်။ အရွယ်ရောက်တဲ့ အခါ မြတ်စွာဘုရား ထံ သွားရောက်ပြီး တရားနာပါတယ်။ တစ်ခါမှာတော့ ပဒုမုတ္တရ မြတ်စွာဘုရားရှင်က ရဟန်းတော်တစ်ပါးကို ခေါင်းပါးညှံ့ဖျင်းတဲ့ သင်္ကန်းဆောင်တဲ့ အရာ အသာဆုံး ဧတဒဂ်နဲ့ ချီးမြှောက်တာကို ဖူးတွေ့ လိုက်ရပါတယ်။ ဒီအခါ အားကျစိတ်တွေ ဖြစ်ပေါ်လာပြီး ကုသိုလ် ကောင်းမှု ပြုလုပ်ကာ အဲဒီ ရဟန်းရတဲ့ ဧတဒဂ်မျိုး ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။

## ကဿပဘုရားရှင်လက်ထက် ပါရမီဖြည့်ပုံ

အရှင်မြတ်လောင်းဟာ အဲဒီ ဘဝမှာ အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကုသိုလ်ကောင်းမှုများ ပြုလုပ်ခဲ့ပြီး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ရင်းက ကဿပမြတ်စွာဘုရား ပွင့်တော်မမူခင်မှာပဲ ကဋ္ဌဝါဟနမြို့က မင်းတိုင်ပင်အမတ်ကြီးအိမ်မှာ ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့ အခါ ကဋ္ဌဝါဟနမင်းထံ ခစားရင်း ဖခင်ထမ်းဆောင် ခဲ့တဲ့ ပညာရှိအမတ်ရာထူးကို ရခဲ့ပါတယ်။

အဲဒီ အချိန်မှာ ကဿပမြတ်စွာဘုရား လောကမှာ ပွင့်ထွန်း တော်မူလာခဲ့ပါတယ်။ ကဋ္ဌဝါဟနမင်းဟာ "လောကမှာ မြတ်စွာ ဘုရား ပွင့်တော်မူလာပြီတဲ့" လို့ သတင်းစကား ကြားရတာနဲ့

ချက်ချင်းပဲ အရှင်မြတ်လောင်း ပညာရှိအမတ်ကို ခေါ်ပြီး ဘုရားပင့်ဖို့ စေလွှတ်လိုက်ပါတယ်။

"ချစ်သား၊ ငါတို့ နှစ်ယောက်လုံး တစ်ချိန်တည်း ထွက်သွားလို့ တိုင်းပြည်အတွက် မတော်ဘူး၊ ဒါကြောင့် သင် ချစ်သားပဲ မဇ္ဈိမဒေသကို သွားပြီး ဘုရားပွင့်တာ ဟုတ်၊ မဟုတ် စုံစမ်းပါ၊ ဘုရားပွင့်တာ ဟုတ်မှန်ခဲ့ရင် မြတ်စွာဘုရားကို တို့တိုင်းပြည်ကို ပင့်ဆောင်ခဲ့ပါ"လို့ ပညာရှိအမတ်ကို အခုလို မှာကြားပြီး စေလွှတ်လိုက်တာပါ။ နောက်လိုက်နောက်ပါ မင်းချင်း တစ်ထောင်ကိုလည်း အဖော်အဖြစ် ထည့်ပေးလိုက်ပါတယ်။

အရှင်မြတ်လောင်း ပညာရှိအမတ်ဟာ ကဿပမြတ်စွာဘုရား ထံ ရောက်သွားခဲ့ပြီး မြတ်စွာဘုရားဟောတဲ့ တရားကို နာယူခဲ့ပါ တယ်။ တရားနာပြီး သဒ္ဓါတရား ဖြစ်ပေါ်လာတာနဲ့ မြတ်စွာဘုရား ထံ ရဟန်းဝတ်ပြီး တရားအားထုတ်နေပါတော့တယ်။ ပညာရှိအမတ်နဲ့ အတူလိုက်လာတဲ့ မင်းချင်းတစ်ထောင်ကတော့ ကဋ္ဌဝါဟနမင်းထံ ပြန်လာခဲ့ကြပါတယ်။ အရှင်မြတ်လောင်း အမတ်ဟာ ကဿပ မြတ်စွာဘုရားထံ ရဟန်းဝတ်ပြီး သီလဖြည့်ကျင့်ကာ တရားဘာဝနာ တွေ အားထုတ်ခဲ့တယ်။ ဒီကောင်းမှု ကုသိုလ်ကံကြောင့်ပဲ အရှင်မြတ် လောင်းဟာ ကဿပမြတ်စွာဘုရားနဲ့ အကျွန်ုပ်တို့ ဂေါတမမြတ်စွာ ဘုရား နှစ်ဆူအကြား ကာလတစ်လျှောက်လုံး အပါယ်လေးပါး မလားမရောက်ခဲ့ပါဘူး။

## (ဂ) ပစ္စုပ္ပန်ဘဝဇာတ်ကြောင်း

နောက်ဆုံး အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရား လက်ထက် မှာတော့ မြတ်စွာဘုရား မပွင့်ခင်မှာပဲ သာဝတ္ထိပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူ့ရဲ့ နာမည်ကို 'မောဃရာဇလုလင်'လို့ မှည့်ခေါ် ခဲ့ကြတယ်။

ကဥ္စဝါဟနမင်းလည်း ကဿပမြတ်စွာဘုရားထံ ကောင်းမှုကုသိုလ်များ ပြုလုပ်ခဲ့ပြီး ဘုရားနှစ်ဆူအကြား ကာလတစ်လျှောက်လုံး အခြံအရံတွေနဲ့တကွ နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ပါတယ်။ ဒီနောက်မှာတော့ အကျွန်ုပ်တို့ မြတ်စွာဘုရား မပွေးဖွားမီ ရှေ့ပိုင်းကာလမှာပဲ သာဝတ္ထိ ပြည်က ပုရောဟိတ်ရဲ့အိမ်မှာ ဖြစ်ခဲ့ပါတယ်။ သူ့ရဲ့ နာမည်ကို 'ဗာဝရီလုလင်' လို့ မှည့်ခေါ်ခဲ့ကြတယ်။ ဗာဝရီလုလင်ဟာ ဗေဒင်သုံးပုံ သင်ယူပြီးနောက် လုလင်တစ်သောင်းခြောက်ထောင်ကို အတတ်ပညာ သင်ပေးရင်း ဆရာအဖြစ်နဲ့ နေထိုင်ခဲ့ပါတယ်။

## ဗာဝရီဆရာကြီးထံမှာ အတတ်ပညာသင်ယူ

ဗာဝရီပုဏ္ဏားဆရာလေးရဲ့ ဖခင်က သာဝတ္ထိပြည့်ရှင် ဘုရင်ပသေနဒီကောသလရဲ့ ပညာရှိ ပုရောဟိတ်အမတ်ကြီးပါ။ အဲဒီပညာရှိ ပုရောဟိတ်အမတ်ကြီး ကွယ်လွန်သွားတဲ့ အခါ ပသေနဒီကောသလမင်းက ပုရောဟိတ်အမတ်ကြီးရဲ့ သားဖြစ်တဲ့ ဗာဝရီပုဏ္ဏားဆရာလေးကိုပဲ ပညာရှိ ပုရောဟိတ်အမတ်ရာထူးနေရာမှာ ခန့်ထားခဲ့ပါတယ်။ အဲဒီအချိန်မှာ မောဃရာဇလုလင်လည်း ဗာဝရီ ပုရောဟိတ်အမတ်ကြီးအထံမှာ အတတ်ပညာ သင်ယူနေခဲ့ပါတယ်။

## ဗာဝရီဆရာကြီးနဲ့အတူ တောထွက်၊ ရသေ့ရဟန်းဝတ်

ဒီလိုနဲ့ အသက်အရွယ်လေး ရလာတဲ့ အခါ ဗာဝရီပုဏ္ဏားဟာ လူသူလေးပါး တိတ်ဆိတ်တဲ့ နေရာ သွားပြီး သူတတ်မြောက်ထားတဲ့ အသိပညာ အတတ်ပညာတွေထဲမှာ အနှစ်သာရကို စဉ်းစား ရှာဖွေကြည့်ခဲ့ပါတယ်။ ဒီလိုကြည့်တဲ့အခါ တမလွန်ကောင်းကျိုးနဲ့ ပတ်သက်တဲ့ အနှစ်သာရကို ရှာမတွေ့ခဲ့ပါဘူး။ ဒါနဲ့ 'ရသေ့ရဟန်းဝတ်ပြီး တမလွန်ကောင်းကျိုးကို ငါ ရှာတော့မယ်' လို့ ဆုံးဖြတ်လိုက်ပြီး

ပသေနဒီကောသလမင်းထံ ချဉ်းကပ်ကာ ရသေ့ရဟန်းပြုခွင့် တောင်းခဲ့ပါတယ်။ မင်းထံက ခွင့်ပြုချက်ရတာနဲ့ ဗာဝရီပုဏ္ဏားဟာ တပည့်ပေါင်း တစ်သောင်းခြောက်ထောင်နဲ့အတူ ရသေ့ရဟန်းပြုဖို့ ထွက်သွားခဲ့ ပါတယ်။ အဲဒီထဲမှာ အရှင်မောဃရာဇမထေရ်လောင်း မောဃရာဇ လုလင်လည်း ပါဝင်ခဲ့ပါတယ်။

ကောသလမင်းလည်း သူ့ဆရာ ဗာဝရီပုဏ္ဏားနဲ့အတူ အမတ်တစ်ယောက်ကို အသပြာ တစ်သိန်းပေးပြီး ထည့်ပေးလိုက်တယ်။ ရည်ရွယ်ချက်က သူ့ဆရာ ဗာဝရီပုဏ္ဏား ရသေ့ရဟန်းပြုမယ့် နေရာမှာ မြေနေရာ ဝယ်ပြီး လှူဒါန်းဖို့အတွက်ပါ။ ဗာဝရီပုဏ္ဏား ရသေ့ရဟန်း ပြုပြီး နေမယ့်နေရာကို လိုက်ရှာကြည့်တဲ့ အခါ မဇ္ဈိမဒေသအပြင်ဘက် အဿကမင်းနဲ့ မုဠကမင်းတွေရဲ့ နယ်မြေအတွင်းမှာ ရှိတဲ့ ဂေါဓာဝရီ မြစ်ကမ်းနားမှာ နေဖို့ နေရာကို ရွေးချယ်လိုက်ပါတယ်။ အဲဒီနေရာမှာပဲ ဗာဝရီပုဏ္ဏားနဲ့ တပည့်တွေဟာ ရသေ့ရဟန်းပြုပြီး နေခဲ့ကြတယ်။

တစ်ခါမှာတော့ ရသေ့တွေကို တွေ့ဖို့ ဆိုပြီး လူတစ်ယောက် ရောက်လာခဲ့ပါတယ်။ အဲဒီလူဟာ ရသေ့တွေကို တွေ့လိုက်တာနဲ့ ကြည်ညိုသွားတယ်။ နောက်ပိုင်း ရသေ့တွေနဲ့ ရင်းနှီးခဲ့ပြီး ရသေ့တွေရဲ့ ခွင့်ပြုချက်နဲ့ ရသေ့တွေရဲ့ နယ်ထဲမှာပဲ အိမ်ဆောက်နေလိုက်ပါတယ်။ အဲဒီလူ နေတာကို အခြားလူတွေ၊ မိသားစုတွေ တွေ့မြင်ကြတဲ့အခါ သူတို့တစ်တွေလည်း ရသေ့တွေထံ ခွင့်ပန်လျှောက်ထားပြီး ရသေ့တွေရဲ့ နယ်မြေထဲမှာ အိမ်ဆောက်၊ လုပ်ကိုင်စားသောက်ကာ နေထိုင်ခဲ့ကြတယ်။ အချိန်ကာလ ကြာလာတဲ့ အခါ အဲဒီလို ရွှေ့ပြောင်းပြီး လာနေကြတဲ့ မိသားစုပေါင်းဟာ အိမ်ခြေတစ်ရာလောက်အထိ ရှိခဲ့ပါတယ်။

အဲဒီ မိသားစုတွေဟာ တစ်နေ့မှာတော့ စုဝေးပြီး "ငါတို့ဟာ အရှင်မြတ်တွေရဲ့ နယ်မြေထဲမှာ နေကြတာ ဖြစ်တယ်၊ ငါတို့ အခမဲ့ အချည်းနှီး အလကား နေလို့တော့ မတော်ဘူး၊ အခုလို ချမ်းချမ်းသာသာနေခွင့် ရတဲ့ အတွက် အရှင်မြတ်တွေကို ဝတ္ထုကြေးငွေ

ပေးကြစို့''လို့ တိုင်ပင်ကြတယ်။ ပြီးတော့ တစ်အိမ် ဘယ်လောက်၊ တစ်ယောက် ဘယ်လောက် ဆိုပြီး ငွေကြေး ကောက်ခံလိုက်တာ အသပြာတစ်သိန်း ရခဲ့ပါတယ်။ အဲဒီ ငွေတစ်သိန်းကို ဗာဝရီဆရာ ရသေ့ကြီးထံ သွားရောက် လှူဒါန်းခဲ့ကြတယ်။ အဲဒီအခါ ဗာဝရီဆရာ ရသေ့ကြီးက ''ဒီငွေတွေ ဘာလုပ်ဖို့ ယူလာတာလဲ''လို့ မေးပါတယ်။ လူတွေက ''ဆရာအရှင်တို့ရဲ့ နယ်မြေအတွင်းမှာ ချမ်းချမ်းသာသာ နေရတဲ့ အတွက်ကြောင့် ဒီ ငွေတစ်သိန်းကို ယူလာရတာပါ''လို့ ဖြေကြတယ်။ ဒီအခါ ဗာဝရီဆရာကြီးက ''ငါဟာ တကယ်လို့ ရွှေတွေ ငွေတွေကို အလိုရှိခဲ့မယ် ဆိုရင် ဒီလောက် ကြီးကျယ်တဲ့ စည်းစိမ်ဥစ္စာတွေကို စွန့်ပြီး ရဟန်းကို ပြုခဲ့မှာ မဟုတ်ပါဘူး၊ ဒါကြောင့် သင်တို့ ငွေတွေ ယူပြီး ပြန်သွားကြ''လို့ မိန့်ခဲ့ပါတယ်။

ဒီလို မိန့်လိုက်တဲ့ အခါ လူတွေက ''အရှင့်ကို လှူဒါန်းပြီး ဖြစ်တဲ့ ဒီငွေတွေကို အကျွန်ုပ်တို့ ပြန်မယူလိုပါ၊ နှစ်စဉ် နှစ်တိုင်းလည်း အခုလိုပဲ ဆက်ပြီး လှူနေဦးမှာပါ၊ အရှင်ရသေ့က ဒီငွေတွေကို ယူပြီး အလှူဒါန ပြုလုပ်ပါ''လို့ လျှောက်ထားခဲ့ကြတယ်။ ဗာဝရီဆရာကြီးလည်း အဲဒီလူတွေ အတင်းအကျပ် လျှောက်တာနဲ့ ငွေတွေကို လက်ခံလိုက်ပြီး အထီးကျန် ဆင်းရဲသားတွေ၊ ခရီးသွားပုဂ္ဂိုလ်တွေ၊ တောင်းစားတဲ့သူတွေအတွက် အလှူမဏ္ဍပ်ဆောက်လုပ်ကာ ပေးကမ်းလှူဒါန်းခဲ့ပါတယ်။ ဗာဝရီ ဆရာရသေ့ကြီးရဲ့ အခုလို အဆက်မပြတ် လှူဒါန်းနေတဲ့ သတင်းဟာ ဇမ္ဗူဒိပ်တစ်ကျွန်းလုံး ပျံ့နှံ့သွားခဲ့ပါတယ်။

အဲဒီ အချိန်က ကာလိင်္ဂတိုင်းက ရွာတစ်ရွာမှာ ဇူဇကာပုဏ္ဏားရဲ့ အနွယ်အဆက် ဆင်းရဲသား မသူတော်ပုဏ္ဏား လင်မယား ရှိခဲ့တယ်။ ပုဏ္ဏေးမကြီးက ပုဏ္ဏားကြီးကို ''ဗာဝရီရသေ့ကြီး အလှူပေးနေတယ် ကြားတယ်၊ တော် အဲဒီ ရသေ့ကြီးထံ သွားပြီး ရွှေတွေ၊ ငွေတွေ တောင်းခဲ့ပါ''လို့ ခဏ ခဏ ပြောဆိုပြီး ခိုင်းတယ်။ ပုဏ္ဏားကြီးလည်း

ပုဏ္ဏားမကြီးက ခဏ ခဏ နားပူနားဆာလုပ်နေတာနဲ့ မနေသာတော့ဘဲ ဗာဝရီရသေ့ကြီးထံ အလှူခံဖို့ သွားခဲ့တယ်။ အဲဒီ ပုဏ္ဏားကြီး ဗာဝရီရသေ့ကြီးထံ ရောက်သွားတဲ့ အခါ ရသေ့ကြီးက အလှူအတန်း လုပ်ပြီးလို့ သင်္ခမ်းကျောင်းထဲ ဝင်ပြီး လဲလျောင်းကာ အလှူအကြောင်း ပြန်လည် စဉ်းစားဆင်ခြင်နေတဲ့ အချိန် ဖြစ်ပါတယ်။

## အလှူပေးတဲ့ ဗာဝရီဆရာကြီး ရန်ရှာခံရ

ဒီအခါ ပုဏ္ဏားကြီးဟာ ရသေ့ကြီးထံ သွားပြီး အလှူခံပါတယ်။ ရသေ့ကြီးက "အို… ပုဏ္ဏားကြီး၊ အလှူပွဲက ခုလေးတင်ပဲ ပြီးသွားပြီ၊ သင် နောက်ကျသွားတယ်။ ခု ငါ့မှာ သင့်ကို လှူဖို့ ဘာမှ မရှိတော့ဘူး၊ နောက်တစ်ကြိမ် လှူတဲ့ အခါမှ ပြန်လာခဲ့ပါ"လို့ ပြောပါတယ်။ ဒီအခါ ပုဏ္ဏားကြီးက "အို… ရသေ့ကြီး၊ အကျွန်ုပ် ပိုက်ဆံအများကြီး မလိုချင်ပါဘူး၊ ဒီလောက် အကြီးအကျယ် အလှူလုပ်နေတဲ့ သင့်မှာ လှူစရာ ပိုက်ဆံ မရှိတော့ဘူး ဆိုတာ မဖြစ်နိုင်ပါဘူး၊ ပိုက်ဆံ ငါးရာလောက် ပေးစမ်းပါ"လို့ ခပ်ရိုင်းရိုင်းပြောဆိုပြီး တောင်းခဲ့တယ်။ ရသေ့ကြီးက "အို… ပုဏ္ဏားကြီး၊ ခု ငါ့မှာ သင် တောင်းတဲ့ ပိုက်ဆံငါးရာ လုံးဝ မရှိပါ၊ နောက်တစ်ကြိမ် အလှူလုပ်မှပဲ လာခဲ့ပါ"လို့ ပြန်ပြောလိုက်ပါတယ်။

ဒီအခါ ပုဏ္ဏားကြီးက စိတ်ဆိုးမာန်ဆိုးနဲ့ "ဘာလို့ သင် နောက်တစ်ကြိမ် အလှူလုပ်တဲ့ အထိ ငါက စောင့်ရမှာလဲ"ဆိုပြီး ရသေ့ကြီးရဲ့ သစ်ခက်မိုး သင်္ခမ်းကျောင်းတံခါးဝမှာ သဲပုံစေတီလေး တည်လိုက်တယ်၊ စေတီရဲ့ဘေးမှာ ပန်းအနီတွေ ဖြန့်ကြဲပြီး မန္တန်တစ်ခု ရွတ်သလို၊ စုတ်သလိုပုံစံနဲ့ နှုတ်ခမ်း လှုပ်စိ လှုပ်စိလုပ်ကာ 'ခေါင်း ခုနစ်စိတ် ကွဲပါစေ'လို့ ကျိန်ဆဲနေခဲ့တယ်။

ဗာဝရီရသေ့ကြီးလည်း 'ဩော်… ဒီ ပုဏ္ဏားတွေ ကျိန်ဆဲတာဟာ တစ်ခါတလေ မှန်များ မှန်နေမလား မသိဘူး၊ ငါ့မှာလည်း

ဘာမှ ပေးစရာ မရှိတော့ဘူး၊ ဒီပုဏ္ဏား ငါ့ကို ဧကန် သတ်တော့မှာပဲ' လို့ အတွေးဝင်ပြီး စိုးရိမ်ထိတ်လန့်စိတ်တွေနဲ့ သင်္ခမ်းကျောင်းထဲမှာ လဲလျောင်းနေခဲ့တယ်။ အဲဒီ အချိန်မှာ ဗာဝရီရသေ့ကြီးရဲ့ လွန်ခဲ့တဲ့ ဘဝဟောင်းက မိခင်က သင်္ခမ်းကျောင်းစောင့်တဲ့ နတ်သမီး ဖြစ်နေတဲ့ အချိန် ဖြစ်ပါတယ်။

ညပိုင်းရောက်တဲ့ အခါ နတ်သမီးဟာ သူ့သား ဗာဝရီ ရသေ့ကြီး စိတ်ဆင်းရဲ၊ ကိုယ်ဆင်းရဲ ဖြစ်ပြီး လှဲအိပ်နေတာကို သိတာနဲ့ ရသေ့ကြီးအနီး ရောက်လာပြီး "ချစ်သား… ဒီပုဏ္ဏားဟာ ဦးခေါင်း ဆိုတာလည်း မသိ၊ ဦးခေါင်းကွဲစေနိုင်တဲ့အရာကိုလည်း မသိပါ။ သင် မစိုးရိမ်ပါနဲ့၊ သင် ချစ်သားဟာ လောကမှာ မြတ်စွာဘုရား ပွင့်တော်မူနေတယ် ဆိုတာလေးကိုတောင် မသိရှာပါလား၊ သင်ဟာ 'ဦးခေါင်းဆိုတာ ဘာလဲ၊ ဦးခေါင်းကွဲစေနိုင်တဲ့ တရားက ဘာလဲ' ဆိုတာ သိချင်ရင် မြတ်စွာဘုရားထံ သွားပြီး မေးလျှောက်ပါ၊ မြတ်စွာ ဘုရားက သင့်ကို ဖြေရှင်းပြပါလိမ့်မယ်"လို့ သက်သာရာစကား ပြောကြားခဲ့ပါတယ်။

ဗာဝရီရသေ့ကြီးဟာ နတ်သမီးစကား ကြားလိုက်ရတဲ့ အချိန် ကစပြီး စိတ်သက်သာရာ ရခဲ့ပါတယ်။ နောက်နေ့မနက် အရုဏ်တက် ချိန်မှာတော့ တပည့်အားလုံးကို ခေါ်လိုက်ပြီး "ချစ်သားတို့… လောကမှာ မြတ်စွာဘုရား ပွင့်တော်မူနေပြီတဲ့၊ သင်တို့ မြန်မြန်သွားပြီး ဘုရား ဟုတ်၊ မဟုတ် သိအောင် စုံစမ်းချေကြ၊ ဘုရားဟုတ်တယ် ဆိုရင် ငါ မြတ်စွာဘုရားထံ သွားမယ်၊ တကယ်တော့ ငါ့မှာ အသက် ကြီးနေတဲ့ အတွက် အသက်အန္တရာယ် ဆိုတာကလည်း သိဖို့ ခက်လှ တယ်၊ သင်တို့တစ်တွေပဲ မြတ်စွာဘုရားထံ သွားပြီး ဒီနည်း ဒီနည်း အတိုင်း မေးခွန်း မေးမြန်းကြ"လို့ မေးခွန်းတွေ စီစဉ်ပေးကာ လွှတ်လိုက်တယ်။

ဒီနောက် ဗာဝရီရသေ့ကြီးမှာ “သြော်… ဒီတပည့်တွေအားလုံးဟာ ပညာရှိတွေချည်းပဲ၊ မြတ်စွာဘုရားရဲ့ တရား နာပြီးတာနဲ့ တရားထူးတွေ အပြီးအဆုံးအထိ ရသွားခဲ့ရင် ငါ့ထံ ပြန်လာမှ လာကြပါ့မလား’လို့ သံသယအတွေးဝင်ခဲ့တယ်။

ဒီအခါ ဗာဝရီရသေ့ကြီးဟာ သူ့ရဲ့တူရင်းဖြစ်တဲ့ အဇိတလုလင်ကို “ချစ်သား… သင်ကတော့ ဧကန်ပင် ငါ့ထံ ပြန်လာသင့်တယ်၊ မြတ်စွာဘုရားထံ တရားနာလို့ သင် တရားထူး ရခဲ့ရင်လည်း သင် ရတဲ့တ ရားထူးရဲ့ ဂုဏ်ကျေးဇူးကို ငါ့ကို ပြန်ပြောပြပါ”လို့ ကတိစကား တောင်းခဲ့တယ်။

အဲဒီ နောက်မှာတော့ ဗာဝရီရသေ့ကြီးရဲ့ တပည့် တစ်သောင်းခြောက်ထောင်တို့ဟာ အဇိတလုလင် ခေါင်းဆောင်တဲ့ တပည့်ကြီးတစ်ဆယ့်ခြောက်ယောက်တို့နဲ့အတူ မြတ်စွာဘုရားထံ ထွက်ခဲ့ကြတယ်။ လမ်းခရီးအကြား ရောက်တဲ့ အရပ်တိုင်း အရပ်တိုင်းမှာ လူတွေက “အရှင်ဘုရားတို့… ဘယ်ကို သွားကြမလို့လဲ”လို့ မေးကြတဲ့အတွက် “သိလိုတဲ့ မေးခွန်းပြဿနာတွေ မေးမြန်းဖို့အတွက် မြတ်စွာဘုရားထံ သွားကြမှာ”လို့ ရသေ့တွေက ပြန်ဖြေကြတယ်။ ဒီအခါ လူတွေဟာ တို့လည်း လိုက်မယ်၊ တို့လည်း လိုက်မယ်ဆိုပြီး ရသေ့တွေနောက် လိုက်လာခဲ့ကြတာ လူပေါင်း ထောင်၊ သောင်းမက များပြားခဲ့တယ်။

အဲဒီ အချိန်မှာ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်မှာ သီတင်းသုံး နေတော်မူတဲ့ အချိန် ဖြစ်ပါတယ်။ မြတ်စွာဘုရားရှင်ဟာ ဉာဏ်တော်နဲ့ ဆင်ခြင်ကြည့်လိုက်တဲ့အခါ ဗာဝရီဆရာရသေ့ကြီးရဲ့ တပည့်ရသေ့တွေဟာ နောက်လိုက်နောက်ပါလူများစွာနဲ့အတူ လာနေတာကို မြင်တော်မူခဲ့ပါတယ်။ နောက်ပြီး ‘ရာဇဂြိုဟ်မြို့နားက ပါသာဏစေတီရှိရာ အရပ်မှာ ဆိုရင် ဒီရသေ့တွေနဲ့ တပည့်ပရိသတ်များစွာအတွက် သင့်တော်တဲ့နေရာ ဖြစ်တယ်’

ဆိုတာကိုပါ မြင်တော်မူခဲ့တယ်။ ဒါကြောင့် မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည်ကနေ ရာဇဂြိုဟ်အနီးက ပါသာဏစေတီကို ကြွတော်မူခဲ့ပြီး စေတီအနီးမှာရှိတဲ့ ကျောက်ဖျာပေါ်မှာ သီတင်းသုံးနေတော်မူခဲ့ပါတယ်။

## အဇိတရသေ့က မြတ်စွာဘုရားကို စိတ်နဲ့ မေးခွန်းမေး

အဇိတရသေ့ခေါင်းဆောင်တဲ့ ရသေ့တွေဟာ မြတ်စွာဘုရားရှိရာကို စုံစမ်းမေးမြန်းပြီး လိုက်လာကြတာ စေတီအနီး ကျောက်ဖျာပေါ်မှာ သီတင်းသုံး ထိုင်နေတော်မူတဲ့ မြတ်စွာဘုရားရှင်ကို တွေ့မြင်ခဲ့ကြတယ်။ ဒီအခါ ခေါင်းဆောင် အဇိတရသေ့ဟာ မြတ်စွာဘုရားရှင်ရဲ့ ခန္ဓာကိုယ် တင့်တယ်သပ္ပာယ်တော်မူပုံကို ဖူးတွေ့ ရတဲ့ အတွက် 'သြော်... ဒီယောကျ်ားမြတ်ဟာ လောကမှာ ကိလေသာ အပူအားလုံး ကင်းစင်ပြီးတဲ့ သမ္မာသမ္ဗုဒ္ဓ ဘုရားရှင် စင်စစ်ဧကန် ဖြစ်တဲ့ပုဂ္ဂိုလ်ပဲ' လို့ ဆုံးဖြတ်ချက်ချပြီး ဆရာရသေ့ စီစဉ်ပေးလိုက်တဲ့ မေးခွန်းတွေထဲက ပထမဆုံး ငါးခုကို စိတ်နဲ့ပဲ မြတ်စွာဘုရားကို မေးလျှောက်ခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ကတော့ အဇိတရသေ့ စိတ်နဲ့မေးတဲ့ မေးခွန်းတွေကို နှုတ်တော်က မြွက်ဟပြီး တစ်ချက်ချင်း ဖြေတော်မူခဲ့ပါတယ်။

အဲဒီနောက် အဇိတရသေ့ဟာ မြတ်စွာဘုရားကို 'မြတ်စွာဘုရား၊ ဦးခေါင်း ဆိုတာ ဘာကို ပြောတာပါလဲ၊ ဦးခေါင်းကို အစိတ်စိတ်အမြွာမြွာ ခွဲစိတ်နိုင်တဲ့ တရားကောင်း ဆိုတာကရော အဘယ်အရာကို ပြောတာပါလဲလို့ အကျွန်ုပ်တို့ ဆရာ ဗာဝရီရသေ့ကြီးက မေးလိုက်ပါတယ်ဘုရား၊ ဒီအမေးကို ကရုဏာရှေ့ထားပြီး ဖြေကြားပေးတော်မူပါ ဘုရား' လို့ စိတ်နဲ့ပဲ မေးလိုက်ပြန်ပါတယ်။

**ဦးခေါင်း ဆိုတာ အဝိဇ္ဇာ၊ ဦးခေါင်းကို ခွဲစိတ်ကြောင်းတရား ဆိုတာ ဉာဏ်ဝိဇ္ဇာ**

မြတ်စွာဘုရားရှင်က အဇိတရသေ့ စိတ်နဲ့ မေးတာကို နှုတ်တော်က မြွက်ဟပြီး "အို… အဇိတရသေ့၊ ဦးခေါင်း ဆိုတာ သစ္စာလေးပါးကို မမြင်အောင် ဖုံးကွယ်ထားတဲ့ အဝိဇ္ဇာပဲ၊ ဒီ အဝိဇ္ဇာဟာ အစမထင် သံသရာရဲ့ ဦးခေါင်းသဖွယ် ဖြစ်တာမို့ အဝိဇ္ဇာကို ဦးခေါင်းလို့ မှတ်ပါ၊ သဒ္ဓါ၊ သတိ၊ သမာဓိ၊ ဆန္ဒ၊ ဝီရိယတွေနဲ့ ယှဉ်တွဲနေတဲ့ အရဟတ္တမဂ်ဉာဏ်ဝိဇ္ဇာကိုတော့ အဝိဇ္ဇာ ဆိုတဲ့ သံသရာ့ ဦးခေါင်းကို အစိတ်စိတ်အမြွာမြွာ ခွဲစိတ်နိုင်ကြောင်း တရားကောင်းလို့ မှတ်ပါ"လို့ ဖြေကြားတော်မူခဲ့ပါတယ်။

ဒီအခါ အဇိတရသေ့ဟာ အလွန့်ကို ဝမ်းသာအားရ ဖြစ်ခဲ့ပြီး မြတ်စွာဘုရားရှင်ရဲ့ ခြေတော်ကို ဦးခေါင်းနဲ့ ဦးခိုက်ရှိခိုးကာ "မြတ်စွာဘုရား၊ တပည့်တော်တို့ဆရာ ဗာဝရီရသေ့ဟာ တပည့်ပေါင်း တစ်သောင်းခြောက်ထောင်နဲ့အတူ မြတ်စွာဘုရားရဲ့ ခြေတော်ကို ရိုသေမြတ်နိုး ဦးညွှတ်လျှိုးကာ ရှိခိုးပါတယ် ဘုရား"လို့ နှုတ်က ရွတ်ဆို ရှိခိုးကန်တော့ခဲ့တယ်။ မြတ်စွာဘုရားကလည်း "ဗာဝရီဆရာကြီး တပည့်ရသေ့တွေနဲ့အတူ ချမ်းသာပါစေ၊ သင် အဇိတရသေ့လည်း ချမ်းသာပါစေ၊ အသက်ရှည်ပါစေ" လို့ ဆုတောင်းအာသီသ ပြုတော်မူခဲ့ပါတယ်။ ဆက်ပြီးတော့ "သင်တို့ ဆရာကြီးမှာ ဖြစ်ဖြစ်၊ သင်တို့မှာဖြစ်ဖြစ် ယုံမှားသံသယတွေ ရှိနေသေးရင် အားမနာတမ်း မေးကြ" လို့လည်း မေးခွန်းတွေ မေးဖို့ ဖိတ်ခေါ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

မြတ်စွာဘုရားရှင်က မေးခွန်းမေးဖို့ ဖိတ်ကြား ခွင့်ပြုလိုက်တဲ့ အခါ ခေါင်းဆောင်ဖြစ်တဲ့ အဇိတရသေ့က စတင်ပြီး မေးခွန်း မေးလျှောက်ပါတယ်။ မြတ်စွာဘုရားရှင်က အဇိတရသေ့ မေးတဲ့ အမေးပုစ္ဆာ ပြဿနာကို အမြင့်ဆုံး သာသနာ့ပန်းတိုင်ဖြစ်တဲ့ အရဟတ္တဖိုလ်

ရတဲ့ အထိ ခွဲခြမ်းစိတ်ဖြာပြီး ဖြေကြားတော်မူခဲ့ပါတယ်။ မြတ်စွာဘုရားရဲ့ အဖြေတရားကို နာပြီးတဲ့ အခါ ရသေ့ပေါင်း တစ်သောင်းခြောက်ထောင်ထဲက အဇိတရသေ့နဲ့ သူ့တပည့်ရင်းတစ်ထောင်တို့ ရဟန္တာ ဖြစ်တော်မူခဲ့ကြပါတယ်။ 'ဧဟိဘိက္ခု' ရဟန်းအဖြစ်ကိုလည်း ရခဲ့ကြတယ်။ တရားနာပရိသတ်ထဲက အချို့ ပုဂ္ဂိုလ်တွေလည်း မဂ်ဖိုလ်တရားထူးများ ရရှိခဲ့ကြတယ်။

ဗာဝရီဆရာရသေ့ကြီးရဲ့ တပည့်တစ်သောင်းခြောက်ထောင်မှာ လက်ထောက်တပည့်ကြီး ၁၆ ယောက် ရှိပါတယ်။ အဲဒီ တပည့်ကြီးတွေထဲမှာ အရှင်မောဃရာဇမထေရ်လောင်း မောဃရာဇရသေ့လည်း တစ်ပါးအပါအဝင် ဖြစ်ပါတယ်။ မောဃရာဇရသေ့ဟာ သူ့ကိုယ်သူ အားလုံးထက် အတော်ဆုံးလို့ထင်ပြီး မာနအလွန်ကြီးတဲ့သူပါ။ ဒါပေမဲ့ သူက 'အဇိတရသေ့ဟာ တပည့်ကြီးတွေထဲမှာ ခေါင်းဆောင် ဖြစ်တယ်။ ငါက သူ့အရင် မြတ်စွာဘုရားကို မေးခွန်း မေးလျှောက်ဖို့ မတော်ဘူး' လို့ တွေးပြီး ပထမဦးဆုံး ထကာ မေးခွန်း မမေးခဲ့ပါဘူး။ အဇိတရသေ့ မေးပြီးတဲ့ အခါမှ ဒုတိယတပည့်ကြီး အနေနဲ့ မောဃရာဇရသေ့ဟာ မြတ်စွာဘုရားကို မေးခွန်းပြဿနာ မေးလျှောက်ခဲ့ပါတယ်။

ဒါပေမဲ့ မြတ်စွာဘုရားရှင်က 'မောဃရာဇရသေ့ဟာ မာန်မာန ခက်ထန်တဲ့သူ ဖြစ်တယ်၊ သူ့ရဲ့ ဉာဏ်ပညာကလည်း မရင့်ကျက်သေးဘူး၊ သူ့ရဲ့ မာန်မာနကို တားမြစ်မှ တော်မယ်' လို့ ဆင်ခြင်တော်မူပြီး "မောဃရာဇ··· သင်က ခဏစောင့်ဦး၊ အခြားသူတွေ ပြဿနာ မေးပါစေဦး" လို့ ဟန့်တားတဲ့ စကား မိန့်ကြားတော်မူခဲ့ပါတယ်။ ဒီအခါ မောဃရာဇရသေ့ဟာ 'ငါဟာ ခုချိန်အထိ ငါ့ထက် ပိုပြီး ပညာရှိတဲ့သူ မရှိဘူးလို့ ထင်နေခဲ့တာ၊ ဘုရားရှင်တွေဆိုတာလည်း မသိဘဲနဲ့ မိန့်ဆိုတော်မူကြမှာ မဟုတ်ဘူး၊ မြတ်စွာဘုရားက ငါမေးတဲ့ မေးခွန်းမှာ အပြစ်တစ်စုံတစ်ရာ မြင်လို့ ဖြစ်ပါလိမ့်မယ်' လို့ တွေးပြီး ငြိမ်ငြိမ်ပဲ နေခဲ့ပါတယ်။

ဒါနဲ့ အခြား ခေါင်းဆောင်ရသေ့ ရှစ်ယောက်တို့ မေးခွန်းတွေ အသီးသီး မေးမြန်း လျှောက်ထားခဲ့ကြတယ်။ ဒီရှစ်ယောက် မေးပြီးတဲ့ အခါ မမေးဘဲ မနေနိုင်ပြန်လို့ မောဃရာဇရသေ့ဟာ မေးခွန်း မေးခဲ့ ပြန်ပါတယ်။ ဒီအခါမှာလည်း မြတ်စွာဘုရားက သူ့ရဲ့အမေးကို ထပ်ပြီး ဟန့်တားတော်မူခဲ့ပြန်ပါတယ်။ မောဃရာဇရသေ့လည်း ခပ်မဆိတ် တိတ်တိတ်ပဲ နေလိုက်ပြီး အခြား တပည့်ကြီး ခြောက်ယောက် မေးခွန်း မေးပြီးတဲ့ အခါမှာတော့ 'ငါဟာ ဘယ်နည်းနဲ့မှ သံဃာထဲမှာ အငယ်ဆုံး အဖြစ် မခံနိုင်'လို့ ကြံစည်အောက်မေ့ကာ တစ်ဆယ့် ငါးယောက်မြောက် မေးခွန်းရှင်အနေနဲ့ မြတ်စွာဘုရားကို အခုလို မေးခွန်း မေးခဲ့ပါတယ်။

"မြတ်စွာဘုရား··· တပည့်တော် မေးခွန်းနှစ်ကြိမ် မေးပြီး ပါပြီ ဘုရား၊ နှစ်ကြိမ်လုံး မြတ်စွာဘုရားက တပည့်တော်ရဲ့ မေးခွန်းကို ဟန့်တားတော်မူခဲ့ပါတယ် ဘုရား၊ ဒီ သုံးကြိမ်မြောက်မေးတာကိုတော့ တပည့်တော်ကို ကရုဏာထားပြီး ဖြေကြားပေးတော်မူပါ ဘုရား။

မြတ်စွာဘုရား··· ကထံ လောကံ အဝေက္ခန္တံ၊ မစ္စုရာဇာ န ပဿတိ = လောကကို ဘယ်လို ရှုမြင်ရင် သေမင်း မမြင်နိုင်ပါ သလဲ ဘုရား"

## သုညလို့ ရှုနေရင် သေမင်း မမြင်နိုင်

ဒီအခါ မြတ်စွာဘုရားရှင်က အခုလို ပြန်လည် ဖြေကြားတော် မူခဲ့ပါတယ်။

"ချစ်သား မောဃရာဇ··· အတ္တာနုဒိဋ္ဌိံ ဉီဟစ္စ - သက္ကာယ ဒိဋ္ဌိကို ပယ်လိုက်ပါ ပြီးရင် သုညတော လောကံ အဝေက္ခဿု၊ မောဃရာဇ သဒါ သတော - အမြဲတမ်း သက်ရှိ၊ သက်မဲ့ သင်္ခါရလောကကို နိစ္စသဘော၊ သုခသဘော၊ ကိုယ့်အလိုသို့ လိုက်ပါတဲ့ အတ္တသဘော တွေမှ ကင်းဆိတ်နေတဲ့ သုညသဘောမျှပဲလို့

ဉာဏ်နဲ့ မြင်အောင် ကြည့်၊ ဒီလို ရှုကြည့်နေတဲ့သူကို သေမင်းက မမြင်နိုင်ပါဘူး”

(မှတ်ချက်။ ။ ခန္ဓာငါးပါးအပေါ်မှာ ငါလို့ မှားယွင်းစွာ စွဲလန်းနေတဲ့ အတ္တဒိဋ္ဌိ(သက္ကာယဒိဋ္ဌိ)ကို ခွာပြီး ရုပ်နာမ်ဓမ္မ သင်္ခါရတရားအစုကို အနတ္တပါတကား၊ သုညပါတကားလို့ ရှုကြည့်နေရပါမယ်။ ဒီလို ရှုမှတ်ဖန်များလာရင် သေခြင်းတရားကို လွန်မြောက်နိုင်တယ်လို့ ဆိုလိုတာ ဖြစ်ပါတယ်။ အခုလို ရှုမှတ်ပွားများ အားထုတ်တဲ့ အတွက် အရဟတ္တဖိုလ်ရတဲ့ အခါ နောင်ဘဝ သံသရာအစဉ် ပြတ်သွားတာမို့ သေခြင်းတရားကို လွန်မြောက်သွားပါပြီ။ ‘သေခြင်းတရားကို လွန်မြောက်တယ်’လို့ ဟောတာဟာ ‘အရဟတ္တဖိုလ် ရတယ်’လို့ ဟောတာဖြစ်တာမို့ အခု မြတ်စွာဘုရား ဖြေကြားတော်မူတဲ့ ဂါထာဟာ အရဟတ္တဖိုလ် အထွတ်တပ်တဲ့ တရားဂါထာ ဖြစ်ပါတယ်။)

**(မင်းကွန်းတိပိဋကဆရာတော်ကြီး)**

**မောဃရာဇမထေရ် ရဟန္တာဖြစ်**

အခုလို မြတ်စွာဘုရားက အရဟတ္တဖိုလ်အထိ မျှော်မှန်းပြီး ဖြေကြားတဲ့ တရားဂါထာ အဆုံးမှာ အရင်က ခေါင်းဆောင်ရသေ့များ နည်းတူ မောဃရာဇရသေ့ဟာ သူ့ရဲ့ တပည့်ရင်း တစ်ထောင်နဲ့အတူ ရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။ ဧဟိဘိက္ခု ရဟန်းအဖြစ်ကိုလည်း ရရှိခဲ့ကြပါတယ်။ အခြား တရားနာ ပရိသတ်တွေလည်း မဂ်ဖိုလ် အကျွတ်တရား ရရှိခဲ့ကြပါတယ်။

အရှင်မောဃရာဇမထေရ်ဟာ ဧဟိ ဘိက္ခု ရဟန်းအဖြစ်ကို ရတဲ့ အချိန်ကစပြီး အဝတ်အမျိုးအစားကလည်း ကြမ်း၊ သက်န်းချုပ်တဲ့ အပ်ချည်ကလည်း အကြမ်း၊ ဆိုးရည်ကလည်း သင်္ကန်းအရောင် ဖြစ်တယ်ဆိုရရုံ ကြမ်းတမ်းခေါင်းပါး၊ ဒီလို ကြမ်းတမ်းခြင်း သုံးမျိုးနဲ့ ပြည့်စုံတဲ့ ပံသကူသင်္ကန်းကိုပဲ ရာသက်ပန် ဝတ်ရုံ သုံးစွဲတော်မူခဲ့ပါ တယ်။

ဒါကြောင့် နောက်ပိုင်းကာလတစ်ချိန် မြတ်စွာဘုရားက သာဝတ္ထိပြည် ဇေတဝန်ကျောင်းမှာ ပြုလုပ်တဲ့ ဧတဒဂ်ဘွဲ့ထူး ချီးမြှင့်အပ်နှင်းတဲ့ အခမ်းအနားမှာ "ရဟန်းတို့… ခေါင်းပါးညံ့ဖျင်းတဲ့ သင်္ကန်းကို ဆင်မြန်းဝတ်ရုံ သုံးဆောင်တဲ့ ရဟန်းတွေထဲမှာ မောဃရာဇ ရဟန်းဟာ အတော်ဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်" လို့ ချီးကျူးစကား မိန့်ကြားပြီး အရှင်မောဃရာဇမထေရ်ကို 'လူခစီဝရဓရ ဧတဒဂ်' အရာမှာ ထားတော်မူခဲ့ပါတယ်။

## (ဃ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်

မောဃရာဇမထေရ်ဟာ ခေါင်းပါးကြမ်းတမ်းတဲ့ သင်္ကန်းကို ဝတ်ရုံတော်မူတဲ့အတွက် အသားအရေမှာ ယားနာတွေ၊ အဖုအပိမ့်တွေ ရှိနေပါတယ်၊ ဒါကြောင့် အရှင်မြတ်ရဲ့ အသားအရေဟာ တင့်တယ်ခြင်း မရှိပါဘူး။

ဒါပေမဲ့ အရှင်မြတ်ဟာ ကိလေသာတွေ အားလုံးကို ဝိပဿနာဉာဏ်၊ မဂ်ဉာဏ်တွေနဲ့ ပယ်ပြီးတာကြောင့်ရော ဗြဟ္မစိုရ်တရားလေးပါး လက်ကိုင်ထားပြီး ပွားများနေတဲ့ အတွက်ကြောင့်ပါ အရှင်မြတ်ရဲ့ စိတ်တော်ကတော့ ကောင်းမြတ်သန့်ရှင်း စင်ကြယ်တော်မူလျက် ရှိပါတယ်။ အရဟတ္တဖိုလ်နဲ့ နိဗ္ဗာန်ကို အာရုံပြုပြီး ဖလသမာပတ်ကိုလည်း မပြတ် ဝင်စားတော်မူလေ့ ရှိပါတယ်။

## ခေါင်းပါးတဲ့ သင်္ကန်း မပြတ်ဆောင်သလို နေစရာ၊ ထိုင်စရာမှာလည်း ရလွယ်တာနဲ့ပဲ ရောင့်ရဲတော်မူ

အခုဖော်ပြခဲ့တဲ့ ဂုဏ်ရည်တွေနဲ့ ပြည့်စုံတဲ့ မောဃရာဇမထေရ်ကို ဆောင်းတွင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားက–

"မောဃရာဇ… ဆီးနှင်းတွေကျပြီး အေးမြတဲ့ ဆောင်းကာလ ရောက်လာပြီ၊ ဒီလို အေးလှတဲ့ ဆောင်းရက်တွေမှာ သင် ဘယ်လို လုပ်နေမလဲ" လို့ မေးတော်မူပါတယ်။

ဒီအခါ အရှင်မောဃရာဇမထေရ်က ခုလို ဖြေကြားခဲ့ပါတယ်။

“မြတ်စွာဘုရား… တပည့်တော်နေတဲ့ မဂဓတိုင်းဟာ လယ်ယာစပါးတွေ ပေါများ ပြည့်စုံတဲ့ အရပ် ဖြစ်ပါတယ် ဘုရား။ ဆောင်းကာလရောက်တဲ့ အခါ ချမ်းသာစွာ နေလေ့ရှိကြတဲ့ ရဟန်းတွေဟာ သင့်တော်လျောက်ပတ်တဲ့ ကျောင်းတွေပေါ်မှာ ကောင်းမွန်တဲ့ သင်္ကန်း၊ အဝတ်အခင်း၊ ခြုံထည်တွေနဲ့ ချမ်းသာစွာ သီတင်းသုံးတော်မူကြသလို တပည့်တော်လည်း ကောက်ရိုးတွေ ခင်းထားတဲ့ အခင်းပေါ်မှာ အပေါ်ကလည်း ကောက်ရိုးတွေမိုး၊ ဘေးမှာလည်း ကောက်ရိုးတွေ ကာပြီး ကောက်ရိုးတွေ ဖုံးအုပ်ကာ နေပါမယ် ဘုရား”

အရှင်မြတ်ဟာ ရလွယ်တဲ့ နေရာထိုင်ခင်း အခင်းအကျင်းနဲ့ ရောင့်ရဲတင်းတိမ်ပြီး တရားနဲ့ မွေ့လျော်ကာ နေပါတယ် ဆိုတဲ့ အကြောင်း လျှောက်ထားခဲ့တာ ဖြစ်ပါတယ်။



လောကမှာ ‘ဒါန - ပေးကမ်းလှူဒါန်းတယ်’ဆိုတာ ပစ္စည်းဥစ္စာ ပေးကမ်းခြင်း အာမိသဒါနက တစ်မျိုး၊ တရားဟော တရားပြပေးတာ၊ စာသင်ပေးတာ၊ ဆုံးမပေးတာ ဆိုတဲ့ ဓမ္မဒါနက တစ်မျိုး ဆိုပြီး ဒါနနှစ်မျိုး ရှိပါတယ်။ ဒီနှစ်မျိုးထဲမှာ ဓမ္မဒါနက ပိုပြီး မြင့်မြတ်ပါတယ်လို့ မြတ်စွာဘုရားရှင် ဟောကြားတော်မူခဲ့ပါတယ်။

မှန်ပါတယ်၊ လောကမှာ ပစ္စည်းပေးရင် ရတဲ့ သူကလည်း သူ့ကို ပေးတာနည်းလို့ ဆိုပြီး မကျေနပ်တတ်ကြပါဘူး။ မရတဲ့သူကလည်း သူ့ကို မပေးကောင်းလား ဆိုပြီး ရန်မူတတ်ပြန်ပါတယ်။

ပစ္စည်းပေးတဲ့ အတွက်ကြောင့် ပစ္စည်းလည်း ကုန်သေး၊ အမုန်းလည်း ခံရသေး ဆိုတာ ဖြစ်တတ်ပါတယ်။

စာတတ်အောင် သင်ပေးတယ်၊ လိမ္မာရေးခြား ရှိအောင် ဆုံးမ သွန်သင်ပေးတယ်၊ စီးပွားရေး၊ ပညာရေး စတာတွေ တိုးတက်အောင် အကြံကောင်း ဉာဏ်ကောင်းပေးတယ်၊ တရား အားထုတ်တတ်အောင် ဟောပေးတယ်၊ နည်းညွှန်ပြပေးတယ် ဆိုရင်တော့ သွန်သင်ဆုံးမခံရတဲ့ သူတွေက အထူးတလည် ကျေးဇူးတင်ကြတယ်၊ ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြတယ်။ ဒီပုဂ္ဂိုလ်က တို့ကျေးဇူးရှင်ဆရာပဲ ဆိုပြီး ရင်ထဲ အသည်း ထဲမှာ အမြဲတမ်း အမှတ်ရနေတတ်ကြတယ်။

မြတ်စွာဘုရားရှင်က တရားဟောပေးလို့ တရားသိသွားကြတဲ့ ပုဂ္ဂိုလ်တိုင်းဟာ မြတ်စွာဘုရားအပေါ် 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ' ပါ ဘုရား' ဆိုပြီး အမြဲတမ်းကို ကိုးကွယ်ဆည်းကပ်ကြပါတော့တယ်။ ဒါကြောင့် ဓမ္မဒါနက ပိုမြင့်မြတ်တာ ဖြစ်ပါတယ်။

အခုလို ဒါန နှစ်မျိုး ရှိတဲ့ထဲက ဓမ္မဒါနက မြင့်မြတ်ပြီး အာမိသဒါနက ညံ့တဲ့ သဘောကို အရှင်မောဃရာဇမထေရ်ရဲ့ အကြောင်းအရာမှာပါတဲ့ ဗာဝရီဆရာကြီးရဲ့ ဖြစ်ရပ်က သက်သေခံ လျက် ရှိတယ် ဆိုတာ နားလည်သဘောပေါက်ကြမှာပါ။

နောက်ပြီး အရှင်မြတ်ကြီးရဲ့ အကြောင်းအရာတွေထဲမှာ အဇိတရသေ့က မြတ်စွာဘုရားကို စိတ်နဲ့မေးပြီး မြတ်စွာဘုရားက နှုတ်တော်နဲ့ ဖြေဆိုတော်မူတယ် ဆိုတာလည်း သတိထားမိကြမယ် ထင်ပါတယ်။

မြန်မာနိုင်ငံသာသနာ့သမိုင်းမှာလည်း ရဟန္တာလို့ ကျော်ကြား တော်မူခဲ့တဲ့ ဝေဘူဆရာတော်ကြီး တစ်ခါက ရန်ကုန် ရွှေတိဂုံဘုရား တောင်ဘက်မုခ်က အင်းလေးဓမ္မာရုံမှာ ကြွပြီး တရား ဟောတော်မူ ပါတယ်။ အဲဒီ တရားပွဲမှာ ဆရာတော်ရဲ့ တရားဟောပလ္လင် နားမှာ ထိုင်နေတဲ့ ရသေ့တစ်ပါးက ဝေဘူဆရာတော်ကြီးကို စိတ်နဲ့

မေးလျှောက်ပုံရတဲ့ အတွက် ဆရာတော်ကြီး အနုသန္ဓေ အဆက်အစပ် စကား မရှိဘဲ "တစ်ထိတည်း ထိနေတာကို တစ်သိတည်း သိနေရင် ဝိဇ္ဇာ ဖြစ်သဗျား" လို့ 'ဝိဇ္ဇာဖြစ်နည်း နိဿရည်း'ကို ဟောတော်မူခဲ့ တယ်ဆိုတဲ့အကြောင်း မဟာဗောဓိမြိုင်ဆရာတော်ကြီးက ဝေဘူဆရာ တော်နဲ့ ကိုယ်တွေ့ တွေ့ခဲ့ရပုံ ထူးခြားချက်များကို သူ့ရဲ့ 'ဘဝကန္တာရ သင်္ကေတကထာ' စာအုပ်မှာ မှတ်တမ်းတင်ခဲ့ပါတယ်။

ထူးခြားချက်တွေနဲ့ ပြည့်စုံတဲ့ ပုဂ္ဂိုလ်မြတ်ကြီးတွေမှာ စိတ်တော်နဲ့ မေးရင် သိနိုင်တယ် ဆိုတာ တကယ် ဖြစ်နိုင်ပါလားဆိုတာကိုလည်း အရှင်မောဃရာဇ မထေရ်မြတ်ကြီးရဲ့ အတ္ထုပ္ပတ္တိ ဇာတ်ကြောင်းက သက်သေထူပေးနေသလိုပါပဲ။

အရှင်မြတ်ကြီး အတ္ထုပ္ပတ္တိမှာ လာတဲ့ အတိုင်း မိမိတို့လည်း ဘဝထဲမှာ လက်တွေ့လိုက်နာ ကျင့်သုံးလိုကြတယ် ဆိုရင်တော့ မိမိတို့ ရဲ့ ပတ်ဝန်းကျင်ကို ပစ္စည်းအာမိသနဲ့ ကျေးဇူးပြုတာထက် ပိုမြင့်မြတ် တဲ့ ဓမ္မအလင်းရောင်၊ ပညာအလင်းရောင်နဲ့ ကျေးဇူးပြုပေးနေဖို့၊ သက်ရှိ၊ သက်မဲ့ လောကအားလုံးကို သုညသဘော ထင်လာအောင် ဝိဇ္ဇာဉာဏ်နဲ့ မပြတ် နှလုံးသွင်းခြင်းဖြင့် သံသရာ့ဦးခေါင်း အဝိဇ္ဇာကို တစ်စ တစ်စ ကွဲအောင် ခွဲပြီး ပယ်သတ်ဖို့ပါပဲလေ။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၅၆။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၅၉၈။
၃။ သုတ္တနိပါတပါဠိတော်၊ ၄၄၇။
၄။ သုတ္တနိပါတအဋ္ဌကထာ၊ ၂။ ၂၉၁-၃၁၈။
၅။ ထေရဂါထာပါဠိ၊ ၂၆၀။
၆။ ထေရဂါထာအဋ္ဌကထာ၊ ၁။ ၄၂၀။

## ဗုဒ္ဓခေတ်
## တစ်မိုးအောက် တစ်ယောက် ပုဂ္ဂိုလ်ကျော်များ
## တတိယတွဲ ရိုက်နှိပ်ရန်အတွက်
## မ တည် လှူဒါန်းကြသည့် အလှူရှင်များ

၁။ ရဟန်းဒါယကာ ရဲမှူးကြီး သူရတင်လှ (ငြိမ်း) +
ဒေါက်တာမြမြလွင်၊ သားကြီး
Capt ကောင်းမြတ်သူ + မမြတ်ဆုမွန်အောင်၊
မြေး ခေတ်ကြယ်စင်ထွဋ်၊
သားငယ် မောင်ကောင်းစည်သူ + မခိုင်ဇာသန့်
ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ ၁,၁၀၀,၀၀၀

၂။ ဦးကြည်တိုး+ဒေါ်သန်းငြိမ်း၊ (ညီမ)မနီ၊
(သား) ကိုကျော်ဝဏ္ဏ၊
(သမီး) ကိုမိုက်ကယ်+မစုကြည်ငြိမ်း၊
(သား) ကိုစည်သူ+မအေးအေးမြင့်၊
(သား)ကိုကြည်ဖြူ+မငယ်ကြည်ကြည်သိန်း၊
(မြေး)စုကြည်ဖြူ၊ ဖွဲ့ကြည်ဖြူ မိသားစု၊
Fremont, C.A, U.S.A. ၁,၀၀၀,၀၀၀

၃။ ကိုမောင်ခင်+မတင်ညွန့်၊ (သမီး) ရည်ရည်မွန်၊
(သား) ကိုရဲလင်းအောင်+မအိမွန်ကျော်၊
(သား)ကိုအေးချမ်းအောင်၊

(သမီး)မထက်ထက်ဝေမွန်၊ (မြေး) သွန်းသီရိထက်၊
ဇပရယ်လင်းအိချို၊ အေးချမ်းအောင် အိမ်ဆောက်ပစ္စည်း
ရောင်းဝယ်ရေးမိသားစု၊ ရန်အောင်မြို့၊
ပျော်ဘွယ်မြို့နယ်။ ၅၀၀,၀၀၀

၄။ ကွယ်လွန်သူ ခင်ပွန်း ဦးတင်မောင်ထွန်းအား
ရည်စူး၍ ဒေါ်ကြင်အေး မိသားစု၊ ကမာရွတ်၊
ရန်ကုန်။ ၅၀၀,၀၀၀

၅။ ကိုသက်အောင်ဇော်+မရွှေစင်ထွန်း၊
သမီး Britney Zaw (ခ) မဆုရွှန်းလဲ့ထွန်း၊
Fremont, C.A, U.S.A. ၃၀၀,၀၀၀

၆။ ကိုကျော်သူ+မမြတ်နှင်းပွင့်ထွန်း၊
သမီး မပွင့်သူသူစံ၊ မအိရွှန်းလဲ့ဖြူ မိသားစု၊
ရန်ကုန်။ ၂၀၀,၀၀၀

၇။ ရဟန်းဒါယိကာမကြီး
ဒေါ်ခင်လင်းအောင် (ခ) ဒေါ်ညို မိသားစု၊
Fremont, C.A, U.S.A. $ ၃၀၀

၈။ ရဟန်းဒါယကာ ဦးကျော်သန်း+
ရဟန်းဒါယိကာမ နန်းခမ်းကော် မိသားစု၊
Fremont, C.A, U.S.A. $ ၂၀၀

၉။ ကွယ်လွန်သူ မိခင်ကြီး (ဒေါ်ချွန်ရင်)ကို ရည်စူး၍
ဒေါ်ရီရီအေး၊ သမီး မသင်းသင်း မိသားစု၊
Daly City, C.A, U.S.A. $ ၂၀၀

၁၀။ ကွယ်လွန်သူ မိဘများဖြစ်ကြသော
ဦးအောင်ခန့်+ဒေါ်သန်းသန်းတို့ကို ရည်စူး၍
သား၊ သမီး၊ မြေး မိသားစု။ မန္တလေးမြို့။ $ ၂၀၀

၁၁။ ကိုအောင်ထူးဝင်း+ဒေါက်တာအေးအေးမိုး၊
သမီး မကြယ်စင်ဝင်း၊ Gilroy, C.A, U.S.A. $ ၂၀၀

၁၂။ ကိုမင်းသွေး+မချိုချိုအောင် မိသားစု၊
San Francisco, C.A, U.S.A. $ ၂၀၀

၁၃။ ကိုဇော်လင်းထိုက်+မအေးအေးသွယ် မိသားစု၊
Daly City, C.A, U.S.A. $ ၂၀၀

၁၄။ ကွယ်လွန်သူ မိဘများဖြစ်ကြသော
ဦးအောင်ခန့်+ဒေါ်သန်းသန်းတို့ကို ရည်စူး၍
သမီး ဒေါ်မြင့်မြင့်သိန်း (ခ) ဒေါ်တူး၊
San Francisco, C.A, U.S.A. $ ၂၀၀

၁၅။ ဒေါ်မာဂရက်လင်း၊ သမီး Bee Bee Linn၊
C.A. U.S.A. $ ၇၅

၁၆။ ဦးကျော်သောင်း+ဒေါ်အေးအေးလွင်၊
သမီး မအေးအေးကျော့ မိသားစု၊
American Canyon, C.A, U.S.A. $ ၁၁၀

၁၇။ စီစီ၊ နီနီ၊ မီမီ၊ သီသီ ညီအစ်မတစ်စုနှင့်
တူမ ဆုလှဲ့ဝင်းထွန်း၊ သမီး Victoria မောင်မောင်
(ခ)ပြည့်ပြည့် မိသားစု၊ ရန်ကုန်။
Fremont, C.A, U.S.A $ ၁၀၀

၁၈။ ဦးဌေးဌေး ကို ရည်စူး၍ သီလရှင် ဆရာကြီး
ဒေါ်ဧသိကာ နှင့် မိသားစု၊ Alabama, U.S.A. $ ၁၀၀

၁၉။ ဦးကျော်မြင့်(ခ)Richard+ ဒေါ်မြမြ၊
သား Edward Lee၊ သမီး Monica Lee မိသားစု၊
San Francisco, C.A, U.S.A. $ ၁၀၀

၂၀။ ဦးအောင်သန်း+ဒေါ်သိန်းလှ၊
သမီး မခင်ခင်ဟန် မိသားစု၊
Daly City, C.A, U.S.A. $ ၁၀၀

၂၁။ ကိုဇော်လွင်+မခင်မာရီ မိသားစု၊
Daly City, C.A, U.S.A. $ ၁၀၀

၂၂။ ဦးသန့်စင်+ဒေါ်ညွန့်ညွန့်ကြည် မိသားစု၊
Fremont, C.A, U.S.A. $ ၁၀၀

၂၃။ ဦးဗူးဟန်+ဒေါ်မွေးမွေး မိသားစု၊
Fremont, C.A, U.S.A. $ ၁၀၀

၂၄။ မခင်လှကြူ+မအေးမြခိုင် မိသားစု၊
Santa Clara, C.A, U.S.A. $ ၁၀၀

၂၅။ Noeline Kyi မိသားစု၊
San Francisco, C.A, U.S.A. $ ၁၀၀

၂၆။ ဒေါ်သဲသဲ နှင့် သား၊ သမီး၊ မြေး မိသားစု၊
San Bruno, C.A, U.S.A. $ ၁၀၀

၂၇။ ဒေါ်သန်းဆွေ မိသားစု၊
Daly City, C.A, U.S.A. $ ၁၀၀

၂၈။ ဦးသက်ဦး+ဒေါ်ငွေးငွေး၊ သား ဇော်မင်းဖြိုး
မိသားစု၊ San Francisco, C.A, U.S.A. $ ၅၀

၂၉။ ဦးရစ်ချတ်+ဒေါ်ဘေဘီ မိသားစု၊
Fremont, C.A, U.S.A. $ ၅၀

၃၀။ ဒေါ်ကြူကြူဝင်း မိသားစု၊
Fremont, C.A, U.S.A. $ ၅၀

၃၁။ ကိုကျော်မိုးအောင်+မသန်းသန်းဝင်း မိသားစု၊
Fremont, C.A, U.S.A. $ ၅၀

၃၂။ ကိုမျိုးလွင်၊ Fremont, C.A, U.S.A. $ ၅၀

၃၃။ မိဘများဖြစ်ကြသော ဦးရဲကွမ်းချို+ဒေါ်ခင်ညွန့်တို့ကို
ရည်စူး၍ သမီး မထွေးထွေး၊
Millbrae, C.A, U.S.A. $ ၃၀

၃၄။ ကိုမင်းမင်းစိုး+မသင်းသင်းခိုင် မိသားစု၊
ပြည်သာယာ ၁၂-လမ်း၊ ပျော်ဘွယ်မြို့။ ၂၀၀,၀၀၀

၃၅။ ကိုဦး+မလွင်မာ၊ သား မင်းသန့်ကျော် မိသားစု၊
မန္တလေးမြို့။ ၂၀၀,၀၀၀

၃၆။ ဦးဇေး(ဂုဏ်ရောင်)၊ ကမ္ဘောဇလမ်း၊ သစ်တောရပ်၊
တောင်ကြီးမြို့။ ၂၀၀,၀၀၀

၃၇။ မရီရီခင်၊ အိုးဘိုလမ်း၊ ပုဇွန်တောင်၊
ရန်ကုန်မြို့။ ၁၀၀,၀၀၀

၃၈။ မိခင်ကြီး ဒေါ်ရွှေတော် အမှူးထား၍
သမီး ကိုမိုးနှင်း+မခင်မာဝင်း၊
သား မောင်ဉာဏ်ထက်အောင်၊
A-1 ရွှေဆိုင် မိသားစု၊ လှိုင်သာယာ၊ ရန်ကုန်မြို့။
၁၁၀,၀၀၀

၃၉။ ကိုတင်မောင်+မနွဲ့ မိသားစု၊ လျှော်ဖြူကုန်းရွာ၊
ပျော်ဘွယ်မြို့။ ၁၀၀,၀၀၀

၄၀။ ကိုတင်မျိုးဇော်+မသီတာဝင်း၊ သား ဇွဲဆက်အောင်၊
A-1 ရွှေဆိုင်၊ လှိုင်သာယာ၊ ရန်ကုန်မြို့။ ၁၀၀,၀၀၀

၄၁။ ဆရာတော် ဦးစန္ဒောဘာသ၊ မိုးကုတ်ရိပ်သာကျောင်း၊
အလယ်ချောင် ကျေးရွာ၊ ရှာငံမြို့နယ်၊
ရှမ်းပြည်နယ်တောင်ပိုင်း။ ၁၀၀,၀၀၀

၄၂။ ဦးဇော်လွင်+ဒေါ်ချိုချိုလွင်၊
သား သော်လွင်အောင် + ခိုင်ငြိမ်းငြိမ်းသူ၊
မြေး မေဘုန်းမိုးသွန်း၊ မေလဝန်းအိမ် မိသားစု၊
ဗဟန်း၊ ရန်ကုန်မြို့။ ၁၀၀,၀၀၀

၄၃။ ရဟန်းဒါယိကာမကြီး ဒေါ်နွဲ့နွဲ့ မိသားစု၊
ရေအေးကွင်းရပ်၊ တောင်ကြီးမြို့။ ၁၀၀,၀၀၀

၄၅။ ကိုဝင်းလွင်ဦး+မခင်ဝင်းရီ၊ သမီး မမြတ်ဆုမွန်၊
မစိုးလဲ့လဲ့နိုင်၊ သားမောင်ကျော်ထက် မိသားစု၊
ငြိမ်းငြိမ်းချမ်းချမ်း မိသားစု၊ တောင်ကြီး။ ၁၀၀,၀၀၀

၄၆။ ဦးသိန်းဆောင်ကို ရည်စူး၍ ဇနီး ဒေါ်မြမွေး၊
သမီး မမြင့်မြင့်ကြည်၊ မခင်သူမြင့် မိသားစု၊
ရွာသစ်ရွာ၊ နတ်မောက်မြို့နယ်။ ၁၀၀,၀၀၀

၄၄။ မဥမ္မာသောင်း (မွေးနေ့အလှူ)၊ ဒဂုံမြို့နယ်၊
ရန်ကုန်မြို့။ ၅၀,၀၀၀

၄၇။ ကွယ်လွန်သူ ဦးဘကြင်+ဒေါ်သန်းကြည်၊
မခင်ဝင်းမာတို့အား ရည်စူး၍ သား၊ သမီး၊ မြေး
မိသားစု၊ အေးသာယာ၊ တောင်ကြီးမြို့။ ၂၀၀,၀၀၀

၄၉။ ရဟန်းမယ်တော်ကြီး ဒေါ်ချိုချိုနှင့်
သား၊ သမီး၊ မြေး၊ မြစ် မိသားစု၊
ကန်ရှေ့ရပ်၊ တောင်ကြီးမြို့။ ၂၀၀,၀၀၀

၄၈။ မသီတာမိုး (ခ) မမိုး၊
ရွှေခနေ ရိုးရာပစ္စည်း အရောင်းဆိုင်၊
မိန်းမရဲသခင်မတောင်၊ ရွာငံမြို့နယ်။ ၅၀,၀၀၀